# ဗုဒ္ဓကျမ်းလာ နတ်ဒေဝါများ

ဓမ္မာစရိယဦးအေးနိုင် (ဘီအေ)



ဒုတိယအကြိမ်

## ပုံနှိပ်မှတ်တမ်း

၂၀၀၁ ခုနှစ်၊ စက်တင်ဘာလ၊ ဉာဏ်လင်းစာပေ (ပထမအကြိမ်)

၂၀၁၀ ခုနှစ်၊ ဩဂုတ်လ၊ အလင်းသစ်စာပေ (ဒုတိယအကြိမ်)

အုပ်ရေ - ၁၀၀၀

တန်ဖိုး - ၄၀၀၀ ကျပ်

သာသနာရေးဦးစီးဌာန၊ သာသနာရေးဝန်ကြီးဌာနမှ မှတ်ပုံတင်အမှတ် - ၀၃၈၄၃/၀၂၄၀၅ ဖြင့် ကာလာရုန်ပုံနှိပ်တိုက်၊ အမှတ်(၁၈၄)၊ ၃၁ လမ်း၊ ရန်ကုန်မြို့တွင် ရိုက်နှိပ်ခွင့်ပြုသည်။

မျက်နှာဖုံးပလင် - Eagle၊ မျက်နှာဖုံးဒီဇိုင်း - ဇော်လင်းဝဏ္ဏ၊ အတွင်းပလင် - အောင်ဇော်(ပုံရိပ်ရှင်)၊ ကွန်ပျူတာစာစီ - အလင်းသစ်၊ စာအုပ်ချုပ် - မျိုးမျိုးစာအုပ်ချုပ်လုပ်ငန်း တို့တွင် ဆောင်ရွက်သည်။

အလင်းသစ်စာပေ

အခန်း(၄၀၄)၊ တိုက်(၆)၊ ညောင်တန်းအိမ်ရာ၊

ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

ဖုန်း-၂၀၄၀၉၇၊ လိုင်းခွဲ - ၂၅၄၊ ၀၉-၈၇-၀၃၈၄၁ က ထုတ်လုပ်ဖြန့်ချိသည်။

http://www.ahlinthitbooks.com

## မာတိကာ

အလင်းသစ်စာပေ

## နိဒါန်း

ယခုခေတ်မှာ ဗုဒ္ဓဘာသာရေးဘက်တွင် စာရေးသူတို့ ငယ်စဉ်က ခေတ်နှင့် လုံးဝ ခြားနားသွားပေသည်။

အထူးသဖြင့် ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် စာပေ ပရိယတ္တိ သင်ကြားရေးဘက်၌ သိသိသာသာ တိုးတက်လာသကဲ့သို့ တရားကျင့်ကြံကြိုးကုတ် အားထုတ်ခြင်း ပဋိပတ္တိဘက်၌လည်း ထူးထူးခြားခြား တိုးတက်လာခဲ့ပေသည်။

တရားရိပ်သာများ အမြောက်အမြားပေါ်လာခဲ့၍ ထိုတရားရိပ်သာများတွင် အမျိုးသား၊ အမျိုးသမီး ယောဂီပုဂ္ဂိုလ်များနှင့် ပြည့်နှက်နေသကဲ့သို့ ဘုရားကြို၊ ဘုရားကြားများ၌ စိပ်ပုတီးနှင့် တရားပွားများနေကြသည့် လူကြီး၊ လူငယ်တို့ကိုလည်း တွေ့ရပေသည်။

လူကြီးပိုင်းမျှသာ မဟုတ်။ လူငယ်ပိုင်း၊ လူလတ်ပိုင်းတို့ကပါ ဗုဒ္ဓဘာသာရေးကို စိတ်ပါဝင်စားလာကြသဖြင့် အခြေအနေအရ ဘာသာရေးစာစောင်များလည်း အမြောက်အမြား ထွက်ပေါ်လာကြသည်။

ထွက်ပေါ်လာသည့် ဘာသာရေးစာစောင်များကိုလည်း လမ်းဘေးဈေးသည်များကပါ ဖတ်ရှုလေ့လာကြသည်ကို တွေ့ရပေသည်။

ဘာသာရေးကိုလည်း အလေးပေးကာ ဆွေးနွေးလာကြသည်။ မသိသည့်အရာ၊ သံသယဖြစ်နေသည့် အကြောင်းအရာများကိုလည်း ဘာသာရေးဘက်တွင် ကျွမ်းကျင်သည့် ပညာရှင်များထံ ချဉ်းကပ်မေးမြန်းလာကြသည်။

## အနီးစခန်း ဆရာတော်ကြီး၏ အတွေ့အကြုံ

စာရေးသူ အမေးခံရဆုံးသော မေးခွန်းမှာ နတ်၊ ဗြဟ္မာများ အကြောင်း ဖြစ်ပါသည်။

"ဗုဒ္ဓဘာသာမှာ နတ်ဗြဟ္မာဆိုတာ တကယ် ရှိပါသလား။ နတ်၊ ဗြဟ္မာတွေကို မြင်ဖူးသူ တစ်ဦးတစ်ယောက်မျှ မရှိလို့ နတ်၊ ဗြဟ္မာရှိတယ်ဆိုတာကို ဘယ်လို ယုံရမှာလဲ"

စသည့် မေးခွန်းများ ဖြစ်ပါသည်။

မှန်ပါသည်။

နတ်၊ ဗြဟ္မာများနဲ့ ပတ်သက်၍ လူဝတ်ကြောင်များသာ သံသယဖြစ်ကြသည် မဟုတ်။ တစ်ချိန်သောအခါက ဗုဒ္ဓသာသနာ နေရောင်၊ လရောင်ပမာ ထွန်းလင်းဖြာခဲ့သည့် သီဟိုဠ် (သီရိလင်္ကာ) နိုင်ငံသား ရဟန်းတော်များ အချို့ပင် မယုံကြည်ကြသည်ကို သိရှိရပါသည်။

ဤအချက်နှင့်ပတ်သက်၍ စစ်ကြိုခေတ် ဗြိတိသျှအစိုးရလက်ထက်က ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ အနီးစခန်း ဆရာတော်ဘုရားကြီး၏ အတွေ့ အကြုံကလေးတစ်ခုကို တင်ပြပါမည်။

ထိုစစ်ကြိုခေတ်က သီဟိုဠ်(သီရိလင်္ကာ) နိုင်ငံသား ရဟန်းတော်တစ်ပါးသည် အိန္ဒိယနိုင်ငံ တက္ကသိုလ်တစ်ခုမှ အမ်(မ်)အေ အောင်ခဲ့သဖြင့် ရန်ကုန်တက္ကသိုလ်မှာ ဆရာလုပ်ခွင့်ရလျှင် လုပ်ရန်ကြံရွယ်ပြီး ရန်ကုန်မြို့ သရက်တောကျောင်းတိုက် ဇေယျသိင်္ဂီတိုက်ကျောင်းမှာ ခေတ္တ တည်းခိုနေပါသည်။

ထိုအချိန်တွင် စစ်ကိုင်းတောင်ရိုးမှ အနီးစခန်းဆရာတော်ဘုရားကလည်း သာသနာရေးကိစ္စတစ်ခုနှင့် ရန်ကုန်ကြွလာပြီး ထိုဇေယျသိင်္ဂီကျောင်း၌ပင် တည်းခိုနေဆဲ ဖြစ်ပါသည်။

အနီးစခန်းဆရာတော်မှာ ပိဋကတ်ကျမ်းဂန်များကို တတ်မြောက်ကျွမ်းကျင်သည့်အပြင် အင်္ဂလိပ်ဘာသာကိုလည်း ကျွမ်းကျွမ်းကျင်ကျင် ရေးတတ် ပြောတတ်သည့် ဆရာတော်တစ်ပါး ဖြစ်ပါသည်။

တစ်နေ့တွင် အနီးစခန်းဆရာတော်နှင့် သီဟိုဠ်(သီရိလင်္ကာ) ရဟန်းတော်တို့ အင်္ဂလိပ်လို အာလာပသလ္လာပ စကားပြောနေကြစဉ်





ဘာသာရေးအကြောင်း၊ နတ်ဗြဟ္မာတွေအကြောင်းကို စကားစပ်မိသွားကြတော့သည်။

ထိုအခါ သီဟိုဠ် (သီရိလင်္ကာ) ရဟန်းတော်က -

"အလကားပါ၊ နတ်ဗြဟ္မာတွေဆိုတာ တကယ် မရှိပါဘူး"

ဟု ပြောလိုက်သတဲ့။

"ဒီလို နတ်တွေ၊ ဗြဟ္မာတွေ မရှိဘူးဆိုရင် ထိုထို ဒေသနာတော်တွေမှာ မြတ်စွာဘုရားက နတ်တွေ၊ ဗြဟ္မာတွေ အကြောင်း ထည့်ပြီး ဘာဖြစ်လို့ ဟောတော်မူသလဲ"

ဟု အနီးစခန်းဆရာတော်က ပြန်မေးလိုက်ပါသည်။

သီဟိုဠ်(သီရိလင်္ကာ) ရဟန်းတော်က -

"ဘုရားပွင့်တော်မူခဲ့တဲ့ အချိန်မှာရော၊ အခုအချိန်မှာရော အိန္ဒိယတိုင်းသားတွေဟာ နတ်ဗြဟ္မာတွေကို သိပ်ယုံကြည်နေကြတယ်။ ဒါကြောင့် တရားဟောလို့ မဖြစ်မှာစိုးတဲ့အတွက် ဘုရားက နတ်တွေ၊ ဗြဟ္မာတွေကို ထည့်ပြီး ဟောထားတာပါ"

ဟု ပြန်ဖြေသတဲ့။

အနီးစခန်းဆရာတော်က -

"ဒီလိုဆိုရင် တပည့်တော်တို့ ပါဠိတော်မှာ -

ဗုဒ္ဓါ-မြတ်စွာဘုရားတို့သည်၊ အဒ္ဒေ့ဇ္ဈဝစနာ-နှစ်ခွန်းသောစကား ရှိတော်မမူကြကုန်။ အဒ္ဒေ့ဇ္ဈ ဝစနာဗုဒ္ဓါ-ဘုရားဆိုတာ ဘယ်တော့မှ မလိမ်ဘူး။ နှစ်ခွန်းသောစကားကို မဆိုဘူးလို့ ဟောထားပါတယ်။ အဲဒါကို ကိုယ်တော် လက်ခံရဲ့လား"

လို့ မေးသည့်အခါ သီဟိုဠ်ရဟန်းတော်က ဘာမှ မပြောတော့ဘဲ နှုတ်ဆိတ်နေပါသည်။

အနီးစခန်းဆရာတော်က -

"တပည့်တော်တို့၊ ကိုယ်တော်တို့ ဘုရားဟာ လိမ်တတ်သလား၊ ညာတတ်သလား"

လို့ ထပ်မေးမြန်းသည့်အခါ သီဟိုဠ်ရဟန်းတော်က မေးသည်ကို မဖြေဘဲ စိတ်ဆိုးပြီး -

"ကိုယ်တော်က တပည့်တော်ကို ဘယ့်နှယ်ထင်လို့ မေးတာလဲ၊ တပည့်တော် အမ်(မ်)အေ အောင်လာတာ"

လို့ ဒေါသသံနဲ့ ပြန်ပြောသတဲ့။

အနီးစခန်း ဆရာတော်က –

"ကိုယ်တော် အမ်(မ်)အေ အောင်လာတာ တပည့်တော် သိပါတယ်။ တပည့်တော်မေးတာသာ ဖြေစမ်းပါ။

ကိုယ်တော် စိတ်ဆိုးဖို့ မလိုပါဘူး။ မဖြေချင်လည်း နေတာပေါ့။ ကိုယ်တော်ပြောတာက တပည့်တော်တို့ဘုရား အသရေယုတ်နေလို့ပါ။ မဟုတ်ပါဘူး။ နတ်တွေ၊ ဗြဟ္မာတွေဆိုတာ ရှိပါတယ်။ ဒီလို မလုပ်ပါနဲ့"

လို့ ဆိုသည့်အခါ သီဟိုဠ်ရဟန်းတော်မှာ အလွန်စိတ်ဆိုးသွားပြီး အချင်းချင်းခွဲကြသည်အထိ တစ်ပါးနှင့်တစ်ပါး လုံးဝ စကားမခေါ်မပြောကြတော့သည့်အကြောင်းကို အနီးစခန်းဆရာတော် မိန့်တော်မူဖူးပါသည်။

ဤကဲ့သို့ သာသနာ့ဝန်ထမ်း ရဟန်းတော်များ အချို့ပင် နတ်၊ ဗြဟ္မာတွေနဲ့ပတ်သက်ပြီး အယူအဆတစ်မျိုးဖြစ်နေကြရကား ဘာသာရေး အခြေခံ အားနည်းကြသည့် ဗုဒ္ဓဘာသာဝင် လူသာမန်များမှာမူ ပြောဖွယ်ရာ မရှိပါချေ။

ထို့ကြောင့် အချို့ ပုဂ္ဂိုလ်များမှာ ဗုဒ္ဓဘာသာဟု အမည်ခံနေကြသော်လည်း ပညာလွန်သော်တွန့် ဆိုသကဲ့သို့ ပညာတု၊ ပညာယောင်များ လွန်ကဲကြသဖြင့် ယုံကြည်မှု သဒ္ဓါတရား တွန့်ဆုတ်သွားကာ ၃၁ ဘုံ ရှိကြောင်း ဘုရားရှင်ကိုယ်တိုင် ဟောကြားထားသည်ကိုပင် တော်လှန်ပြီး "၃၁ ဘုံဆိုတာမရှိ" ဟု ဆိုဝံ့လာခဲ့ကြသည်။

ဤသို့ အပါယ်လေးရပ်၊ ခြောက်ထပ်နတ်ရွာ၊ ဗြဟ္မာဘုံနှစ်ဆယ် မရှိဟု ဆိုသဖြင့် တမလွန်လောကခေါ်သည့် နောက်ဘဝမရှိ (နတ္ထိ ပရ လောကော) ဟု ယူရာရောက်သည့်ပြင် ငရဲ၊ ပြိတ္တာ၊ နတ်၊ သိကြား၊ ဗြဟ္မာ ဟူသော ဥပပါတ်သတ္တဝါမျိုးမရှိ (နတ္ထိ သတ္တာ ဩပပါတိကာ) ဟူသော အယူသို့လည်း သက်ဝင်သွားရကား မဇ္ဈိမသင်္ဂါယနာပါဠိတော် စသည်တို့၌ ဘုရားရှင် ဟောကြားထားသည့် နတ္ထိကဒိဋ္ဌိ အယူမှားမျိုးကို ယူသူများ ဖြစ်သွားပေတော့၏။





## ဟိန္ဒူဗြာဟ္မဏ စာရေးဆရာအချို့၏ အယူအဆ

အချို့ ပညာရှင်များကလည်း နတ်ဗြဟ္မာများကို အထွတ်အထိပ်ထားကာ ကိုးကွယ်နေကြသည့် ဟိန္ဒူဗြာဟ္မဏ စာရေးဆရာများ၏ ထေရဝါဒဗုဒ္ဓဝင်တွင် ဘုရားရှင်က နတ်ဗြဟ္မာများအပေါ် အနိုင်ယူထားချက်ကို မနှစ်သက်နိုင်သည့် အတွေးအခေါ်များကို အခြေခံကာ တော်လှန်တွေးခေါ်ယူဆချက်များကို မြန်မာတို့၏ ထေရဝါဒ ဗုဒ္ဓဝင်လောကသို့ သွတ်သွင်းလာခဲ့ကြပေသည်။

ဥပမာပြရလျှင် –

မာရ်နတ်ဆိုသည်မှာ ကောင်းသောအလုပ်ကို လုပ်ရာ၌ ဖျက်လိုဖျက်ဆီးလုပ်သည့် မိမိအတွင်းစိတ်ကို တင်စားခေါ်ထားခြင်းဖြစ်လေသည် ဟူ၍ လည်းကောင်း၊

ဗုဒ္ဓအား တရားဟောရန် တိုက်တွန်းတောင်းပန်သည့် သဟမ္ပတိဗြဟ္မာ ဆိုသည်မှာလည်း တကယ့်ဗြဟ္မာ့ပြည်က ဗြဟ္မာကြီး မဟုတ်ပေ။ ကောင်းသောအလုပ်ကိုလုပ်ရန် လှုံ့ဆော်အားပေးသည့် မိမိ၏အတွင်းစိတ်ကို တင်စားခေါ်ထားခြင်း ဖြစ်လေသည် ဟူ၍လည်းကောင်း ရေးသားထားသည့် ဟိန္ဒူစာအုပ်ကို ဘာသာပြန်ထားသည့် စာအုပ်မျိုး ဖြစ်ပေသည်။

ဤကဲ့သို့သော တွေးခေါ်ယူဆချက်များမှာ နတ်ဗြဟ္မာများကို ဦးထိပ်ထား၍ ကိုးကွယ်နေကြသည့် ဟိန္ဒူစာရေးဆရာများအဖို့ မဆန်းပါ။ ဆန်းသည်မှာ မြန်မာ့ဗုဒ္ဓဝင်အစဉ်အလာကို တော်လှန်ရေးသားချက်များကို 'နှစ်ဖက်ကန်း ပြောတာကို တစ်ဖက်ကန်းက ယုံ' ဆိုသကဲ့သို့ ဗုဒ္ဓဘာသာရေးဘက်တွင် တစ်ဖက်ကန်းနေကြသည့် ဗုဒ္ဓဘာသာဝင် လူငယ်အချို့က လက်ခုပ်တီး၍ ချီးကျူးကြခြင်းပင် ဖြစ်ပါသည်။

ဤဟိန္ဒူဗြာဟ္မဏ စာရေးဆရာတို့၏ တွေးခေါ်ကြံဆချက်များသည် ဒီပဲယင်းဆရာတော်၊ ပထမ ငါးခုန်ဆရာတော်၊ ကျီးသဲလေးထပ်ဆရာတော်များမှသည် ယခုခေတ် မင်းကွန်း တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ဘုရားကြီးအထိ ကျမ်းဂန်တတ် ဆရာတော်ဘုရားကြီးတို့၏ မြန်မာစကားပြေ ဗုဒ္ဓဝင်ကျမ်းကြီးများလာ နေမဝင်မီ ဝသဝတ္တီမာရ်နတ်ကို အောင်မြင်တော်မူခန်းနှင့် သဟမ္ပတိ ဗြဟ္မာမင်းကြီး တောင်းပန်ခန်းတို့ကို

ဖယ်ရှားပစ်လိုက်သည့်အပြင် သင်္ဂါယနာခြောက်တန်တင်ထားသည့် သဂါထာဝဂ္ဂသံယုတ်လာသုတ်များနှင့် ဝိနည်းမဟာဝါ ပါဠိတော်၊ မာရကထာ ဗြဟ္မယာစနကထာ စသည့် ဘုရားဟောပါဠိတော်ကြီးများကို တော်လှန်လိုက်ရာ ရောက်ပေသည်။

ဤသည်တို့မှာ နတ်ဗြဟ္မာတို့နှင့် ပတ်သက်၍ ရဟန်းပုဂ္ဂိုလ်အချို့၊ လူပုဂ္ဂိုလ်အချို့တို့၏ ထင်မြင်ယူဆချက်ကို တင်ပြခြင်းဖြစ်ပါသည်။

## နတ်ဗြဟ္မာများနှင့် နတ်ပြည်၊ ဗြဟ္မာပြည်များ အမှန်ရှိသည်

အမှန်စင်စစ်အားဖြင့် ဘုရားဟော ဒေသနာများတွင် နတ် ဗြဟ္မာများနှင့် ပတ်သက်၍ ဟောကြားထားသည့် အကြောင်းအရာများမှာ အလွန်များပြားလှပါသည်။

ပိဋကသုံးသွယ်၊ နိကာယ်ငါးရပ်တွင် နတ်ဗြဟ္မာများ အကြောင်း မပါသော ပိဋကနိကာယ် ဟူ၍ မရှိပါချေ။

သဂါထာဝဂ္ဂ သံယုတ် ပါဠိတော်တွင် ဒေဝတာသံယုတ်၊ ဒေဝပုတ္တသံယုတ်၊ သက္ကသံယုတ်၊ မာရသံယုတ်၊ ဗြဟ္မာသံယုတ်များ၌လည်းကောင်း၊ သဠာယတနဝဂ္ဂသံယုတ် ပါဠိတော်နှင့် သုတ်မဟာဝါ ပါဠိတော်တို့၌ သက္ကဒါနသုတ်နှင့် မာရယာစနကထာ၊ မူလပဏ္ဏာသ ပါဠိတော် ဗြဟ္မနိမန္တနိကသုတ်တို့၌ လည်းကောင်း၊ သုတ်မဟာဝါ ပါဠိတော် မဟာသမယသုတ်၊ သုတ်ပါထေယျ ပါဠိတော် အာဋာနာဋိယသုတ်နှင့် ဝိမာနဝတ္ထုပါဠိတော်တို့၌ လည်းကောင်း နတ်၊ သိကြား၊ မာရ်နတ်၊ ဗြဟ္မာများအကြောင်းကို အခန်းဖွင့်ကာ ပြည့်ပြည့်စုံစုံ ဟောကြားတော်မူထားပါသည်။

အဘိဓမ္မပိဋက ဝိဘင်းပါဠိတော် ဓမ္မဟဒယဝိဘင်း၌မူ နတ်နှင့်ပတ်သက်၍ လောကတွင် သမ္မုတိနတ်၊ ဥပပတ္တိနတ်၊ ဝိသုဒ္ဓိနတ် ဟူ၍ သုံးမျိုးရှိသည်။ ထိုတွင် ဥပပတ္တိနတ်ဆိုသည်မှာ စတုမဟာရာဇ်နတ်ဘုံ စသည်တို့၌ နေထိုင်ကြသည့် နတ်သား၊ နတ်သမီးတို့ ဖြစ်ကြ၏။

နတ်ပြည်မှာ စတုမဟာရာဇ် စသည်ဖြင့် ခြောက်ထပ်ရှိ၍ ဗြဟ္မပါရိသဇ္ဇာဘုံ စသည်ဖြင့် ဗြဟ္မာ့ဘုံနှစ်ဆယ် ရှိသည်။





မည်သည့်နတ်၊ မည်သည့်ဗြဟ္မာတို့သည် နတ်တို့အနေဖြင့် အရေအတွက် မည်မျှ၊ လူတို့ အနေဖြင့် အရေအတွက် မည်မျှ အသက်ရှည်ကြသည်။ မည်သည့် ကုသိုလ်ကောင်းမှုကိုပြုလုပ်လျှင် မည်သည့်နတ်ဘုံ၊ ဗြဟ္မာဘုံတို့ကို ရောက်နိုင်သည် စသည်ဖြင့် နတ်၊ ဗြဟ္မာတို့အကြောင်းကို တခမ်းတနား အသေးစိတ် ဟောကြားထားပေသည်။

ထို့ပြင် ကောသလတိုင်း စဋ္ဌလိကပ္ပရွာသား လောကီကျမ်းတတ်ပညာရှင် သင်္ဂါရဝလုလင် မေးလျှောက်သဖြင့် နတ် ဆိုသည်မှာ အမှန်တကယ်ရှိကြောင်း ထူးထူးခြားခြား တိုက်ရိုက်ဟောထားသည်ကိုလည်း မဇ္ဈိမပဏ္ဏာသပါဠိတော် သင်္ဂါရဝသုတ်၌ တွေ့ရှိရသည်။

တစ်ချိန်က ဗုဒ္ဓမြတ်စွာသည် နောက်ပါ တပည့်ရဟန်းတော်များနှင့်အတူ ကောသလတိုင်းတွင် ဒေသစာရီ ကြွချီတော်မူစဉ် စဋ္ဌလိကပ္ပရွာသို့ ရောက်သွားတော်မူသတဲ့။

ထိုအခါ လောကီကျမ်းတတ်ပညာရှင်တစ်ဦး ဖြစ်သည့် သင်္ဂါရဝလုလင်သည် စဋ္ဌလိကပ္ပရွာ တောဒေယျပုဏ္ဏားဏ်၏ ဥယျာဉ်၌ သီတင်းသုံးတော်မူသည့် ဘုရားရှင်ထံ ချဉ်းကပ်၍ မေးခွန်းတစ်ခု မေးလျှောက်၏။

မေးခွန်းမှာ –

"အရှင် ဂေါတမ၊ မိမိတို့ကိုယ်တိုင် လက်ရှိဘဝမှာပင် တရားထူးသိ၍ နိဗ္ဗာန်ရောက်သူများ၊ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်း အကျင့်မြတ်တို့ကို အစဆုံး တီထွင်နေသူများဟု ဝန်ခံနေကြသည့် ရဟန်း၊ ပုဏ္ဏားအချို့ရှိပါသည်။ ထိုရဟန်း၊ ပုဏ္ဏားတွင် အရှင်ဂေါတမကား ဘယ်လိုပုဂ္ဂိုလ်မျိုးပါလဲ" ဟု ဖြစ်သည်။

ဗုဒ္ဓရှင်တော်မြတ်က ထိုရဟန်း၊ ပုဏ္ဏားတို့တွင် မိမိလည်း တစ်ယောက် အပါအဝင်ဖြစ်ကြောင်းနှင့် ဘုရားလောင်း သိဒ္ဓတ္ထမင်းသားဘဝတောထွက်သည်မှစ၍ ဘုရားအဖြစ်သို့ ရောက်တော်မူသည်အထိ ဗုဒ္ဓဝင်ဇာတ်ကြောင်းကို အသေးစိတ် ပြန်ပြောင်း ဟောကြားတော်မူပါသည်။

ထိုဗုဒ္ဓဝင်ဇာတ်လမ်း၌ –

"ငါသည် ခံတွင်း၊ နှာခေါင်း၊ နားတို့မှ ထွက်သက်၊ ဝင်သက်တို့ကို ချုပ်တည်းကာ ဒုက္ကရစရိယအကျင့်ကို ကျင့်နေစဉ် ငါ့ကို နတ်တို့မြင်၍

'ရဟန်း ဂေါတမသည် သေလေပြီ။ ရဟန်းဂေါတမသည် မသေသေး။ သေခါနီးနေပြီ။ ရဟန်းဂေါတမသည် သေသည်လည်း မဟုတ်။ သေခါနီး လည်း မဟုတ်၊ ရဟန္တာဖြစ်၍နေခြင်းသာ ဖြစ်၏'

ဟု နတ်တို့ အမျိုးမျိုး ပြောဆိုကြသည်။

ထို့နောက် ငါဘုရားသည် အစာအာဟာရကို လုံးဝ ဖြတ်၍ ကျင့်မည်ဟု ကြံသည့်အခါ ငါ့ထံသို့ နတ်တို့လာ၍ –

'အရှင်သည် အာဟာရကို လုံးဝဖြတ်၍ မကျင့်ပါနဲ့၊ ကျင့်ခဲ့လျှင် ကျွန်ုပ်တို့သည် နတ်သြဇာတို့ကို အရှင့်အမွေးများ အတွင်းမှ တစ်ဆင့် သွင်းပေးမည်။ ထိုနတ်သြဇာဖြင့် အရှင် မျှတပေလိမ့်မည်'

ဟု ဆိုလာကြ၏"

ဤသို့ ဘုရားရှင်ကိုယ်တိုင် မိန့်ကြားတော်မူသည့် ဗုဒ္ဓဝင်ဇာတ် ကြောင်းတွင် နတ်နှင့်ပတ်သက်သော အကြောင်းအရာများ ပါလာ၏။

ထို့ကြောင့် ဇာတ်လမ်းအဆုံးတွင် သင်္ဂါရဝလုလင်က –

"အရှင်ဂေါတမ၊ နတ် ဆိုသည်မှာ အမှန်တကယ်ရှိပါသလား"

ဟု မေးလျှောက်၏။

ထိုအခါ ဗုဒ္ဓမြတ်စွာက –

"သင်္ဂါရဝ၊ နတ် ဆိုသည်မှာ အမှန်တကယ်ရှိသည်။ နတ်တို့ကို အကြောင်းအားလျော်စွာ သိရ၏"

ဟု အတိုချုပ် ဖြေကြားတော်မူသည်ကို တွေ့ရ၏။

ဤသည်မှာ နတ်ဗြဟ္မာများ အမှန်တကယ်ရှိကြောင်း ဘုရားဟော သာဓက အချို့ ဖြစ်ပါသည်။

"နတ် ဗြဟ္မာတွေကို မြင်ဖူးသူ တစ်ဦးတစ်ယောက်မျှ မရှိလို့ နတ် ဗြဟ္မာရှိတယ် ဆိုတာကို ဘယ်လို ယုံရမှာလဲ"

ဆိုတဲ့ နောက်ဆက်တွဲမေးခွန်းကို လောကသဘာဝယုတ္တိများဖြင့် ဆက်လက် ဖြေဆိုပါမည်။

ကျွန်ုပ်တို့ ကမ္ဘာလောကဓာတ်ကြီးကား သာမန်မျက်စိဖြင့် မမြင် နိုင်၊ သာမန်အသိဉာဏ်ဖြင့် စဉ်းစားတွေးခေါ်၍ မမီနိုင်အောင် အလွန် ဆန်းကြယ်သည့် သဘာဝများဖြင့် ပြည့်နှက်လျက် ရှိ၏။





ယင်း သဘာဝဓမ္မများဖြင့် တည်ရှိနေသော သက်ရှိ၊ သက်မဲ့၊ သတ္တဝါ၊ ဝတ္ထုတို့သည်လည်း အလွန်ထူးခြား ဆန်းပြားလှပေသည်။

ထိုသို့ ကမ္ဘာလောကဓာတ်ကြီး၏ ထူးထွေဆန်းပြားပုံများကို လွန်ခဲ့သည့် နှစ်ပေါင်း ၂၅၀၀ ကျော်ကပင် ဘုရားသခင် ဟောကြားတော် မူခဲ့ပါသည်။

ထိုဟောကြားတော်မူချက်များ မည်မျှ မှန်ကန်ခဲ့သည်ကို သိပ္ပံ ပညာများ ဆန်းသစ်ထွန်းကားလာသည်နှင့်အမျှ လူသားတို့ တဖြည်းဖြည်း သိရှိလာကြရသည်။

သို့ရာတွင် သိပ္ပံပညာနှင့်ထောက်၍ မမီနိုင်သေးသည့် ရုပ်ပိုင်း ဆိုင်ရာ၊ နာမ်ပိုင်းဆိုင်ရာ ထူးဆန်းနက်နဲသော သဘာဝဓမ္မများ အများအပြား တည်ရှိနေကြသေးသည်ကိုကား မမေ့သင့်ကြပါချေ။

နတ် ဗြဟ္မာတို့၏ ခန္ဓာကိုယ်များကား လူသားတို့၏ခန္ဓာကိုယ်နှင့် မတူ၊ အလွန် နုးညံ့သိမ်မွေ့သော ရုပ်နုများဖြင့် တည်ဆောက်ထားသည့် ခန္ဓာကိုယ်များ ဖြစ်၏။

နုးညံ့သော ရုပ်တို့သဘောသည် ကြမ်းတမ်းသည့် ရုပ်များပေါ်၌ ရုပ်တည်နိုင်ရိုး သဘာဝ မရှိချေ။

ထို့ကြောင့် နတ် ဗြဟ္မာတို့ လူ့ပြည် လာသည့်အခါ မိမိတို့၏ ပကတိ ရုပ်ခန္ဓာဖြင့် ကြမ်းတမ်းသည့် မြေကြီးပေါ်၌ မရပ်တည်နိုင်ကြဟု ဘုရားဟော ပိဋကတ်တော်များတွင် လာရှိသည်။

အင်္ဂုတ္တိုရ်ပါဠိတော် တိကနိပါတ် တတိယပဏ္ဏာသက ဟတ္ထက သုတ်၌ ဟတ္ထကမည်သော ဗြဟ္မာသည် ဘုရားရှင်၏ ရှေ့တော်၌ ပကတိ ခန္ဓာကိုယ်ဖြင့် ရပ်လေရာ ရပ်၍ မရနိုင်ဘဲ သဲထဲ ဆီသွန်သကဲ့သို့ စိမ့်ဝင် ကျွံနစ်၍သွား၏။

ထိုအခါ ဘုရားရှင်က –

"ဟတ္ထက၊ ရုပ်ကြမ်းဖန်ဆင်းပြီးမှ ရပ်"

ဟု မိန့်တော်မူရာ ဘုရားရှင်၏အမိန့်အတိုင်း ရုပ်ကြမ်းဖန်ဆင်းပြီး ရပ်မှသာ ရပ်နိုင်ပေသည်ဟု ဟောထားပေသည်။

ဤမျှ ရုပ်ခန္ဓာ သိမ်မွေ့လှသောကြောင့် အထက်ထက်ဘုံရှိ

နတ်တို့၏ ပကတိခန္ဓာကိုယ်ကို အောက်ဘုံရှိ နတ်တို့ကပင် မမြင်နိုင်ကြဟု သုတ်မဟာဝါပါဠိတော် ဇနဝသဘသုတ်၌ လာ၏။ လူသားတို့အဖို့ကား ဆိုဖွယ်ရာ မရှိ။ ရုပ်ကြမ်းတစ်မျိုးဖြင့် ဖန်ဆင်းပြမှသာ တွေ့မြင်နိုင်ခွင့် ရှိကြသည်။

လောကတွင် လေ၌ ရှိသောရုပ်များမှာ သိမ်မွေ့လှသောကြောင့် အထိအတွေ့ရှိသော်လည်း မမြင်မတွေ့ရချေ။

အသံအဆက်ဆက် ပျံ့လာသော အသံလှိုင်းရုပ်ဆိုလျှင် မြင်ရဖို့ ဝေးစွ ထိတွေ့မှုပင် မထင်ရှားတော့။

နတ်တို့၏ ရုပ်များကား ထိုရုပ်များထက် ပို၍ သိမ်မွေ့သော ရုပ်များတည်း။ ဗြဟ္မာတို့၏ ရုပ်ခန္ဓာမှာလည်း နတ်တို့၏ ရုပ်ခန္ဓာထက် ပို၍ပင် သိမ်မွေ့နူးညံ့သည်ဟု ကျမ်းဂန်များ၌ ဆိုထားပေသည်။

ထို့ကြောင့် နတ် ဗြဟ္မာတို့၏ ပကတိ ခန္ဓာကိုယ်ကို လူတို့၏ ပကတိမျက်စိဖြင့် မမြင်ရခြင်း ဖြစ်သည်။ လူသားတို့၏ ပကတိမျက်စိဖြင့် မမြင်ရတိုင်း မရှိဟု ကျွန်ုပ်တို့ ဆိုကြမည်လော။

ယင်းသို့ဆိုလျှင် သိပ္ပံပညာ၏စွမ်းအားကြောင့် ပေါ်လာခဲ့သည့် မှန်ဘီလူးဖြင့် ကြည့်မှသာ မြင်ရသည့် ရောဂါပိုး စသည့် အရာများကို ပကတိမျက်စိဖြင့် မမြင်ရ၍ မရှိဟု ဆိုသကဲ့သို့ ရှိပေမည်။

သို့ရာတွင် နတ်နှင့် နတ်ပြည်တို့ကို တွေ့မြင်နိုင်ရေး၊ နတ်ပြည်သို့ တက်ရောက်နိုင်ရေးတို့မှာ သိပ္ပံပညာ၏အရာ မဟုတ်။

ဘုရားရှင်နှင့် တန်ခိုးရှင် ရဟန္တာကြီးများ၊ ပဉ္စမဈာန်အထိရသော ဈာန်ရပြီးပုဂ္ဂိုလ်တို့၏ ဒိဗ္ဗစက္ခုအဘိညာဉ်၊ ဣဒ္ဓိဝိဓအဘိညာဉ်တို့ အရာသာ ဖြစ်၏။

ထို့ကြောင့် ယင်းဉာဏ်များကို မရသူ လူသားများအဖို့ကား မြတ်စွာဘုရားကို ယုံကြည်သောအားဖြင့် ဘုရားဟောအရ နတ်ပြည်နှင့် နတ်တို့ အမှန်တကယ်ရှိသည်ဟု သိကြ၊ လက်ခံကြသည်။

အကယ်၍ ကိုယ်တိုင်ဒိဋ္ဌ တွေ့မြင်သိရှိလိုလျှင်မူ ပကတိမျက်စိဖြင့် မမြင်နိုင်သည့် အရာဝတ္ထုများကို မြင်လာနိုင်သော သိပ္ပံပညာရှင်ကြီးများ မှန်ဘီလူးကို ရရှိအောင် ကြိုးစား အားထုတ်ကြသည့်နည်းတူ ဒိဗ္ဗစက္ခု





အဘိညာဉ်မှန်ပြောင်းကို တပ်ဆင်နိုင်အောင် ကြိုးစားအားထုတ်ခြင်းသည် သဘာဝကျပေသည်။

သာမန်မျက်စိဖြင့် မမြင်နိုင်သော အရာများရှိနေသည်မှာ အမှန် ဖြစ်၍ မမြင်ရတိုင်း မရှိဟု ဆိုနေကြခြင်းမှာ သဘာဝကို ကျော်ခိုင်းရာသာ ရောက်ပေသည်။

အမှန်စင်စစ်သော်ကား တင်ပြခဲ့ပြီးသော ဘုရားဟော ထေရဝါဒ ပိဋကပါဠိတော်များအရ အဂ္ဂမဟာပဏ္ဍိတ အနီးစခန်း ဆရာတော်ဘုရားကြီး အမိန့်ရှိတော်မူသည့်အတိုင်း နတ်ဗြဟ္မာများနှင့် နတ်ပြည်၊ ဗြဟ္မာပြည်များ နှင့် နတ်ဗြဟ္မာတို့ အကြောင်းကို ဗုဒ္ဓကျမ်းဂန်များမှာ လာသည့်အတိုင်း ဆက်လက် တင်ပြသွားပါမည်။

ဤကဲ့သို့ ဆက်လက် တင်ပြရခြင်းမှာ နတ်၊ နတ်ပြည်၊ ဗြဟ္မာ၊ ဗြဟ္မာ့ပြည်များနှင့် နတ်၊ ဗြဟ္မာတို့၏ အကြောင်းတို့ကို စုံစုံလင်လင် သိထားစေလိုခြင်း၊

နတ်ပြည်များမှာ ကာမဂုဏ်စခန်း၌ အစွမ်းကုန် ပျော်မွေ့ဖွယ် ကောင်းသည့်အလျောက် ကာမဂုဏ်ရေလျဉ်ကြောတွင် နစ်မြောနေကြ သဖြင့် ကုသိုလ်ပြုလုပ်ဖို့ အခွင့်အရေးနည်းပါးလှသည်ကို သိစေလိုခြင်း၊

နတ်တို့ စုတေလျှင် သုဂတိဘုံသို့ အရောက်နည်းပါး၍ ငရဲဘုံသို့ ကျရောက်သွားသည်က များခြင်းတို့ကို သိစေလိုခြင်း၊

နတ်ပြည်က ကာမဂုဏ်အာရုံတွေကို လုံခြုံအောင် ကာကွယ်ပြီး ကုသိုလ်တရားများကို ဆက်လက် ပွားများအားထုတ်နိုင်အောင် ဤလူ့ပြည်က မည်မျှ အတိုင်းအတာအထိ ပါရမီကုသိုလ်များကို ထူထောင်သွားရန် သတိပေးလိုခြင်း၊

ကာမဂုဏ်အာရုံနည်းပါးလှသည့် ဗြဟ္မာ့ပြည်သို့ ရောက်သွားစေကာမူ အရိယာဗြဟ္မာ မဟုတ်ဘဲ တိဟိတ်ပုထုဇဉ် ဗြဟ္မာဖြစ်ပါက တစ်မင်္ဂ တစ်ဖိုလ်ရဖို့ စိတ်မချရဘဲ အောက်သုဂတိဘုံများ မှတစ်ဆင့် အပါယ် လေးဘုံအထိ ကျရောက်နိုင်ပုံကို သိစေလိုခြင်း၊

လူ့ပြည်က ရဟန္တာပုဂ္ဂိုလ်များမှတစ်ပါး ဒါန၊ သီလ၊ သမထ ဘာဝနာ၊ ဝိပဿနာဘာဝနာ ဟူသော ကာမာဝစရ ကုသိုလ်ရှင်များ၊ ဈာန်ရ

ကုသိုလ်ရှင်နှင့် အောက်မင်္ဂလာသုံးပါးကုသိုလ်ရှင်တို့မှာ တမလွန်ဘ၀တွင် နတ်ပြည်၊ ဗြဟ္မာ့ပြည်များသို့ အများအားဖြင့် ရောက်ကြရမည်ဖြစ်ရာ မရောက်မီ ထိုဘုံများအကြောင်းတို့ကို သိထားစေလိုခြင်း ဟူသော ဆန္ဒမွန်ဖြင့် ဤစာအုပ်ကို ရေးသားပြုစုရခြင်း ဖြစ်ပါသည်။

မှော်ဆရာ ဦးအေးနိုင်(ဘီအေ)

▢



## ဗုဒ္ဓဘာသာနှင့် ၃၁ ဘုံအမြင်

နတ်ပြည်၊ ဗြဟ္မာပြည်များ အကြောင်းနှင့် နတ်များ၊ ဗြဟ္မာများ အကြောင်းကို အသေးစိတ် မတင်ပြမီ ဗုဒ္ဓဘာသာဝင်နှင့် ၃၁ ဘုံအမြင်ကို ရှေးဦးစွာ တင်ပြပါဦးမည်။

မျက်မှောက်ကမ္ဘာရှိ ထင်ရှားသော ဘာသာကြီးများ၌ ၃၁ ဘုံရှိသည်ဆိုသော အယူဝါဒ မရှိကြ။ ဗုဒ္ဓဘာသာ၌သာ ၃၁ ဘုံရှိသည်ဆိုသော အယူဝါဒ ရှိသည်။

ထို့ကြောင့် ဗုဒ္ဓဘာသာဝင်များအဖို့ ၃၁ ဘုံ ရှိ၊ မရှိ ဆိုသော ပြဿနာသည် အလွန်အရေးကြီး၏။

၃၁ ဘုံ ဆိုသည်မှာ ယခု မိမိတို့ ထင်ရှားဖြစ်နေဆဲ လူ့ဘုံကိုပါ ထည့်သွင်း ရေတွက်ထားခြင်း ဖြစ်သည်။ လူ့ဘုံမှာ မိမိတို့ ထင်ရှားဖြစ်နေ၊ တွေ့မြင်နေရသည့်ဘုံဖြစ်၍ ပြဿနာ မရှိ။

ပြဿနာရှိသည်မှာ အပါယ်လေးရပ်၊ ခြောက်ထပ်နတ်ရွာ၊ ဗြဟ္မာပြည်နှစ်ဆယ်အားဖြင့် ဘုံ ၃၀ ဖြစ်သည်။

ထိုဘုံများမှာ မျက်စိဖြင့် အထင်အရှား မမြင်ရသောကြောင့် ၃၁ဘုံဝါဒကို လက်ခံကြရမည့် ဗုဒ္ဓဘာသာဝင် အချို့ပင် ထိုဘုံ ၃၀ အယူအဆ၌ သံသယဝင်လာကြ၏။ အချို့က သံသယဝင်ရုံ မဟုတ်။ ၃၁ ဘုံ မရှိဟုပင် ဆိုသည်၊ ရေးသည်အထိ အယူဝါဒ ပြင်းထန်လာကြသည်။

ထို့ကြောင့် ဗုဒ္ဓဘာသာဝင်များအဖို့ ၃၁ ဘုံ ရှိ၊ မရှိ ဟူသော ပြဿနာသည် လွန်စွာ အရေးကြီးသည့်အဆင့်သို့ ရောက်လာပေသည်။

## ဗုဒ္ဓဘာသာဝင် ဆိုသည်မှာ

ဤနေရာ၌ ဗုဒ္ဓဘာသာဝင် ဆိုသည်မှာ မည်ကဲ့သို့သော ပုဂ္ဂိုလ်မျိုး ဖြစ်သည်ကို ရှေးဦးစွာ သိထားနှင့်ရန် လိုပါသည်။

ဘုရား၊ တရား၊ သံဃာ ဟူသော ရတနာသုံးပါး၌ ကြည်ညိုသော (ဝါ) ယုံကြည်သော သဒ္ဓါတရားကို အခြေခံကာ တကယ်တမ်း ကိုးကွယ် လဲလျောင်း မှီခိုရာ ဟူသော အသိစိတ်ဖြင့် –

ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊

ဓမ္မံ သရဏံ ဂစ္ဆာမိ၊

သံဃံ သရဏံ ဂစ္ဆာမိ

ဟု ပါဠိလို ဖြစ်စေ၊

မြတ်စွာဘုရားကို ကိုးကွယ်ရာဟု မှီဝဲဆည်းကပ် သိမှတ်ပါ၏။

တရားတော်မြတ်ကို ကိုးကွယ်ရာဟု မှီဝဲဆည်းကပ် သိမှတ်ပါ၏။

သံဃာတော်မြတ်ကို ကိုးကွယ်ရာဟု မှီဝဲဆည်းကပ် သိမှတ်ပါ၏

ဟု မြန်မာလိုဖြစ်စေ ရွတ်ဆိုဆောက်တည်လျှင် သရဏဂုံတည်သူ ဖြစ်ပါသည်။ သရဏဂုံတည်လျှင် ဗုဒ္ဓဘာသာဝင် ဖြစ်ပါသည်။ ဗုဒ္ဓဘာသာဝင်ဖြစ်ရန် သရဏဂုံတည်မှုသည် အခြေခံအကျဆုံး ဖြစ်သည်။

သို့သော် ဗုဒ္ဓဘာသာဝင် အများစုသည် သရဏဂုံဘက်တွင် အားနည်းချက် ရှိကြသည်။

ဗုဒ္ဓဘာသာဝင်တို့၏ ရှေးရိုးအစဉ်အလာအရ ယောကျ်ားကလေးများမှာ ရှင်ပြုကြရ၍ ရှင်သာမဏေဝတ်စဉ်က သရဏဂုံကို သီထိလ၊ ခနိတဌာန်ကရိဏ်းကျကျ ပီပီသသ ရွတ်ဆိုခဲ့ကြရ၏။ သီလယူတိုင်းလည်း သရဏဂုံကို ရွတ်ဆိုခဲ့ကြရသည်။ သို့တစေလည်း မည်သည့် အရာကို သရဏဂုံ ခေါ်သည်ဟု သိသူ ဗုဒ္ဓဘာသာဝင်တို့မှာ အနည်းစုသာ ရှိ၏။ မိမိတို့ မကြာခဏ ရွတ်ဆိုနေကြသည့် ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ စသည်တို့ကိုပင် သရဏဂုံဟု မသိသူ လူကြီးများကိုလည်း စာရေးသူ တွေ့ရဖူး၏။

တစ်ချိန်က 'သရဏဂုံသုံးပါး ဆိုတာ ဘယ်ဟာတွေလဲ' ဟု ရင်းနှီးသူ လူငယ်အချို့ကို မေးကြည့်ခဲ့ဖူး၏။ သူတို့က 'ဘုရား၊ တရား၊ သံဃာ သုံးပါးဟာ သရဏဂုံဖြစ်တယ်' လို့ ပြန်ဖြေခဲ့ကြသည်။





အဖြေ အတိအကျ မမှန်သော်လည်း မိမိတို့ မကြာခဏ ရွတ်ဆိုနေသည့် ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ စသည်ကို သရဏဂုံဖြစ်မှန်း မသိသူနှင့် နှိုင်းစာလျှင် တော်သေး၏ဟု ဆိုရမည် ဖြစ်သည်။

ထိုလူငယ်များလိုပဲ ရတနာသုံးပါးနှင့် သရဏဂုံသုံးပါးတို့ကို ကွဲကွဲပြားပြား မသိသူ လူကြီး၊ လူရွယ် အများအပြား ရှိပါသည်။ **သရဏ ဂမန** ပါဠိက မြန်မာလို **သရဏဂုံ** ဖြစ်လာခြင်း ဖြစ်သည်။

ဂမန=ဂုံက ထိုသရဏခေါ်တဲ့ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ခြင်း (ဝါ) ရတနာသုံးပါးကို ယုံကြည်မှုသဒ္ဓါ၊ ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးတို့ကို သိမှု ပညာတရားတို့ ဦးဆောင်သည့် မဟာကုသိုလ်စိတ်၊ စေတသိက်စု ဖြစ်သည်။

(သရဏံ=ကိုးကွယ် ဆည်းကပ်ရမယ့် ရတနာသုံးပါးကို + ဂမန= ဂုံ = ကိုးကွယ် ဆည်းကပ်ကြောင်း ကုသိုလ်တရားစု။)

ပုထုဇဉ်လူသားတွေဆောက်တည်နေကြသည့် လောကီသရဏဂုံ၌လည်း လူကြီးမိဘ ဖြစ်သူတို့က တိုက်တွန်းသဖြင့် ဘုမသိ ဘမသိ နှုတ်မြွက်ခံယူဆောက်တည်ကြသော ကလေးများ၏ သရဏဂုံမှာ ရတနာသုံးပါး၌ ယုံကြည်မှု သဒ္ဓါမျှသာရှိ၍ ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးများကို သိမှုဉာဏ် မပါသဖြင့် ဉာဏဝိပ္ပယုတ် သရဏဂုံမျိုးသာ ဖြစ်သည်။

ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်များနှင့် ရတနာသုံးပါးတို့၏ ဘေးအမျိုးမျိုး၊ ဆင်းရဲအမျိုးမျိုးတို့ကို ပယ်ဖျောက်နိုင်သည့် ကျေးဇူးဂုဏ်တို့ကို သိရှိ၍ နှုတ်မြွက် ခံယူဆောက်တည်သည့် သရဏဂုံမျိုးသာ အသိဉာဏ်ပါသဖြင့် ဉာဏသမ္ပယုတ် သရဏဂုံ ဖြစ်သည်။

ရတနာသုံးပါး၌ ယုံကြည်မှု၊ ကြည်ညိုမှု သဒ္ဓါမျှသာရှိ၍ ရတနာသုံးပါးတို့၏ ဂုဏ်ကျေးဇူးတို့ကို သိမြင်သည့် ဉာဏ်အမြင်မရှိသော လူကြီးများ၏ သရဏဂုံသည်လည်း ဉာဏဝိပ္ပယုတ် (ဉာဏ်ကင်းသော) သရဏဂုံမျိုးပင် ဖြစ်ပေသည်။

'ယခုကာလ သရဏဂုံ ဆောက်တည်သူတို့တွင် အချို့မှာ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ စသော ပါဠိတို့ကို ရွတ်ဆိုနေသော်လည်း မြန်မာလို ဘာကို ဆိုလိုကြောင်း မသိကြ။

ဗုဒ္ဓံ ဓမ္မံ သံဃံဟု နှုတ်က ရွတ်နေသော်လည်း ဘုရား၊ တရား၊ သံဃာအစစ်ကို နားမလည်ကြချေ။

ထိုသို့ နားမလည်သူတို့မှာ ဉာဏ်ဖြင့် ယှဉ်သော ဉာဏသမ္ပယုတ် မဟာကုသိုလ် သရဏဂုံ မရနိုင်။ အတော်အတန် နားလည်သူ၊ ဘုရား, တရား, သံဃာတို့ကို ကိုးကွယ်စိတ်ရှိသူ၌ကား ဉာဏဝိပ္ပယုတ် သရဏဂုံမျှသာ ရဖွယ်ရှိ၏။ လုံးလုံးနားမလည်သူတို့မှာ သရဏဂုံကိုမျှ လုံးလုံး ရဖွယ် မရှိ။ သရဏဂုံ မတည်လျှင် ဗုဒ္ဓဘာသာဝင် မဖြစ်သေး။

ထို့ကြောင့် သရဏဂုံ အကြောင်းကို ကောင်းကောင်းနားလည်အောင် လေ့လာကြပါကုန်'

ဟူ၍ ကျေးဇူးရှင် အမရပူရမြို့ မဟာဂန္ဓာရုံ ဆရာတော်ကြီးကလည်း တိုက်တွန်းပေသည်။

ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ဟု အမည်ခံယူနေကြသူများသည် ယုံကြည်မှုသဒ္ဓါ၊ ဂုဏ်နဲ့ ဂုဏ်ကျေးဇူးတို့ကို သိမြင်မှုပညာဉာဏ် ဦးစီးသော မဟာကုသိုလ်စိတ်၊ စေတသိက်စုဖြင့် ဉာဏသမ္ပယုတ် သရဏဂုံမျိုးဖြစ်အောင် ခံယူဆောက်တည်သင့်ကြပေသည်။

သရဏဂုံမှာ တစ်ကြိမ် ဆောက်တည်ထားလျှင် ဗုဒ္ဓဘာသာမှ အခြားဘာသာသို့ မကူးပြောင်းသရွေ့၊ အသက်ရှင်သမျှ ကာလပတ်လုံး သရဏဂုံ တည်ပါသည်။ သေဆုံးသွားသူ၌ကား သရဏဂုံ မရှိတော့ပါ။ သရဏဂုံတင်လည်း မရတော့ပါ။

ယခု ပုထုဇဉ်လူသားတို့ ဆောက်တည်နေကြသည့် လောကီသရဏဂုံကား ရတနာသုံးပါးတို့၌ ဂုဏ်ကျေးဇူးကို မသိခြင်း (အညာဏ)၊ ယုံမှားသံသယဝင်ခြင်း (သံသယ)၊ လွဲမှားသောအသိအမြင်တို့ဖြင့် အလွဲလွဲအမှားမှား စွဲယူမှတ်ထင်ခြင်း (မိစ္ဆာဉာဏဒဿန) စသည်တို့ကြောင့် သရဏဂုံ ညစ်နွမ်းသွားတတ်ပေသည်ဟု သုတ်သီလက္ခန်အဋ္ဌကထာ၌ ဖွင့်ဆိုထား၏။

သရဏဂုံအကြောင်းမှာ တင်ပြစရာ များလှပေသည်။ ဤနေရာ၌ ဗုဒ္ဓဘာသာဝင်နှင့် ဆက်စပ်၍ သိအပ်သမျှကိုသာ တင်ပြလိုက်ပါသည်။





ဤသို့အားဖြင့် ဗုဒ္ဓဘာသာဝင် ဆိုသည်မှာ သရဏဂုံသုံးပါး အပေါ် အခြေစိုက်လျက်ရှိကြောင်း ထင်ရှားသိသာပေပြီ။

ဤသို့ သရဏဂုံတည်မှ ဗုဒ္ဓဘာသာဖြစ်နိုင်သောကြောင့် ရတနာသုံးပါး၌ ဉာဏ်နှင့်ယှဉ်၍ တကယ် သက်ဝင်ယုံကြည်မှု သြကပ္ပနာသဒ္ဓါနှင့် ရတနာသုံးပါးတို့၏ ဂုဏ်တော်ကျေးဇူးတော်များကို သိမြင်မှုပညာတို့ ဦးစီးသောစိတ်ဖြင့် ရတနာသုံးပါးတို့ကို ကိုးကွယ်ဆည်းကပ်သောသူများ ဖြစ်သောကြောင့် ဗုဒ္ဓဘာသာဝင်များကို ပါဠိလို ဥပါသက၊ မြန်မာလို 'ဥပါသကာ' ဟုလည်း ခေါ်ပေသည်။

## လောကဝိဒူဂုဏ်ရှင် ဘုရားသခင်နှင့် လောကသုံးပါး

ဗုဒ္ဓဘာသာဝင် အကြောင်းကို ဖော်ပြပြီးနောက် ယခု ၃၁ ဘုံ အကြောင်း ဆက်လက် ဖော်ပြပါမည်။

ဗုဒ္ဓမြတ်စွာကား သတ္တလောက၊ ဩကာသလောက၊ သင်္ခါရလောက ဆိုသည့် လောကသုံးဘုံ အလုံးစုံကို အကုန်အစင် အစုံအလင် သိမြင်တော်မူသည့် **လောကဝိဒူ** ဂုဏ်ရှင်ကြီး ဖြစ်ကြောင်း ဗုဒ္ဓဘာသာဝင်တိုင်း သိပြီး ဖြစ်ပါသည်။

လောကသုံးပါးတွင် ရုပ်နာမ်ဓမ္မ သင်္ခါရ လောကသည်သာ သတ္တဝါအများ ဘဝသံသရာမှ လွတ်မြောက်ရေးအတွက် အရေးအပါဆုံး ဖြစ်သည်။

ဘုရားရှင်တို့၏ ပဓာန ရည်ရွယ်တော်မူချက်ကြီးမှာလည်း ဘုရားလောင်းဘဝတို့ကပင် ရည်ရွယ်တော်မူခဲ့သည့် သတ္တဝါများကို ဘဝသံသရာမှ လွတ်မြောက်အောင် ကယ်တင်ထုတ်ဆောင်ရေး (သဗ္ဗညုတံ ပါပုဏိတွာ၊ သန္တာရေဿံ သဒေဝကံ) ပင် ဖြစ်ပါသည်။

မိမိ ဘုရားလောင်းဘဝကပင် ရည်ရွယ်တော်မူခဲ့သည့် ပဓာန ရည်ရွယ်ချက်ကြီးအတိုင်း သဗ္ဗညုတဉာဏ်ရှင် ဘုရားသခင် ဖြစ်တော်မူလာသည့်အခါ ရည်ရွယ်ချက်ကြီး အောင်မြင်ရေးအတွက် -

"သဗ္ဗေ သင်္ခါရာ အနိစ္စာ၊ ယဒါ ပညာယ ပဿတိ"

စသည်ဖြင့် လည်းကောင်း

"အနိစ္စာ ဝတ သင်္ခါရာ ဥပ္ပါဒဝယ ဓမ္မိနော"

စသည်ဖြင့် လည်းကောင်း

ရုပ်နာမ်ဓမ္မ သင်္ခါရလောကကြီးအကြောင်းကိုသာ သတ္တလောကတွင် ပါဝင်သော သတ္တဝါတို့၏ စရိုက် အနုသယနှင့် ဣန္ဒြေအနုအရင့်ကို ကြည့်ပြီး အများဆုံး ဟောကြားတော်မူခဲ့သည်ကို တွေ့ရပါသည်။

မိမိ ရည်ရွယ်ချက်ကြီး အောင်မြင်ရေးတွင် အရေးပါလှသည့် သတ္တလောကနှင့် ဩကာသလောကနှစ်မျိုးကိုမူ သင်္ခါရလောကအကြောင်းကို ဟောတော်မူစဉ် ဆက်စပ်လာသည့်အခါမှသာ ဟောကြားတော်မူလေ့ ရှိပါသည်။

ဩကာသလောကအကြောင်းကိုမူ အဟောနည်းရုံသာမဟုတ်–

"ဩကာသလောကအကြောင်းကား မကြံစည်အပ်၊ မကြံစည်ကောင်းတဲ့ အစိန္တေယျအရာဖြစ်လို့ မကြံစည်ကြ၊ မစဉ်းစားကြနဲ့။ ကြံစည်စဉ်းစားရင်း ပင်ပန်းဆင်းရဲပြီး ရူးသွပ်သွားနိုင်တယ်"

ဟုပင် ဟောကြားတော်မူထားကြောင်း စတုက္ကအင်္ဂုတ္တိုရ် ပါဠိတော် အစိန္တေယျသုတ်မှာ လေ့လာတွေ့ရှိရပေသည်။

မကြံစည်ထိုက်၊ မစဉ်းစားထိုက်ဟု ဟောတော်မူခြင်းမှာလည်း ၃၁ ဘုံဟု ခေါ်ကြသည့် ဩကာသလောကကြီး မရှိ၍ကား မဟုတ်။ အဘိညာဉ်ရ တန်ခိုးရှင်များမှတစ်ပါး အခြား သာမန်ပုဂ္ဂိုလ်များ သာမန်မျက်စိဖြင့် မမြင်နိုင်၊ မတွေ့နိုင်သောကြောင့် ဖြစ်ပါသည်။

## ဗုဒ္ဓဟောကြား ၃၁ ဘုံများ

ယခု ၃၁ ဘုံအကြောင်းကို ဘုရားဟော ပါဠိတော်များမှ သင့်လျော်ရာ ရွေးချယ်ထုတ်နုတ် တင်ပြပါမည်။

ရှင်တော်ဗုဒ္ဓသည် ကောသလတိုင်း သာလရွာသား သာလေယျက ပုဏ္ဏားသူကြွယ်တို့အား ငရဲဘုံ၊ လူ့ဘုံ၊ နတ်ပြည်ခြောက်ဘုံ၊ ဗြဟ္မာဘုံနှစ်ဆယ် ပေါင်းနှစ်ဆယ့်ရှစ်ဘုံနှင့် ထိုဘုံများသို့ ရောက်ကြောင်းတရားများကို ဟောတော်မူကြောင်း မဇ္ဈိမနိကာယ် မူလပဏ္ဏာသပါဠိတော် သာလေယျကသုတ်၌ တွေ့ရ၏။





ဤဒေသနာတော်၌ အပါယ်လေးဘုံတွင် ငရဲတစ်ဘုံသာ ဟောတော်မူခြင်းမှာ သာလေယျက ပုဏ္ဏားသူကြွယ်ကြီးက –

"သတ္တဝါတွေ အဘယ်အကြောင်းကြောင့် ဒုဂ္ဂတိဘုံဖြစ်တဲ့ အပါယ်ငရဲသို့ ကျရောက်ရပါသလဲ ဘုရား"

ဟု မေးသည့်အတိုင်း ဘုရားရှင်ကလည်း တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်ဘုံတို့အကြောင်းကို မဖြေဆိုဘဲ ငရဲတစ်ဘုံကိုသာ ဖြေဆိုခြင်း ဖြစ်၏။

အမှန်အားဖြင့် ငရဲသတ္တဝါတို့၌ ငရဲဘုံများ သီးခြား ရှိသကဲ့သို့ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်များတွင် တိရစ္ဆာန်ဘုံ၊ ပြိတ္တာဘုံ၊ အသူရကာယ်ဘုံ ဟူ၍ သီးခြား မရှိကြချေ။

ဤလူ့ဘုံ၌ပင် အချို့ သတ္တဝါများမှာ မြေပေါ်၌ နေထိုင်ကြသကဲ့သို့ အချို့တို့မှာ သမုဒ္ဒရာထဲ၊ တောထဲတောင်ထဲ၊ ချောက်ထဲများနှင့် ကောင်းကင်တို့၌ နေထိုင်ကြသည်။

သူတို့၏ အမျိုးဇာတ်ကို ဖြစ်စေ၊ ခန္ဓာကိုယ်ကို ဖြစ်စေ၊ ခန္ဓာတို့၏ ဖြစ်ရာအရပ်ကို ဖြစ်စေ ဘုံဟု ခေါ်ရပေသည်။

ထို့ကြောင့် တိရစ္ဆာနယောနိ (တိရစ္ဆာန်တို့၏ ခန္ဓာစု ဟူသော အမျိုးဇာတ်)၊ ပေတ္တိဝိသယ (ပြိတ္တာတို့၏ နေရာအရပ်) ၊ အသူရကာယ (အသူရာတို့၏ အပေါင်း) ဟု ထိုထို ပါဠိတော်များ၌ မြတ်စွာဘုရား ဟောကြားတော်မူခြင်း ဖြစ်ပေသည်။

ဘုံသီးခြားရှိသည့် ငရဲဒုဂ္ဂတိဘုံ အကြောင်းကိုမေးလျှင် ဒုဂ္ဂတိချင်းတူသည့် တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်တို့ အကြောင်းကိုလည်း မေးရာရောက်သည်ဟု သာလေယျကပုဏ္ဏားကြီးက ယူဆပြီး မေးသလောဟု ယူဆစရာ ရှိပေသည်။

တစ်ဖန် –

"ရဟန်းတို့၊ ဤအတူပင်လျှင် လူ့ပြည်မှ စုတေ၍ လူ့ပြည်မှာပင် တစ်ဖန် ပြန်ဖြစ်သော သတ္တဝါတို့ နည်းပါးကုန်၏။ စင်စစ်မှာ လူ့ပြည်မှ စုတေ၍ ငရဲဘုံ၌ ဖြစ်ကုန်သော သတ္တဝါတို့သာ များကုန်၏"

ဟု လည်းကောင်း၊

"ရဟန်းတို့၊ ဤအတုပင်လျှင် လူ့ပြည်မှ စုတေ၍ နတ်ပြည်တို့၌ ဖြစ်ကြကုန်သော သတ္တဝါတို့သည် နည်းပါးကုန်၏။ အမှန်စင်စစ်မှာ လူ့ပြည်မှ စုတေ၍ ငရဲဘုံ၌ ဖြစ်ကုန်သော ။ (ပ) ။ တိရစ္ဆာန်မျိုးဇာတ်၌ ဖြစ်ကုန်သော ။ (ပ) ။ ပြိတ္တာဘုံ၌ဖြစ်သော သတ္တဝါတို့သာ များကုန်၏"

ဟု လည်းကောင်း၊

လူ့ဘုံ၊ နတ်ဘုံ၊ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာဘုံတို့အကြောင်း မြတ်စွာဘုရား ဟောကြားထားသည်ကို ဧကကအင်္ဂုတ္တိုရ်ပါဠိတော် ဧကဓမ္မပါဠိတော် စတုက္ကဝဂ်၌ တွေ့ရသည်။

ဇာတကပါဠိတော် သံကိစ္စဇာတ်၌လည်း ငရဲဘုံမှာ ရှစ်မျိုး၊ ရှစ်ထပ်ရှိ၍ တစ်ထပ် တစ်ထပ်စီ၌ အရံဥဿဒငရဲ ၁၆ ဌာနရှိကြောင်းကို သဥ္စိဝေါ ကာဠသုတ္တောစ၊ သဃာ်တော ဒွေစ ရောရုဝါ။ အထာ ပရော မဟာဝီစိ၊ တာပနောစ ပတာပနော၊ ဣစ္စေတေ အဋ္ဌနိရယာ၊ အက္ခာတာ ဒုရတိက္ကမာ။ အာကိဏ္ဏာ လုဒ္ဒကမ္မေဟိ၊ ပစ္စေကာ သောဠ သုဿဒါ စသည်ဖြင့် ငရဲအကြောင်းကို အပြည့်အစုံ ဟောကြားထားပေသည်။

တိကအင်္ဂုတ္တာပါဠိတော် စူဠနိကာသုတ်တွင် စကြဝဠာကြီးတစ်ခု၌ လ၊ နေ၊ မြင်းမိုရ်တောင်၊ ကျွန်းကြီးလေးကျွန်း၊ နတ်မင်းကြီးလေးပါး၊ နတ်ပြည်ခြောက်ထပ်နှင့် ဗြဟ္မာပြည်များရှိကြောင်း ဟောကြားထားသည်ကိုလည်း တွေ့ရသည်။

မဟာဝဂ္ဂသံယုတ်ပါဠိတော် မနုဿစုတိနိရယသုတ် စသော သုတ်များတွင် ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာများအကြောင်းကို ဟောထားသကဲ့သို့ ဥပရိပဏ္ဏာသပါဠိတော် ဗာလ, ပဏ္ဍိတသုတ်၌လည်း ငရဲဘုံသား၊ တိရစ္ဆာန်ဘုံသားတို့၏ ဆင်းရဲဒုက္ခများကို ကျယ်ဝန်းစွာ ဟောကြားထားသည်။

ဤသည်တို့မှာ ၃၁ ဘုံအကြောင်း သုတ္တန်ပါဠိတော်များ၌ မြတ်စွာဘုရား ဟောကြားတော်မူချက် အချို့ ဖြစ်ပါသည်။

ဗုဒ္ဓ ရှင်တော်မြတ်ဘုရားသည် ၃၁ ဘုံအကြောင်းကို သုတ္တန်ပါဠိတော်များမှာထက် အဘိဓမ္မာပါဠိတော်များတွင် ပို၍ စုံစုံလင်လင် ဟောထားကြောင်း တွေ့ရသည်။အဘိဓမ္မာပိဋကဲ ဝိဘင်းပါဠိတော်တွင် ၃၁ ဘုံအကြောင်းကို အပြည့်အစုံ ဟောထားသကဲ့သို့ ယမကပါဠိတော်၌လည်း





၃၁ ဘုံရှိကြောင်းကို စုံစုံလင်လင် ဟောထားသည်။

ဝိဘင်းပါဠိတော် ဓမ္မဟဒယဝိဘင်း ဥပ္ပာဒက ကမ္မအာယုပ္ပ မာဏဝါရ၌ လောကတွင် သမ္မုတိနတ်၊ ဥပပတ္တိနတ်၊ ဝိသုဒ္ဓိနတ် ဟူ၍ နတ်သုံးမျိုး ရှိ၏။ ထိုတွင် ဥပပတ္တိနတ် ဆိုသည်မှာ စတုမဟာရာဇ်နတ်ဘုံ စသည်တို့၌ နေထိုင်ကြသည့် နတ်သား၊ နတ်သမီးတို့နှင့် ဗြဟ္မာများ ဖြစ်၏။ နတ်ပြည်မှာ စတုမဟာရာဇ်ဘုံ စသည်ဖြင့် ခြောက်ဘုံရှိ၍ ဗြဟ္မပါရိသဇ္ဇဘုံ စသည်ဖြင့် ဗြဟ္မာဘုံနှစ်ဆယ်ရှိ၏။

မည်သည့် နတ်၊ မည်သည့် ဗြဟ္မာတို့သည် နတ်ဗြဟ္မာတို့ အရေအတွက်အားဖြင့် အသက် မည်မျှ ရှည်ကြသည်။ မည်သည့် ကုသိုလ်ကောင်းမှုပြုလျှင် မည်သည့် နတ်ဘုံ၊ ဗြဟ္မာဘုံများသို့ ရောက်စေနိုင်သည် စသည်ဖြင့် နတ်ဘုံ ခြောက်ဘုံ၊ ဗြဟ္မာဘုံနှစ်ဆယ်တို့၏ အသက်တမ်းနှင့် ရောက်စေနိုင်သည့် ကုသိုလ်ကံတို့ကို အသီးသီး အသေးစိတ် တခမ်းတနား ဝေဖန် ဟောကြားထားသည်။

ဓမ္မဒဿနဝါရ ကာမဓာတုအခန်း၌ -

'ကာမဘုံ ပဋိသန္ဓေ ခဏ၌ အဘယ်ပုဂ္ဂိုလ်အား အာယတန ၁၁ ပါးတို့ ဖြစ်ကြသနည်း။ အာယတန ပြည့်စုံကြသူ ကာမာဝစရနတ်များ၊ ကမ္ဘာဦးလူများ၊ ဥပပတ်ပြိတ္တာများ၊ ဥပပတ်တိရစ္ဆာန်များ၊ ငရဲသားတို့အား ပဋိသန္ဓေ ခဏ၌ အာယတန ၁၁ ပါးတို့ ထင်ရှားဖြစ်ကုန်၏။ ကာမဘုံပဋိသန္ဓေခဏ၌ ထိုသူတို့အား ဤအာယတန ၁၁ ပါးတို့ ထင်ရှားဖြစ်ကုန်၏'

ဟု နတ်ပြည်ခြောက်ဘုံ၊ လူ့ဘုံ၊ အပါယ်လေးဘုံအားဖြင့် ကာမ ၁၁ ဘုံရှိကြောင်း ဟောထားပေသည်။ ဤသို့ ဝိဘင်းပါဠိတော်၌ ၃၁ ဘုံအကြောင်းကို အပြည့်အစုံ ဟောထားကြောင်း တွေ့ရသည်။

ယမိုက်ပါဠိတော်၌ ခန္ဓယမိုက်ပါဠိတော်စသော ပါဠိတော်များ၏ သြကာသဝါရ၊ ပုဂ္ဂလောကာသဝါရများတွင် အသညသတ္တော၊ ကာမာဝစရေ၊ ရူပါဝစရေ၊ အရူပါဝစရေ၊ အရူပေ၊ အပါယေဟူ၍ ဟောတော်မူထားရာ အသညသတ် ဗြဟ္မာဘုံ၊ ကာမာဝစရ ၁၁ ဘုံ (အပါယ်လေးဘုံ၊ လူ့ဘုံ၊ နတ်ခြောက်ဘုံ)၊ ရူပါဝစရဗြဟ္မာ ၁၅ ဘုံ၊ အရူပါဝစရဗြဟ္မာ လေးဘုံအားဖြင့် ၃၁ ဘုံရှိကြောင်း ထင်ရှားပေသည်။

ယမိုက်ပါဠိတော်များ၌ပင် ခန္ဓာကိုသုံးသပ်၍ ခန္ဓာတစ်ပါးရှိသော အသညသတ်ပြဟ္မာဘုံ (အသညသတ္တေ)၊ ခန္ဓာလေးပါးရှိသော အရူပဗြဟ္မာဘုံ (စတုဝေါကာရေ)၊ ခန္ဓာငါးပါးရှိသော ကာမ ၁၁ ဘုံနှင့် ရူပဗြဟ္မာ ၁၅ ဘုံ၊ ပေါင်း ၂၆ ဘုံ (ပဉ္စဝေါကာရေ) ဟူ၍ လည်းကောင်း၊ ဓာတ်ကို သုံးသပ်၍ ကာမဓာတုယာ ကာမ ၁၁ ဘုံ၊ ရူပါဓာတုယာ ရူပ ၁၆ ဘုံ၊ အရူပဓာတုယာ အရူပလေးဘုံ ဟူ၍ လည်းကောင်း ဟောကြားထားရာ ၃၁ ဘုံကို ဘုရားမဟောကြောင်း မည်သူမျှ ငြင်းဆို၍ မရနိုင်ပါချေ။

ဤ တင်ပြခဲ့သည့် သုတ္တန်ပါဠိတော်၊ အဘိဓမ္မာပါဠိတော် အထောက်အထားများအရ ဘုရားဟော တရားတော်များတွင် ၃၁ ဘုံ ရှိကြောင်း တရားတော်များ ပါဝင်သည်မှာ သိသာထင်ရှားလှပါသည်။ ထို့ကြောင့် ၃၁ ဘုံကို လက်မခံသူ (ဝါ) လူ့ဘုံမှတစ်ပါး အခြားဘုံများ မရှိဟု ယူဆသူ ဗုဒ္ဓဘာသာဝင်များကို ဗုဒ္ဓဘာသာဝင်များ စစ်၊ မစစ် စိစစ်ရန် ရှိလာပေသည်။

၃၁ ဘုံမရှိဟု ယူဆသော ဗုဒ္ဓဘာသာဝင်သည် ၃၁ ဘုံရှိသည်ဟု ဘုရားဟောကြားထားသည့် တရားတော်ကို မယုံကြည်သဖြင့် တရားကို ဟောကြားသည့် ဘုရားရှင်နှင့် ဘုရား၏တပည့်သာဝက သံဃာတော်များ ကိုလည်း ယုံကြည်မှုသဒ္ဓါ အားနည်းနေပြီ ဖြစ်၏။ ဘုရားရှင်နှင့် ဘုရားရှင်၏တပည့်သာဝကတို့၌ ယုံကြည်မှုသဒ္ဓါ၊ ဂုဏ်ကျေးဇူးတို့ကို သိရှိမှု ပညာ ဦးစီးသော မဟာကုသိုလ် စိတ်၊ စေတသိက်စုဖြင့် ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်မှ သရဏဂုံတည်ကြောင်း တင်ပြခဲ့ပြီး ဖြစ်ပါသည်။ သရဏဂုံတည်မှ ဗုဒ္ဓဘာသာဖြစ်သည်ဟုလည်း ဆိုခဲ့ပါသည်။

ထို့ကြောင့် ရတနာသုံးပါးအပေါ် ယုံကြည်မှု သဒ္ဓါ မရှိသည့် ဗုဒ္ဓဘာသာဝင်များမှာ ဗုဒ္ဓဘာသာဝင်ဟု ဆိုနေကြသော်လည်း ဗုဒ္ဓဘာသာဝင်စစ်စစ်ဖြစ်ရန် ခဲယဉ်းလှပေသည်။

## ဗုဒ္ဓဘာသာဝင်တို့၏ ယုံကြည်ချက်ကြီးဆယ်ချက်

ဆက်၍ ဆိုပါဦးမည်။ ဗုဒ္ဓဘာသာ ဆိုသည်မှာ ကမ္မဝါဒကို အခြေခံထားသောဘာသာ ဖြစ်သည်။ ကမ္မဝါဒကား ကံရှိသည်။ ကံ၏





အကျိုးရှိသည်။ သတ္တဝါအားလုံး မိမိတို့ကံသာ ကိုယ်ပိုင်ဥစ္စာရှိသည်ဟု ယုံကြည်သိမြင်သည့် ကမ္မဿကတာ သမ္မာဒိဋ္ဌိပင် ဖြစ်၏။

ထို့ကြောင့် ဗုဒ္ဓမြတ်စွာက –

'သုဘလုလင်၊ သတ္တဝါတို့သည် အတိတ်၊ပစ္စုပ္ပန် နှစ်တန်သော ကံသာ ကိုယ်ပိုင်ဥစ္စာ ရှိကြ၏။ နှစ်တန်သော ကံ၏ အမွေကို ခံယူကြရသည်။ နှစ်တန်သောကံသာ အကြောင်းရင်းရှိကြ၏။ နှစ်တန်သောကံသာ ဆွေမျိုးဖြစ်ကြ၏။ နှစ်တန်သောကံသာ အားထားကိုးကွယ်ရာ ရှိကြ၏။ သတ္တဝါတို့၏ ယုတ်ညံ့ခြင်း၊ မြင့်မြတ်ခြင်းကို (ဝါ) ဆင်းရဲခြင်း၊ ချမ်းသာခြင်းကို ထိုသတ္တဝါ၏ အတိတ်၊ ပစ္စုပ္ပန် နှစ်တန်သောကံက ဝေဖန်ပိုင်းခြားပေး၏'

ဟု သုဘလုလင်အား ကမ္မဿကတာသမ္မာဒိဋ္ဌိ အယူမှန်ရှိရန် ဟောကြားထားသည်ကို ဥပရိပဏ္ဏာသပါဠိတော် စူဠကမ္မဝိဘင်္ဂသုတ်၌ တွေ့ရ၏။

ထို့ပြင် 'သတ္တဝါတို့သည် အတိတ်၊ ပစ္စုပ္ပန် နှစ်တန်သောကံသာ ကိုယ်ပိုင်ဥစ္စာရှိကြောင်း စသည်တို့ကို အမြဲမပြတ် ဆင်ခြင်ရမည်' ဟု အင်္ဂုတ္တရ ပါဠိတော် (ပဉ္စက) အဘိဏှပစ္စဝေက္ခိတဗ္ဗဋ္ဌာနသုတ်၌လည်း ကမ္မဝါဒအကြောင်း မြတ်စွာဘုရား ဟောကြားထားသေးသည်။

အမှန်အားဖြင့် ကမ္မဿကတာသမ္မာဒိဋ္ဌိသည် နိဗ္ဗာန်ရောက်ကြောင်း အလယ်၊ အလတ် အကျင့်မြတ် (မဇ္ဈိမပဋိပဒါ) ဖြစ်သော မဂ္ဂင်ရှစ်ပါးတွင် ပထမဆုံး သမ္မာဒိဋ္ဌိမဂ္ဂင်တစ်မျိုးပင် ဖြစ်ပါသည်။

ထိုကမ္မဿကတာ သမ္မာဒိဋ္ဌိသည်ပင် ပုညကြိယဝတ္ထုဆယ်ပါးတွင် ဒိဋ္ဌိဇုကမ္မ (အယူကို ဖြောင့်မတ်အောင် ပြုတတ်သည့်အသိဉာဏ်) ဖြစ်သည်ဟု မူလဋီကာကျမ်းက ဆိုပေသည်။ အနုဘိဇ္ဈာ၊ အဗျာပါဒ၊ သမ္မာဒိဋ္ဌိ ဟူသော သုစရိုက် မနောကံသုံးပါးတွင် သမ္မာဒိဋ္ဌိပင် ဖြစ်သည်။ သုစရိုက်၊ ဒုစရိုက် ဆယ်ပါးစီတို့ အကြောင်းကို ဟောတော်မူသည့် မူလပဏ္ဏာသပါဠိတော် စုန္ဒသုတ် စသည်တို့တွင် သမ္မာဒိဋ္ဌိ၊ ဒိဋ္ဌိဇုကမ္မ အမည်ရသည့် ကမ္မဿကတာ သမ္မာဒိဋ္ဌိ အကြောင်းကို 'အတ္ထိဒိန္နံ၊ အတ္ထိယိဋ္ဌံ' စသဖြင့် အချက် ဆယ်ချက်ဖြင့် ဖွင့်ဆို ဟောကြားထားသည်။

ယင်း ဆယ်ချက်ကို ပါဠိလို 'ဒသဝတ္ထုက သမ္မာဒိဋ္ဌိ' ခေါ်၍ မြန်မာလို သမ္မာဒိဋ္ဌိအယူရှိသူ (ဗုဒ္ဓဘာသာဝင်) တို့၏ ယုံကြည်ချက်ကြီး ၁၀ ချက်ဟု ခေါ်၏။ ယင်း ၁၀ ချက်မှာ -

(၁) လှူဒါန်း ပေးကမ်းခြင်းသည် အမှန်တကယ် အကျိုးရှိ၏ဟု ယုံကြည်ခြင်း (အတ္ထိဒိန္န)

(၂) ရတနာသုံးပါး၊ ဆရာ၊ မိဘ စသည်တို့အား ပူဇော်ခြင်းသည် အမှန်တကယ် အကျိုးရှိ၏ဟု ယုံကြည်ခြင်း (အတ္ထိယိဋ္ဌ)

(၃) ပင့်ဖိတ်၍ ပေးလှူခြင်း၊ ဧည့်သည်တို့အား ဧည့်ဝတ်စောင်ဝတ် ပြုခြင်း၊ အကျိုးမမျှော်ဘဲ လက်ဆောင်ပေးခြင်း၊ လက်ထပ် မင်္ဂလာပွဲ စသည်တို့၌ ဧည့်ခံ ကျွေးမွေးခြင်း၊ စွန့်ကြဲပေးကမ်းခြင်း စသည်တို့သည် အမှန်တကယ် အကျိုးရှိသည်ဟု ယုံကြည်ခြင်း (အတ္ထိဟုတံ)

(၄) သုစရိုက်ဆယ်ပါးကို ပြုကျင့်လျှင် ကောင်းကျိုး စံရမည်၊ ဒုစရိုက် ဆယ်ပါးကို လွန်ကျူးလျှင် မကောင်းကျိုး ခံရမည်ဟု အမှန် တကယ် ယုံကြည်ခြင်း (အတ္ထိ သုကတဒုက္ကဋာနံ ကမ္မာနံ ဖလံ ဝိပါကော)

(၅) ဤပစ္စုပ္ပန်လောကသည် (ဝါ) နောက်ဘဝကို ထောက်ရင် ဤ ရှေ့ဘဝသည် အမှန်တကယ် ရှိသည်ဟု ယုံကြည်ခြင်း (အတ္ထိ အယံလောကော)

(၆) အပါယ်လေးရပ်၊ ခြောက်ထပ်နတ်ရွာ၊ ဗြဟ္မာပြည် နှစ်ဆယ် ဟူသော တမလွန်လောကသည် (ဝါ) နောက်ဘဝသည် အမှန်တကယ်ရှိသည်ဟု ယုံကြည်ခြင်း (အတ္ထိပရလောက)

(၇) မိခင်၌ ကောင်းစွာပြုလျှင် အကျိုးရှိ၏။ မကောင်းသဖြင့် ပြုလျှင် အပြစ်ဖြစ်၏ဟု အမှန်တကယ် ယုံကြည်ခြင်း (အတ္ထိမာတာ)

(၈) ဖခင်၌ ကောင်းစွာပြုလျှင် အကျိုးရှိ၏။ မကောင်းသဖြင့် ပြုလျှင် အပြစ်ဖြစ်၏ဟု အမှန်တကယ် ယုံကြည်ခြင်း (အတ္ထိပိတာ)

(၉) ငရဲ၊ ပြိတ္တာ၊ နတ်၊ သိကြား၊ ဗြဟ္မာစသော ဥပပတ်သတ္တဝါမျိုးတို့ အမှန်တကယ်ရှိသည်ဟု ယုံကြည်ခြင်း(အတ္ထိသတ္တာဩပပါတိကာ)





(၁၀) နိဗ္ဗာန်ရောက်ကြောင်း သီလ စသည့် အကျင့်ကောင်းကို ကျင့်ကြ၍ ရှေ့ဘဝ၊ နောက်ဘဝအကြောင်းကို မျက်မှောက်ထင်ထင် ကိုယ်တိုင် သိမြင်ကြပြီး ဟောပြောပြသနိုင်ကုန်သော ရဟန်း၊ ပုဏ္ဏားတို့ လောက၌ ရှိကြကုန်၏ဟု အမှန်တကယ် ယုံကြည် ခြင်း (အတ္ထိလောကေ။ (ပ) ။ ပဝေဒေန္တိ)

ဟူသော ယုံကြည်ချက်ကြီး ၁၀ ချက် ဖြစ်ပါသည်။

ဤ ယုံကြည်ချက်ကြီး ၁၀ ချက်ကို အဘိဓမ္မပိဋကက ဓမ္မသင်္ဂဏီ ပါဠိတော် နိက္ခေပကဏ္ဍ ဒိဋ္ဌိသမ္ပဒါ (အယူအမြင်၏ ပြည့်စုံခြင်း) အခန်း၌ လည်း ဟောကြားတော်မူခဲ့သည့်အပြင် သုစရိုက်၊ ဒုစရိုက်တရားတို့ကို ဟောကြားသည့် ထိုထို သုတ္တန် ဒေသနာတော်တိုင်း၌ ဟောကြားထား ပါသည်။

## ယုံကြည်ချက်ကြီး ၁၀ ချက်နှင့် ၃၁ ဘုံ

ဤ ယုံကြည်ချက်ကြီး ၁၀ ချက်နှင့် ပြည့်စုံမှ အယူမှန်သည့် သမ္မာဒိဋ္ဌိပုဂ္ဂိုလ် ဖြစ်မည်။ ဤ ယုံကြည်ရမည့်အချက်များကို မယုံကြည်ဘဲ-

'နောက်ဘဝ မရှိဘူး၊ ငရဲမရှိဘူး၊

နတ် မရှိဘူး၊ ဗြဟ္မာ မရှိဘူး၊

၃၁ ဘုံဝါဒ ဘုရားဟောမဟုတ်'

စသည်ဖြင့် ယူဆသောပုဂ္ဂိုလ်များမှာ အယူမှားကြသူ၊ အယူပျက် ကြသူ ဒိဋ္ဌိဝိပ္ပတ္တိပုဂ္ဂိုလ်၊ မိစ္ဆာဒိဋ္ဌိပုဂ္ဂိုလ်များ ဖြစ်ကြသည်ဟု ဓမ္မသင်္ဂဏီ ပါဠိတော်၌ ဟောကြားထားပါသည်။

ဤဗုဒ္ဓဘာသာဝင်တို့၏ အခြေခံ ယုံကြည်ချက်ကြီး ၁၀ ချက်ကို မယုံကြည်သူများမှာ ကမ္မပထမြောက်သည့်မိစ္ဆာဒိဋ္ဌိကြီးသုံးမျိုးတွင် နတ္ထိက မိစ္ဆာဒိဋ္ဌိကြီးမှာ ပါဝင်သဖြင့် အလွန်ကြောက်စရာ ကောင်းလှပေသည်။

သရဏဂုံကို ခံယူ ဆောက်တည်ထားသော်ငြားလည်း ဘုရား ဟော တရားတော်ကို မယုံကြည်ရာရောက်၍ ဗုဒ္ဓဘာသာဝင် အမည်ခံနေ စေကာမူ ဥဒေါင်းယောင်ဆောင်သော ကျီးငှက်သာ ဖြစ်မည်ကို သတိထား သင့်ကြသည်။

ထို့ကြောင့် ဗုဒ္ဓဘာသာဝင်တို့သည် ဘုရားရှင်၏ လောကဝိဒူ ဂုဏ်တော်ကြီးနှင့် ဗုဒ္ဓတရားတော်၏ သွာက္ခာတဂုဏ် ဂုဏ်တော်တို့ကို သက်ဝင်ယုံကြည်သောအားဖြင့် ဩကာသလောကတွင် ၃၁ ဘုံရှိကြောင်း သံသယကင်းစွာ ယုံကြည်သင့်ကြပေသည်။

❒



# နတ်ဆိုသည်မှာ

ဤအခန်းမှစ၍ နတ်များအကြောင်းကို စတင် ရေးသားပါမည်။ နတ်ကို ပါဠိလို ဒေဝ ဟူ၍ လည်းကောင်း၊ ဒေဝတာ ဟူ၍ လည်းကောင်း ခေါ်ဝေါ် သုံးစွဲပေသည်။

ပါဠိလို ဒေဝ၊ ဒေဝတာ၊ မြန်မာလို နတ်ကို ပဋ္ဌာန်းမူလဋီကာကျမ်း၊ ဝိသုဒ္ဓိမဂ်မဟာဋီကာကျမ်းကြီးများ၌ –

(၁) လူသားတို့အား ရာထူးဌာနန္တရ စသော ဥစ္စာစည်းစိမ်ကို ပေးတတ်သူ။

(၂) လူသားတို့၏ ပူဇော်သက္ကာရကို ခံယူတတ်သူ။

(၃) အကျိုးတရားပြ၍ ညွှန်ကြားဆုံးမတတ်သူ။

(၄) ပျက်စီးခြင်း ဒုက္ခအမျိုးမျိုးတို့မှ လွတ်ကင်းလိုသူတို့က 'ငါတို့ ကိုးကွယ်ရာ ဖြစ်ပေသည်' ဟု ကိုးကွယ် ဆည်းကပ် ချီးမွမ်းအပ်သူတို့ ဖြစ်သည်ဟု ဖွင့်ဆိုပြထားကြပေသည်။

ဤသို့ လောကီအကျိုး၊ လောကုတ္တရာအကျိုးတို့အတွက် လူသားတို့၏ ကိုးကွယ်ရာ ဖြစ်ပေသောကြောင့် နတ် ဟု ခေါ်ဆိုနေကြသည့် မြန်မာဝေါဟာရသည် ကိုးကွယ်ရာဟု အနက်အဓိပ္ပာယ်ရှိသည့် နာထ ပါဠိပုဒ်မှ ဆင်းသက်လာသော ဝေါဟာရဖြစ်သည်ဟု ဝေါဟာရလီနတ္ထဒီပနီကျမ်းတွင် မိန့်ဆိုထားပေသည်။

(နာထ=နာထိ=နတ်)

## နတ်သုံးမျိုးမှာ

ထိုနတ်ခေါ်ရသောပုဂ္ဂိုလ်မျိုးမှာ သုံးမျိုးသုံးစားရှိကြောင်း အဘိဓမ္မာပိဋကတ် ဝိဘင်္ဂပါဠိတော် ဓမ္မဟဒယဝိဘင်း၌ ဗုဒ္ဓ ရှင်တော်မြတ်ဘုရား ဟောကြားတော်မူခဲ့ပါသည်။

ထိုနတ်သုံးမျိုးမှာ –

(၁) သမ္မုတိနတ်

(၂) ဥပပတ္တိနတ်

(၃) ဝိသုဒ္ဓိနတ် တို့ ဖြစ်ပါသည်။

ထိုသုံးမျိုးတွင် သမ္မုတိနတ် ဆိုသည်မှာ လောကရှိ လူအပေါင်းတို့က မိမိတို့၏ အကြီးအကဲ ခေါင်းဆောင်အဖြစ် သမုတ်တင်မြှောက်ထားသည့် မင်း၊ မိဖုရား မင်းညီမင်းသားတို့ ဖြစ်ပါသည်။

ဥပပတ္တိနတ် ဆိုသည်မှာ အမိသားအိမ်၌ ပဋိသန္ဓေတည်၍ ပေါက်ဖွားလာသည့် ဇလာဗုဇသတ္တဝါ၊ ဥခွံတွင်း၌ ပဋိသန္ဓေတည်၍ ပေါက်ဖွားလာသည့် အဏ္ဍဇသတ္တဝါ၊ ပဒုမ္မာကြာတိုက်, ကိုယ်ဝန်အညစ်အကြေး, သစ်ခေါင်း, ရေဟောင်းရေဆွေး, ရွှံ့ညွန် စသော ကောင်းစွာ စိုစွတ်စေးချွဲသည့်နေရာများ၌ ပဋိသန္ဓေတည်၍ ပေါက်ဖွားလာကြသည့် သံသေဒဇသတ္တဝါမျိုးများ မဟုတ်ပါချေ။

ဩပပါတိက ပဋိသန္ဓေမျိုးဖြင့် ဘဝဟောင်းမှ ခုန်လွှားကျရောက်လာဘိသကဲ့သို့ ခန္ဓာကိုယ် အထင်အရှားဖြင့် ဘွားခနဲ ပေါ်လာကြသည့် စတုမဟာရာဇ်နတ်ဘုံမှစ၍ အထက်ဘဝဂ်တိုင်အောင်သော ဘုံတို့၌ နေကြသောနတ်များ ဖြစ်ကြသည်။

ထိုဥပပတ္တိနတ်တို့တွင် ကာမဘုံ၌နေသော (၀၁) နတ်ပြည်ခြောက်ထပ်၌ နေသောနတ်တို့ကို နတ်ဟု ခေါ်ဝေါ်ကြပြီး ရူပဘုံ၊ အရူပဘုံတို့၌ နေသည့်နတ်တို့ကိုမူ **နတ်** ဆိုသည့် အမည်အပြင် ဗြဟ္မာ ဟူသော အမည်ဖြင့်လည်း ခေါ်ဝေါ်ပေသည်။

ဝိသုဒ္ဓိနတ် ဆိုသည်မှာ ကိလေသာ အာသဝေါတရားတို့မှ လုံး၀ စင်ကြယ်သွားကြပြီဖြစ်သော ဘုရား၊ ပစ္စေကဗုဒ္ဓ၊ ရဟန္တာပုဂ္ဂိုလ်များ ဖြစ်၏။





ထို နတ်သုံးမျိုးတို့တွင် သမ္မုတိနတ် ခေါ် မင်းစိုးရာဇာတို့သည် အခွင့်သင့်က ရာထူးဌာနန္တရ စသော လောကစည်းစိမ်ကို ပေးနိုင်ခြင်း၊ ပူဇော်သက္ကာရကို ခံယူခြင်း၊ ကျိုးကြောင်းပြသ ဆုံးမနိုင်ခြင်း ဆိုသည့် တန်ခိုးသုံးမျိုးကို ဖြစ်စေနိုင်သည်ဟု မျက်မှောက်ထင်ထင် တွေ့မြင်နေရကား ကျန်နတ်နှစ်မျိုးမှာ ဆိုဖွယ်ရာ မရှိပေနိုင်၊ ဖြစ်နိုင်ကြပေသည်။

ဝိသုဒ္ဓိနတ်များမှာမူ မျက်မှောက်ဘဝ၌သာ မဟုတ် ပစ္စုပ္ပန်၊ သံသရာ နှစ်ဖြာလုံး၌ လောကီအကျိုး၊ လောကုတ္တရာအကျိုး အမျိုးမျိုးကို ပေးစွမ်းနိုင်ပါသည်။

## ဗုဒ္ဓကျမ်းလာ နတ်ဒေဝါများ

ဤဖော်ပြခဲ့ပြီးသော နတ်သုံးမျိုးတွင် **ဗုဒ္ဓကျမ်းလာ နတ်ဗြဟ္မာများ** ဟူသော ခေါင်းစဉ်အရ ဤ၌ ဥပပတ္တိနတ်အကြောင်းကိုသာ တင်ပြပါမည်။

ဥပပတ္တိနတ်တွင် နတ်၊ ဗြဟ္မာ နှစ်မျိုး ပါဝင်ပေရာ နတ်များအကြောင်းကို ရှေးဦးစွာ ဖော်ပြပါမည်။

မြန်မာလို နတ် ဟုခေါ်သည့် ဒေဝ ဆိုသော ပါဠိပုဒ်ကို **ရှုပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ ဟူသော ကာမဂုဏ်ငါးမျိုးတို့ဖြင့် မြူးထူး ပျော်ပါး ကစားတတ်သူများ၊ အမျိုးမျိုးသော တန်ခိုးအထူးထူးတို့ဖြင့် ထွန်းလင်း တောက်ပကြသူများ** ဟု ကျမ်းဂန်များ၌ တစ်မျိုး ဖွင့်ဆိုပါသေးသည်။

မှန်ပါသည်။ နတ်စည်းစိမ်သည် လူ့စည်းစိမ်ထက် အရာရာမှာပင် သာလွန်ပေသည်။ သမန်းမြက်ဖျားပေါ်က ဆီးနှင်းပေါက်ကလေးနှင့် သမုဒ္ဒရာ ရေပမာဏများ ကွာခြားသလောက် လူစည်းစိမ်နှင့် နတ်စည်းစိမ်များ ကွာခြားလှသည်ဟု မဟာသုတသောမဇာတက ပါဠိတော်စသည်တို့၌ ဟောထား၏။

လူသားတို့မှာ မိမိတို့ စားဝတ်နေရေးအတွက် နေ့ရှိသရွေ့၊ အချိန်ပြည့် လှုပ်ရှားရုန်းကန် ရှာဖွေနေကြရသဖြင့် အထိုက်အလျောက် ရရှိလာကြသည့် စည်းစိမ်ဥစ္စာကလေးကိုပင် ကျကျနန မခံစားနိုင်ရှာကြပါ။

နတ်တို့မှာကား လူသားများကဲ့သို့ အစာအာဟာရများကိုလည်း

ရှာဖွေနေစရာ မလိုပေ။ အချိန်တန်သည့်အခါ နတ်သြဇာများကို အဆင်သင့် စားသောက်ကြရ၏။ အဝတ်တန်ဆာများနှင့် နေထိုင်စရာ ဘုံဗိမာန်များ သည်လည်း ရှေးကုသိုလ်ကံကြောင့် အဆင်သင့် ပေါ်ပေါက်နေပြီး ဖြစ်ပါ သည်။ အရွယ်အားဖြင့်လည်း နတ်သားတို့မှာ အသက် ၂၀ အရွယ်နှင့် နတ်သမီးတို့မှာ ၁၆ နှစ်အရွယ်ရှိကြပြီး သွားကျိုး၊ ဆံဖြူ၊ နားအူ၊ မျက်မွဲ၊ အရေတွန့်တွဲခြင်း မရှိ ပကတိ အလှမပျက်ဘဲ တစ်သက်လုံး ထိုအရွယ် အတိုင်း တည်ကြ၏။

ယင်းသို့ စားရေး၊ ဝတ်ရေး၊ နေထိုင်ရေးတို့အတွက် ကြောင့်ကြ စိုးရိမ်ရမှု၊ အားထုတ်ရှာဖွေရမှုမျိုး လုံးဝ မရှိသောကြောင့် အာရုံငါးပါး ကာမဂုဏ်တရားတို့ကို အားပါးတရ အချိန်ပြည့် ခံစား စံစား ပျော်ပါး နေကြသူများ ဖြစ်သည်။

နတ်တို့ပြည်ကား ကာမဂုဏ်စခန်း အစွမ်းကုန် ပျော်မွေ့ဖွယ် ကောင်းသလောက်လည်း ပျော်မွေ့လေ့ ရှိကြသောကြောင့် ကာမဂုဏ်ကို စက်ဆုပ်သည့် အနာဂါမ်၊ ရဟန္တာ ပုဂ္ဂိုလ်တို့ နတ်ပြည်မှာ ကြာရှည်စွာ မနေနိုင်ကြတော့ဘဲ အနာဂါမ်နတ်တို့မှာ ဗြဟ္မာပြည်သို့ စုတေ ပြောင်းရွှေ့ သွားကြသကဲ့သို့ ရဟန္တာတို့မှာ ပရိနိဗ္ဗာန် စံဝင်ကြလေတော့၏။

## နတ်ပြည်ခြောက်ထပ်နှင့် နတ်မင်းကြီးများ

ထိုကာမဂုဏ်စည်းစိမ်ရှင်တို့ နေထိုင်ရာ နတ်ပြည်များမှာ ၆ ပြည် ရှိသည်ဟု ဝိဘင်းပါဠိတော်၊ ကထာဝတ္ထုပါဠိတော်၊ ဝိနည်းမဟာဝါပါဠိ တော် စသော ထိုထို ပါဠိတော်များ၌ မြတ်စွာဘုရား ဟောကြားထား၏။

ထိုနတ်ပြည်ခြောက်ပြည်မှာ –

(၁) စတုမဟာရာဇ်
(၂) တာဝတိံသာ
(၃) ယာမာ
(၄) တုသိတာ
(၅) နိမ္မာနရတိ
(၆) ပရနိမ္မိတဝသဝတ္တီ





ဟူ၍ ဖြစ်သည်။

ထိုနတ်ပြည်တို့မှာ ဖော်ပြပါ အစဉ်အတိုင်း တစ်ပြည်ထက် တစ်ပြည် မြင့်ကာ အဆင့်လိုက်၊ အထပ်လိုက် တည်ရှိနေကြပါသည်။ ထို့ကြောင့် နတ်ပြည်ခြောက်ထပ်ဟု ခေါ်ဝေါ်ခြင်း ဖြစ်သည်။

**လေးသောင်းနှစ်ထောင် အကွာဆောင်၊ လူ့ဘောင် ဆင့်ဆင့်သိ** ဆိုသည့်အတိုင်း လူ့ပြည်မှ အထက် ယူဇနာလေးသောင်းနှစ်ထောင် အကွာ အမြင့်မှာ စတုမဟာရာဇ်နတ်ပြည် တည်ရှိသကဲ့သို့ နတ်ပြည်တစ်ပြည်နှင့် တစ်ပြည်လည်း အစဉ်အတိုင်း အထက်သို့ ယူဇနာပေါင်း လေးသောင်း နှစ်ထောင်စီ ကွာဝေးကြပေသည်။

ထိုနတ်ပြည်ခြောက်ထပ်ကို အုပ်စိုးကြသည့် နတ်မင်းကြီးများမှာ စတုမဟာရာဇ်နတ်ပြည်တွင် ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ဝေဿဝဏ် ခေါ် ကုဝေရနတ်မင်း ဟူသော နတ်မင်းကြီး လေးပါးတို့သည် သိကြားမင်း ကိုယ်စား အုပ်စိုးကြသည်။

သိကြားမင်းမှာ စတုမဟာရာဇ်နှင့်တာဝတိံသာ နတ်ပြည်နှစ်ပြည် ၏ဘုရင် ဖြစ်သည်။ ယာမာနတ်ပြည်ကို ယာမာ ခေါ် သုယာမနတ်မင်း၊ တုသိတာနတ်ပြည်ကို သန္တုဿိတနတ်မင်း၊ နိမ္မာနရတိ နတ်ပြည်ကို သုနိမ္မိတ နတ်မင်း၊ ပရနိမ္မိတဝသဝတ္တီနတ်ပြည်ကို ဝသဝတ္တီ နတ်မင်းကြီးတို့ အသီးသီး အုပ်ချုပ် မင်းလုပ်ကြ၏။

## နတ်တို့ဖြစ်ပေါ်ပုံများနှင့် နတ်ပြည်ရှိ ပုဂ္ဂိုလ်အစားစား

မိမိတို့ ပြုလုပ်ခဲ့ကြသည့် ဒါန၊ သီလ၊ ဘာဝနာကောင်းမှု ကာမ ကုသိုလ်၏ စွမ်းအား အကြီး, အငယ်အားဖြင့် လည်းကောင်း၊ သာသနာပ ကုသိုလ်, သာသနာတွင်းကုသိုလ်အားဖြင့် လည်းကောင်း၊ ဘဝကို နှစ်သက် တွယ်တာမှု ဘဝနိကန္တိအားဖြင့် လည်းကောင်း တန်ခိုးကြီးသောနတ်၊ တန်ခိုးငယ်သောနတ်၊ အောက်ဘုံနတ်၊ အထက်ဘုံနတ်၊ သုဂတိအဟိတ် ပုထုဇဉ်နတ်၊ ဒွိဟိတ်ပုထုဇဉ်နတ်၊ တိဟိတ်ပုထုဇဉ်နတ်၊ အရိယာနတ် စသည်ဖြင့် နတ်အမျိုးမျိုး ဖြစ်ကြရသည်။

ထိုတွင် သုဂတိ အဟိတ်ပဋိသန္ဓေ (အဟိတ် ကုသလဝိပါက်

ဥပေက္ခာသန္တီရဏ) စိတ်ဖြင့် ပဋိသန္ဓေနေသောနတ်ကို သုဂတိ အဟိတ် ပုထုဇဉ်နတ်ဟု ခေါ်၏။

ထို့အတူ ဒွိဟိတ် မဟာဝိပါက်စိတ် တစ်ပါးပါးနှင့် ပဋိသန္ဓေနေသော နတ်တို့ကို ဒွိဟိတ်ပုထုဇဉ်နတ်။

တိဟိတ် မဟာဝိပါက်စိတ်တစ်ပါးပါးနှင့် ပဋိသန္ဓေနေသောနတ်တို့ကို တိဟိတ်ပုထုဇဉ်နတ်၊

လူ့ဘဝတွင် ဝိသာခါ၊ အနာထပိဏ် စသည်တို့ကဲ့သို့ သောတာပန်၊ သကဒါဂါမ် အရိယာ အဖြစ်ဖြင့်သာ နတ်ပြည်၌ သွားဖြစ်ကြသော နတ်တို့ကို (ဝါ) နတ်ပြည်ရောက်မှ တစ်မဂ် တစ်ဖိုလ်ရကြသော နတ်တို့ကို အရိယာနတ် ဟူ၍ အသီးသီး ခေါ်ပါသည်။

သာသနာတွင်း ကုသိုလ်ရှင်နတ်က သာသနာပ ကုသိုလ်ရှင် နတ်ထက် တန်ခိုးကြီးသည်။ ကုသိုလ်စွမ်းအားကြီးသောနတ်က ကုသိုလ် စွမ်းအားငယ်သောနတ်ထက် တန်ခိုးလည်း ကြီးသည်။ အထက်တန်းကျ သည့်ဘုံ၌လည်း ဖြစ်ရသည်။

အောက်ဘုံနတ်၊ အထက်ဘုံနတ်များ ဖြစ်ရာတွင် ကုသိုလ်ကံ ကြီးသော်လည်း ဘဝကို နှစ်သက်တွယ်တာမှု နိကန္တိက ပဲ့ကိုင်လမ်းညွှန် ပေးသည့်ဘုံတွင် ဖြစ်ရသည်။

ဗိမ္ဗိသာရဘုရင်လည်း ကျောင်းဒကာ သောတာပန်၊ အနာထပိဏ် သူဌေးလည်း ကျောင်းဒကာ သောတာပန်၊ ဒါယိကာမ (အလှူအတန်း၌ ပျော်မွေ့သူ) စေတဒဂ်ရ ဝိသာခါလည်း ကျောင်းအမ သောတာပန်။

ဒါယိကာ (အလှူအတန်း၌ ပျော်မွေ့သူ) စေတဒဂ်ရ ပုဂ္ဂိုလ်မွန်များ ဖြစ်ကြသော်လည်း စုတေကြသည့်အခါ ဗိမ္ဗိသာရဘုရင်ကြီးက အောက်ဆုံး စတုမဟာရာဇ်နတ်ဘုံတွင် ဝေဿဝဏ်နတ်မင်းကြီး၏အခြံအရံ ဇနဝသဘ နတ်စစ်သူကြီး သွားဖြစ်သည်။ အနာထပိဏ်သူဌေးက တုသိတာနတ်ပြည် တွင် အနာထပိဏ္ဍိကနတ်သား၊ ဝိသာခါ ကျောင်းအမကြီးက နိမ္မာနရတိ နတ်ပြည်တွင် သုနိမ္မိတနတ်မင်း၏ နတ်မိဖုရား သွားဖြစ်ကြသည်။

ဤကဲ့သို့ ဖြစ်ကြရသည်မှာ ဗိမ္ဗိသာရတစ်ဖြစ်လဲ ဇနဝသဘနတ် စစ်သူကြီး လျှောက်ထားသည့်အတိုင်း ဆိုင်ရာနတ်ပြည်တို့၌ ဖြစ်လိုမှု၊





ဖြစ်ချင်မှု ဘဝနိကန္တိက ပဲ့ကိုင်လမ်းညွှန်ပေးမှုကြောင့်ပင် ဖြစ်ပါသည်။

ဗုဒ္ဓမြတ်စွာ၏ 'သီလရှိသောပုဂ္ဂိုလ်မှာ စင်ကြယ် သန့်ရှင်းသည့် အတွက် မိမိစိတ်က တောင့်တသည့်အတိုင်း ပြည့်စုံနိုင်သည်။ **ဣဇ္ဈတိ ဘိက္ခဝေ သီလဝတော စေတောပဏိဓိ သီလဝိသုဒ္ဓတ္တာ**' ဟု အင်္ဂုတ္တိုရ်ပါဠိတော် တွင် ဟောတော်မူချက်အတိုင်း သီလကုသိုလ် စသော ကောင်းမှုကုသိုလ် များသူတို့မှာ မိမိတို့ ဖြစ်လိုရာ နတ်ပြည်များတွင် ဖြစ်နိုင်ကြပါသည်။

စတုမဟာရာဇ်နတ်မျိုးတွင် ပါဝင်ကြသည့် ဘုမ္မစိုးနတ်များမှ တစ်ပါး ကျန်နတ်များ အားလုံးမှာ ဇလာဗုဇ(သားအိမ်၌ဖြစ်သူ)၊ အဏ္ဍဇ (ဥခွံတွင်း၌ဖြစ်သူ)၊ သံသေဒဇ (စိုစွတ် စေးချွဲသည့်နေရာများ၌ ဖြစ်သူ) သတ္တဝါမျိုး မဟုတ်ဘဲ ဩပပါတိက ပဋိသန္ဓေဖြင့် ဘဝဟောင်းမှ ခုန်လွှား ကျရောက်လာဘိသကဲ့သို့ ခန္ဓာကိုယ် အထင်အရှားဖြင့် ဘွားခနဲ ပေါ်လာ သော ဥပပတ်သတ္တဝါများ ဖြစ်ကြသည်။

ဘုမ္မစိုးနတ်များမှာမူ အမိဝမ်း၌ ပဋိသန္ဓေနေခြင်း၊ ကိုယ်အထင် အရှား ဘွားခနဲ ပေါ်လာခြင်း စသော ပဋိသန္ဓေ လေးမျိုးလုံးဖြင့် ပဋိသန္ဓေ နေနိုင်သောနတ်တို့ ဖြစ်သည်ဟု ကျမ်းဂန်များ၌ ဆို၏။

ဤဩကာသလောက၌ မြေကြီးနှင့်ဆက်သွယ်နေသည့် သစ်ပင်၊ တော၊ တောင် စသည်တို့၌ နေထိုင်ကြသည့် နတ် ဟူသမျှကို ဘုမ္မစိုးနတ် ဟုခေါ်သည်။ ထို့ကြောင့် တောစောင့်နတ်၊ တောင်စောင့်နတ်၊ ရုက္ခစိုး နတ်များသည်လည်း ဘုမ္မစိုးနတ်များတွင် အကျုံးဝင်ကြသည်။

ထိုဘုမ္မစိုးနတ် ခေါ် နတ်ကြီးများကို မှီခိုနေကြရသော အညံ့စား နတ်ငယ်ကလေးများလည်း ရှိပေသည်။ ထို တန်ခိုးဣဒ္ဓိပါဒ်နည်းသော နတ်ကလေးများသည် ကိုယ်ပိုင်ဘုံဗိမာန် မရှိကြသဖြင့် တောချုံပုတ်တို့၌ လည်းကောင်း၊ လှိုဏ်မြောင်းများ၌ လည်းကောင်း၊ တိုက်ပျက် တိုက်အို ဂူအို ကြီးများ၌ လည်းကောင်း၊ သုသာန်သင်္ချိုင်း စသည်တို့၌ လည်းကောင်း မှီခိုကပ်ရပ်၍ နေကြရ၏။ ထိုနတ်ငယ်များကို ချမ်းသာအပေါင်းမှ ကင်းသော ကြောင့် ဝိနိပါတိက အသူရာဟု ခေါ်သည်။

(ဝိနိပါတိက=ချမ်းသာမှကင်းသော+အ=ငယ်သော+သူရာ=နတ်များ)

ထိုဝိနိပါတိက အသူရာ ခေါ် စတုမဟာရာဇ်နတ်များသည် အများ

အားဖြင့် သုဂတိ အဟိတ်ပဋိသန္ဓေစိတ်ဖြင့် ပဋိသန္ဓေနေကြသည့် သုဂတိ အဟိတ်ပုထုဇဉ်နတ်များ ဖြစ်ကြသည်။ ဒွိဟိတ်ပဋိသန္ဓေစိတ်၊ တိဟိတ် ပဋိသန္ဓေစိတ်တို့ဖြင့် ပဋိသန္ဓေနေကြသည့် ဒွိဟိတ်ပဋိသန္ဓေနတ်၊ တိဟိတ် ပဋိသန္ဓေနတ်များလည်း ရှိကြသေးသည်။

ထိုဝိနိပါတိက အသူရာနတ်ငယ်ကလေးများမှတစ်ပါး ကျန်နတ်များ အားလုံးမှာ ဒွိဟိတ် ပုထုဇဉ်နတ်၊ တိဟိတ် ပုထုဇဉ်နတ်၊ အရိယာနတ်များ ဖြစ်ကြသည်။

ဝိနိပါတိက အသူရာ နတ်ကလေးများမှာ တိဟိတ်ပုထုဇဉ် ဖြစ်ပါက လက်ရှိဘဝမှာပင် တစ်မဂ် တစ်ဖိုလ် ရနိုင်ပေသည်။ နောက်ပိုင်းတွင် အကျယ်တင်ပြပါမည်။

နတ်ပြည်ခြောက်ထပ်ရှိ နတ်များကို ပုဂ္ဂိုလ်အစားစားနှင့် ဝေဖန်၍ပြရလျှင် စတုမဟာရာဇ်နတ်ပြည်တွင် သုဂတိ အဟိတ်ပုထုဇဉ်၊ ဒွိဟိတ်ပုထုဇဉ်၊ တိဟိတ် ပုထုဇဉ်၊ အရိယာပုဂ္ဂိုလ် ရှစ်ယောက်အားဖြင့် ပုဂ္ဂိုလ်အမျိုးအစား ၁၁ မျိုး ရှိပါသည်။

အထက် နတ်ပြည်ငါးထပ်၌ ဒွိဟိတ်ပုထုဇဉ်၊ တိဟိတ်ပုထုဇဉ်၊ အရိယာပုဂ္ဂိုလ် ရှစ်ယောက်အားဖြင့် ပုဂ္ဂိုလ်အမျိုးအစား ၁၀ မျိုး ရှိပါသည်။

## နတ်တို့၏ သက်တမ်းများ

(၁) စတုမဟာရာဇ် နတ်မျိုးတွင် ပါဝင်ကြသော **ဘုမ္မစိုးနတ်၊ ဝိနိပါတိက အသူရာနတ်** တို့မှာ အသက်တမ်း မမြဲကြ။ ကံအစွမ်းသတ္တိရှိကြသည့်အတိုင်း အသက်ရှည်ကြ၊ တိုကြရသည်။

အချို့ ဘုမ္မစိုးနတ်တို့မှာ ခုနစ်ရက်၊ လဝက်၊ တစ်လ စသည်လောက်သာ အသက်ရှည်ကြသော်လည်း အချို့မှာ အသင်္ချေယျကပ်အထိတိုင် အသက်ရှည်ကြသည်ဟု ဝိဘင်းအဋ္ဌကထာ စသောကျမ်းတို့၌ ဖွင့်ပြထားပေသည်။

ဘုမ္မစိုးနတ်၊ ဝိနိပါတိက အသူရာနတ်တို့မှတစ်ပါး အထက်နတ်ဘုံ၌ တည်ကြသော စတုမဟာရာဇ်နတ်တို့၏ အသက်တမ်းကား သူတို့





နတ်တွက်ကိန်းဖြင့် နှစ်ပေါင်း ၅၀၀ ဖြစ်သည်။

လူ့ပြည်၌ အနှစ် ၅၀ သည် ထိုစတုမဟာရာဇ်နတ်ပြည်၌ တစ်နေ့နှင့်တစ်ည (ဝါ) တစ်ရက်နှင့် ညီမျှ၏။

ထိုကဲ့သို့ ရက်ပေါင်း ၃၀ သည် တစ်လ၊ လပေါင်း ၁၂လသည် တစ်နှစ်၊ ထိုကဲ့သို့ နှစ်မျိုး ၅၀၀ သည် စတုမဟာရာဇ်နတ်တို့၏ သက်တမ်း ဖြစ်၏။

ထိုစတုမဟာရာဇ်နတ်တို့၏ အနှစ် ၅၀၀ သည် လူတို့ တွက်ကိန်းအားဖြင့် အနှစ်ကိုးသန်း ရှိလေသည်။

(၂) **တာဝတိံသာနတ်သက်**။ တာဝတိံသာနတ်တို့၏ သက်တမ်းမှာ ထိုနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၁၀၀၀ ဖြစ်သည်။ လူတို့၏ နှစ်ပေါင်း ၁၀၀ သည် တာဝတိံသာနတ်ပြည်၌ တစ်ရက် ဖြစ်၏။ ထို့ကြောင့် ထိုနတ်တို့၏ အနှစ် ၁၀၀၀ သည် လူသားတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း သုံးကုဋေခြောက်သန်း ရှိ၏။ စတုမဟာရာဇ်နတ်တို့၏ အရေအတွက်အားဖြင့် အနှစ် (၂၀၀၀) ဖြစ်သည်။

(၃) **ယာမာနတ်သက်**။ ယာမာနတ်တို့၏ သက်တမ်းမှာ ထိုနတ်တို့ အရေအတွက်အားဖြင့် နှစ်ပေါင်း ၂၀၀၀ အသက်ရှည်၏။ လူတို့၏ အနှစ် ၂၀၀ သည် ယာမာနတ်ပြည်၌ တစ်ရက် ဖြစ်၏။ ထို့ကြောင့် ထိုနတ်တို့၏ အနှစ် ၂၀၀၀ သည် လူသားတို့၏ အရေအတွက်အားဖြင့် အနှစ် တစ်ဆယ့်လေးကုဋေလေးသန်းရှိ၏။ တာဝတိံသာနတ်တို့၏ အရေအတွက်အားဖြင့် အနှစ် ၄၀၀၀ ဖြစ်သည်။

(၄) **တုသိတာနတ်သက်**။ တုသိတာနတ်တို့၏ သက်တမ်းမှာ ထိုနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၄၀၀၀ အသက်ရှည်၏။ လူတို့၏ အနှစ် ၄၀၀ သည် တုတိတာနတ်ပြည်၌ တစ်ရက် ဖြစ်၏။ ထို့ကြောင့် ထိုနတ်တို့၏ အနှစ် ၄၀၀၀ သည် လူသားတို့၏အရေအတွက်အားဖြင့် အနှစ် ငါးဆယ့်ကုဋေခြောက်သန်းရှိ၏။ ယာမာနတ်တို့၏ အရေအတွက်အားဖြင့် အနှစ် ၈၀၀၀ ဖြစ်သည်။

(၅) **နိမ္မာနရတိနတ်သက်**။ နိမ္မာနရတိနတ်တို့၏ သက်တမ်းမှာ ထိုနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၈၀၀၀ အသက်ရှည်၏။

လူတို့၏ အနှစ် ၈၀၀ သည် နိမ္မာနရတိနတ်ပြည်၌ တစ်ရက် ဖြစ်၏။ ထို့ကြောင့် ထိုနတ်တို့၏ အနှစ် ၈၀၀၀ သည် လူသားတို့၏ အရေအတွက်အားဖြင့် ကုဋေ ၂၃၀ နှင့် လေးသန်းရှိ၏။ တုသိတာနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း တစ်သောင်းခြောက်ထောင် ဖြစ်၏။

(၆) **ပရနိမ္မိတဝသဝတ္တီနတ်သက်။** ပရနိမ္မိတဝသဝတ္တီ နတ်တို့၏ သက်တမ်းမှာ ထိုနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၁၆၀၀၀ အသက်ရှည်၏။ လူတို့၏ အနှစ် ၁၆၀၀ သည် ပရနိမ္မိတဝသဝတ္တီနတ်ပြည်၌ တစ်ရက် ဖြစ်၏။ ထို့ကြောင့် ထိုနတ်တို့၏ အနှစ် ၁၆၀၀၀ သည် လူသားတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၉၂၁ ကုဋေ ခြောက်သန်းရှိပေသည်။ နိမ္မာနရတိနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၃၂၀၀၀ ဖြစ်သည်။

## တာဝတိံသာနတ်ပြည်ပြန် အမျိုးသမီး

ဗုဒ္ဓ ရှင်တော်မြတ်ဘုရား သက်တော်ထင်ရှားရှိစဉ်က တစ်ချိန်တွင် တာဝတိံသာနတ်ပြည်မှ မာလာဘာရီမည်သော နတ်သားတစ်ဦးသည် အေးချမ်းသာယာစွာ နေလို၍ နတ်သမီးတစ်ထောင်ခြံရံကာ ပန်းဥယျာဉ်ကြီးအတွင်းသို့ ဝင်ရောက်ခဲ့သည်။

ပန်းဥယျာဉ်ကြီးတွင် နတ်သမီးငါးရာတို့က ပန်းပင်ပေါ်တက်၍ ပန်းခူးပြီး ကျန်နတ်သမီးငါးရာတို့က ပစ်ချပေးသမျှသော ပန်းတို့ကို ကောက်ကာ မာလာဘာရီ နတ်သားအား ဆင်မြန်းပေးကြ၏။ ပန်းတက်ခူးကြသည့် နတ်သမီးငါးရာတွင် နတ်သမီးတစ်ယောက်သည် ပန်းခူးရင်း သစ်ပင်ပေါ်မှာပင် စုတေ ပျောက်ကွယ်သွား၏။

ဥပပါတ်သတ္တဝါတို့ ထုံးစံ ဓမ္မတာအတိုင်း အလောင်းကောင် မကျန်ရစ်ဘဲ ဆီမီးငြိမ်းသည့်ပမာ ပျောက်ကွယ်သွားရခြင်း ဖြစ်ပါသည်။

ထို နတ်သမီးသည် သာဝတ္ထိမြို့သူ တစ်ယောက်၏ ဝမ်း၌ ပဋိသန္ဓေနေသည်။

ဖွားမြင်လာသောအခါ ဇာတိဿရဉာဏ်ကို ရရှိသဖြင့် တာဝတိံသာနတ်ပြည်၌ မာလာဘာရီနတ်သား၏ဇနီး နတ်သမီး ဖြစ်ခဲ့





သည်ကို သိမြင်ကာ ခင်ပွန်းနတ်သားအား သတိရ လွမ်းဆွတ်နေသည်။ ကြီးပြင်းလာသောအခါ ရတနာသုံးပါးအား ပန်း၊ နံ့သာ စသည်တို့ဖြင့် ပူဇော်၍ မာလာဘာရီနတ်သားထံ ပြန်ရောက်ဖို့ ဆုတောင်းလေ့ရှိ၏။

အသက် ၁၆ နှစ်အရွယ်တွင် အိမ်ထောင်ကျ၍ လင့်အိမ်သို့ လိုက်နေရသော်လည်း ကုသိုလ်ကောင်းမှု ပြုသည့်အခါတိုင်းပင် မာလာဘာရီနတ်သားထံ ပြန်ရောက်ရန် ဆုတောင်းသည်။

ထို့ကြောင့် ထိုအမျိုးသမီးအကြောင်းကို သိကြသည့် ရဟန်းတော်များက ထိုအမျိုးသမီးကို ပတိပူဇိကာဟု အမည်ပေးကြ၏။ ပတိပူဇိကာ ဆိုသည်မှာ လင်ကို မြတ်နိုးတောင့်တသည့်အမျိုးသမီးဟု အဓိပ္ပာယ်ရသည်။

ထိုပတိပူဇိကာ အမျိုးသမီးသည် သာဝတ္ထိမြို့၌ သားယောကျ်ားကလေး လေးယောက်ရသည်အထိ အသက်ရှည်ခဲ့သည်။ တစ်နေ့တွင် ပတိပူဇိကာသည် အလှူအတန်းပြုခြင်း၊ တရားတော်ကို နာယူခြင်း၊ ဥပုသ်သီလ စောင့်ထိန်းခြင်းတို့ကို ပြုလုပ်၍ ညချမ်းကာလ ရောက်သည့်အခါ တစ်စုံတစ်ခုသော ရောဂါကြောင့် သေဆုံးကာ တာဝတိံသာနတ်ပြည် မာလာဘာရီ နတ်သားထံ ပြန်ရောက်သွားလေသည်။

ထိုအချိန်တွင် သူနှင့်အတူ ပန်းခူးနေကြသည့် နတ်သမီးများမှာ ပန်းပင်ပေါ်တွင် ပန်းခူးနေကြဆဲပင် ဖြစ်၏။

မာလာဘာရီနတ်သားက –

"အသင် နတ်သမီးကို စောစောက မမြင်ပါလား၊ ဘယ်သွားနေသလဲ" ဟု မေးရာ –

"အရှင်၊ ကျွန်ုပ် သေဆုံးသွားပါသည်" ဟု ပြော၏။

"အို–ဘယ်လို ပြောတာလဲ၊ သေတယ်ဆိုတာ ဟုတ်ရဲ့လား"

ဟု ထပ်မေးသည့်အခါ ပတိပူဇိကာက ပန်းခူးရင်း သေဆုံးရာမှစပြီး လူ့ပြည်၌ သားလေးယောက် ရရှိခဲ့ပုံ အလုံးစုံတို့ကို ဖြစ်ကြောင်းကုန်စင် ပြန်လည် တင်ပြ ပြောဆိုရပေသည်။

ထိုအခါ နတ်သားက –

"လူသားတွေက အသက် ဘယ်လောက် ရှည်ကြသလဲ"

ဟု မေးရာ –

"အနှစ်တစ်ရာလောက် ရှည်ကြပါတယ်"

ဟု ပြန်ပြောသတဲ့။

"ဒီလိုဆိုရင် ကုသိုလ်ကောင်းမှုတွေ မပြုလုပ်ဘူးလား"

ဟု ထပ်မေးသည့်အခါ –

"အို–အရှင်၊ လူတွေဟာ ကိုယ့်ကိုယ်ကိုယ် မအိုရတော့မှာလို၊ မသေရတော့မှာလို ထင်မှတ်ကြပြီး ကုသိုလ်ကောင်းမှုတွေကို အများအားဖြင့် မလုပ်ကြဘဲ မေ့မေ့လျော့လျော့ နေကြသူတွေသာ များပါတယ်"

ဟု ပတိပူဇိကာက ပြော၏။

ပတိပူဇိကာ နတ်သမီး ပြန်ပြောသည်ကို မာလာဘာရီနတ်သားသည် ကြီးစွာ သံဝေဂဖြစ်လျက် –

"လူတွေရဲ့ အနှစ်တစ်ရာဟာ တာဝတိံသာနတ်သက် တစ်ရက်မျှသာရှိတယ်၊ ဒါလောက် တိုတောင်းလှတဲ့ ကာလအတွင်းမှာ လူတွေဟာ ကုသိုလ်ကောင်းမှု မပြုလုပ်ကြဘဲ မေ့မေ့လျော့လျော့ နေကြတာဟာ အလွန်မသင့်လျော်ပါတကား" ဟု ပြောဆိုသတဲ့။

ထိုအကြောင်းကို ဗုဒ္ဓ ရှင်တော်မြတ်ဘုရားသည် တရားသဘင်၌ ပုပ္ဖာနိဟေဝ ပစိနန္တံ အစရှိသော ဂါထာကို ဟောကြားတော်မူကြောင်း ဓမ္မပဒပါဠိတော်၌ တွေ့ရပေသည်။

ဂါထာတော်၏ မြန်မာအဓိပ္ပာယ်မှာ –

**စကားပြေ**

ပွင့်ငုံဖူးချပ် ရွက်ထပ်ညွန့်လောင်း ပန်းအပေါင်းတို့ကို အာသာမပြယ် သွယ်သွယ်ကိုင်းညွတ် ဆွတ်ယူသောသူကဲ့သို့ ကာမဂုဏ်ချမ်းသာ အဖြာဖြာကို အာသာတပ်ညွတ် အဖန်ဖန်ဆွတ်သော၊ မရသေးသည်ကို တောင့်တ, ရပြီးသည်ကို တွယ်တာ, လွန်စွာကပ်ငြိသောစိတ် ရှိသောသူကို ကာမဂုဏ်ချမ်းသာ အဖြာဖြာတို့ ရောင့်ရဲတင်းတိမ်ခြင်း မရှိသေးမီ ကိုးဆယ့်ခြောက်ဖြာ များစွာသင်းပင်း ရှင်သေမင်းသည် မိမိအလိုနိုင်ငံသို့ သနားမရှု ခေါ်ဆောင်ခြင်းကို ပြုလေတော့၏။





**လင်္ကာကဗျာ**

ပန်းကိုရွေးချယ်၊ ဆွတ်ခူးနှယ်သို့၊
သွယ်သွယ်ကာမ၊ ရွေးချယ်ကြသား၊
မရငမ်းငမ်း၊ အရဖမ်းလျက်၊
တမ်းတမ်းစွဲဘိ၊ ကပ်ငြိကာမ၊
အားမရမှု၊ စိတ်ရှိသူကို၊
မစွူသေမင်း၊ သူ့လက်တွင်းဝယ်
ချက်ချင်းလိုရာ ပြုနိုင်စွာရှင့်။

ဤနေရာ၌ ဤဘုရားဟော ဝတ္ထုဇာတ်လမ်းကို တင်ပြခြင်းမှာ လူတို့ သက်တမ်းထက် နတ်တို့ သက်တမ်းက ပိုလွန်ရှည်ကြကြောင်းကို ထင်ရှားစေလို၍ ဖြစ်ပါသည်။

ဤဝတ္ထုတွင် သံသရာ၌ ကျင်လည်နေကြသော ဘဝခရီးသည် လူသားများတွင် မိမိဖြစ်ခဲ့သည့်ဘဝကို ပြန်လည် သိမြင်သော ဇာတိဿရဉာဏ်ရသည့် ပုဂ္ဂိုလ်များလည်းရှိကြောင်း တွေ့ရ၏။

ထို့ပြင် ကုသိုလ်ကောင်းမှုကို ပြုသည့်အခါ မိမိတပ်မက်စွဲလမ်းသည့်ဘဝကို တဏှာပတ္ထနာဖြင့် စွဲလမ်းဆုတောင်းလျှင် ထိုဘဝကို ရနိုင်ကြောင်းကိုလည်း သိရ၏။

မှန်၏။ ထိုဘဝကို စွဲလမ်းတပ်မက် နှစ်သက်ခြင်းကို နိကန္တိဟုလည်း ခေါ်၏။ ထိုဘဝကို တပ်မက်စွဲလမ်းသူအား မောဟ ခေါ် အဝိဇ္ဇာက ထိုဘဝ၌ အပြစ်တို့ကို မမြင်နိုင်အောင် မှောင်ချပေးလိုက်၏။ ဘဝကို နှစ်သက်သည့် နိကန္တိ ခေါ် တဏှာက ထိုဘဝကို ပို့ဆောင်ရန် လမ်းညွှန်ပေးလိုက်၏။

ထိုသူပြုသည့် ဝဋ္ဋနိဿိတကုသိုလ်က တဏှာ လမ်းညွှန်သည့် ဘဝသို့ ရောက်အောင် ပို့ဆောင်ပေးလိုက်ပေသည် ဟူသော အဘိဓမ္မာ သဘောတရားအတိုင်း ဖြစ်သည်ဟု မှတ်သားနိုင်ပေသည်။

**နတ်တို့၏အသက် အတို၊ အရှည်**

စတုမဟာရာဇ်နတ်သက် အနှစ်ငါးရာ ဟူသော သက်တမ်းမှာ

ယေဘုယျနည်းဖြင့် သတ်မှတ်ထားသည့်သက်တမ်း ဖြစ်သည်။

လူ့ပြည်၌ သက်တမ်းတစ်ရာတမ်းတွင် အသက်တစ်ရာထက် ပိုအသက်ရှည်သူ လူသားများ ရှိသကဲ့သို့ သက်တမ်းစေ့ မနေရသည့် လူသားများလည်း ရှိကြသည်။ ထို့အတူ စတုမဟာရာဇ်နတ်တို့မှာလည်း အသက် အတို၊ အရှည် ရှိကြ၏။

မှန်ပါသည်။ စတုမဟာရာဇ်နတ်မျိုးတွင် အပါအဝင်ဖြစ်သော ဘုမ္မစိုးနတ်တို့၏ အသက်မှာ သက်တမ်းနှင့်မဆိုင် ကံသာလျှင် ပမာဏ ရှိကြ၏။

အချို့ ဘုမ္မစိုးနတ်တို့မှာကား အန္တရကပ်တစ်ကပ်လုံး သို့မဟုတ် အသင်္ချေယျကပ်တိုင်အောင်ပင် အသက်ရှည်ကြသည်ဟု သမ္မောဟဝိနောဒနီ အဋ္ဌကထာ၊ စတုက္ကအင်္ဂုတ္တရဋီကာတို့၌ ဖွင့်ဆိုထားပေသည်။

ထို့ပြင်လည်း ကဿပ မြတ်စွာဘုရား၏တပည့် ဖြစ်ကုန်သော သောတာပန် နတ်သားတို့သည် စတုမဟာရာဇ်အဝင် ကောင်းကင်ပြင် ဝိမာန်တို့၌ နေမိမင်းကြီး လက်ထက်တိုင် ရှိကြကြောင်းကို နေမိဇာတ် အဋ္ဌကထာ၌ ဆို၏။

ထို့ကြောင့် အချို့သော အာကာသဋ္ဌ စတုမဟာရာဇ်နတ်တို့၏ သက်တမ်းသည်လည်း အပိုင်းအခြား မရှိ၊ ကံသာလျှင် ပမာဏဖြစ်သည်ဟု ဆိုရမည် ဖြစ်၏။

ထိုနတ်တို့သည် အကြိမ်ကြိမ် စုတေ၍ အကြိမ်ကြိမ် ထပ်ကာ ထိုနတ်ပြည်၌ ဖြစ်ကြသည်ဟုလည်း မဆိုနိုင်ချေ။ အကြောင်းမှာ သောတာပန်တို့မည်သည် အလွန်ဆုံး ခုနစ်ဘဝထက်ပိုပြီး ကာမဘုံတွင် ပဋိသန္ဓေနေရိုး မရှိ။

ကဿပဘုရားလက်ထက်တော်မှ နေမိမင်းကြီးဘဝ တိုင်အောင် စပ်ကြားကာလတွင် ထိုနတ်ပြည်၌ အကြိမ်ပေါင်းတစ်ထောင် ထပ်၍ ဖြစ်နိုင်ရုံမက ကာလရှည်လျားသောကြောင့် ဖြစ်ပေသည်။

ထို့ကြောင့် ထိုနေမိဇာတ်လာ အာကာသဋ္ဌ သောတာပန်နတ်တို့ကို လွန်စွာ အသက်ရှည်သော စတုမဟာရာဇ်နတ်မျိုးတို့ ဟူ၍ ဆိုအပ်ကြောင်း ပရမတ္ထဒီပနီဋီကာသစ်၌ မိန့်ဆိုထားပေသည်။





## ခိဍ္ဍာပဒေါသိကနတ်နှင့် မနောပဒေါသိကနတ်များ

ထိုထိုဘုံရှိ နတ်တို့၏ သက်တမ်းများမှာလည်း ထိုထိုဘုံ၌ ဖြစ်သောနတ်တို့ အလွန်ဆုံး နေကြရသော ယေဘုယျသက်တမ်း ဖြစ်သည်။ ထို့ကြောင့် နတ်အားလုံးပင် ထိုထိုနတ်သက်အတိုင်း အတိအကျ နေရမည် မဟုတ်။ ခိဍ္ဍာပဒေါသိကနတ်တို့သည် အပျော်အပါးများ၍ အစာစားချိန်၌ အချိန်မီ မစားမိကြလျှင် နောက်ထပ် စားသော်လည်း မရ။ နတ်သက် မစေ့မီ စုတေကြရသည်။

မှန်ပါသည်။ နတ်တို့၏ ပါစက ဝမ်းမီးသည် လူသားတို့၏ ပါစကမီးထက် အဆပေါင်းများစွာ အားကောင်း၏။

ခန္ဓာကိုယ်မှာလည်း လူတို့၏ ခန္ဓာကိုယ်ကဲ့သို့ ရုပ်ကြမ်းများ မဟုတ်။ လူသားတို့၏ ပကတိမျက်စိဖြင့် မမြင်နိုင်လောက်အောင် အလွန် အထူးသိမ်မွေ့နူးညံ့လှသည့် ရုပ်တို့ဖြင့် တည်ဆောက်ထားကြသည့် ခန္ဓာကိုယ်များ ဖြစ်ကြ၏။

အချို့ နတ်တို့သည် နန္ဒဝန်ဥယျာဉ် စသည့် နေရာတို့၌ အလွန် ရွှင်လန်းမြူးထူး အပျော်ကြူးကြပေသည်။ အစာစားရမည့် အချိန်ကိုပင် သတိမရ မေ့လျော့သွားသည်အထိ ပျော်မြူးကြ၏။

ထို တစ်ကြိမ်တစ်ခါ အစာအာဟာရ မစားရရုံဖြင့်ပင် အလွန် အားကောင်းသည့် ပါစက ဝမ်းမီးက အလွန်သိမ်မွေ့နူးညံ့သည့် နတ်တို့၏ ခန္ဓာကိုယ်ကို လောင်ကျွမ်း၍ နတ်တို့၏ သက်တမ်းမစေ့မီ စုတေပြတ်ကြွေ သေလွန်ကြရပေသည်။

ထိုနတ်မျိုးကို ခိဍ္ဍာပဒေါသိက (အပျော်ကြူး၍ ပျက်စီးရသော) နတ်မျိုးဟု သုတ်သီလက္ခန် အဋ္ဌကထာ စသည့် ကျမ်းဂန်များ၌ ပြဆိုထား၏။

ထို့ပြင် ဒေါသအားကြီးလာလျှင် နတ်သက်မစေ့မီ စုတေကြရသည့် မနောပဒေါသိက (ဒေါသစိတ်ကြောင့် ပျက်စီးရသော) နတ်တစ်မျိုးလည်း ရှိပါသည်။

ထင်ရှားအောင် သာဓကဆောင်ပြရလျှင် နေ့တစ်နေ့၌ စတုမဟာရာဇ် နတ်သားတစ်ယောက်သည် နက္ခတ်သဘင်ကစားရန် အခြံအရံ

နတ်သမီးများနှင့်အတူ နတ်ရထားဖြင့် အပျော်ခရီး ထွက်လာခဲ့ပါသည်။ ထိုနတ်သားနှင့် မရှေးမနှောင်းမှာပင် အခြား နတ်သားတစ်ပါးကလည်း အခြံအရံ နတ်သမီးများနှင့် ခရီးထွက်လာခဲ့ရာ ထိုနတ်သားကို မြင်သည်နှင့် တစ်ပြိုင်နက် –

"အို – နတ်သမီးတို့၊ ဒီနတ်သားဟာ မမြင်ဘူး၊ မတွေ့ဘူးတဲ့ စည်းစိမ်ချမ်းသာကို မြင်တွေ့ရတဲ့ ဆင်းရဲသားနဲ့ တူလိုက်တာ။ ရှေ့က မတွေ့ဘူး၊ မခံစားဘူးတဲ့ ဒီနတ်စည်းစိမ်ကိုရတဲ့အတွက် သူ့အမူအရာတွေဟာ ဆောင့်ကြွားကြွားနိုင်လိုက်တာ"

ဟု ကဲ့ရဲ့လိုက်သတဲ့။

ထိုစကားကို ရှေ့က သွားတဲ့နတ်သား ကြားသွား၍ –

"မင်း ဒေါသထွက်လို့ ကျုပ်ကို ဘာလုပ်နိုင်မှာလဲ၊ ဒီနတ်စည်းစိမ်တွေဟာ ငါ့ရဲ့ ဒါန၊ သီလ ကုသိုလ်တွေကြောင့် ရလာတဲ့ စည်းစိမ်တွေပဲ၊ မင်းအစွမ်းကြောင့် ရလာတာတွေ မဟုတ်ပါဘူး၊ မင်းနဲ့ ဘာဆိုင်သလဲ"

ဟု ပြန်လှန် ဒေါသထွက်ကာ ပြောဆိုပါသည်။

ဤကဲ့သို့ တစ်ဦးနှင့် တစ်ဦး အပြန်အလှန် ဒေါသဖြစ်ကြရင်း ဒေါသစိတ်များ ပြင်းထန်လာကြရာ နှစ်ဦးလုံး၏ အခြံအရံ နတ်သမီးများ ငိုကြွေးနေကြစဉ်မှာပင် နတ်သားနှစ်ယောက်စလုံး နတ်သက်မစေ့မီမှာပင် စုတေ ပျောက်ကွယ်သွားကြလေတော့၏။

ဤသို့ နတ်တို့မှာ ဒေါသပြင်းထန်စွာ ထွက်လာသည့်အခါလည်း မိမိတို့၏ အလွန် နူးညံ့သည့်ခန္ဓာကိုယ်ကို ဒေါသမီး လောင်ကျွမ်းလိုက်သဖြင့် နတ်သက်မစေ့မီ စုတေပြတ်ကြွေ သေလွန်ကြရပေသည်။

ထိုနတ်မျိုးကို မနောပဒေါသိက ဒေါသစိတ်ကြောင့် ပျက်စီးရသောနတ် ခေါ်သည်ဟု သုတ်သီလက္ခန် ပါဠိ၊ အဋ္ဌကထာတို့၌ ဟောကြားမိန့်ဆိုထားပေသည်။

ဤသို့ နတ်သက်မစေ့မီ စုတေကြရသည့် နတ်များလည်း ရှိကြပေသည်။

□



# စတုမဟာရာဇ်နတ်ပြည်

**စတုမဟာရာဇ်နတ်ပြည်အမည်ရပုံ**

ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ ဟူသော နတ်မင်းကြီးလေးယောက်ကို ပါဠိလို စတုမဟာရာဇ ဟု ခေါ်၏။

(စတု=လေးယောက်သော+မဟာရာဇ=နတ်မင်းကြီး)

ထိုနတ်မင်းကြီးတို့ ထံပါး၌ ဆည်းကပ် ခစားကြရသော လက်အောက်ခံနတ်တို့မှာ စတုမဟာရာဇိက မည်ကြသည်။

ထိုနတ်မင်းကြီး လေးယောက်နှင့် စတုမဟာရာဇိကနတ်တို့၏ နေရာဘုံ ဖြစ်သောကြောင့် ပါဠိလို စတုမဟာရာဇိကာ မြန်မာလို စတုမဟာရာဇ်ဘုံ သို့မဟုတ် စတုမဟာရာဇ်နတ်ပြည်ဟု ခေါ်သည်။

ထိုစတုမဟာရာဇ်နတ်ပြည်သည် လူ့ဘုံမှအထက် ယူဇနာ လေးသောင်းနှစ်ထောင် ဝေးကွာသော (မြင့်မိုရ်တောင်ကြီးထက်ဝက် အမြင့်ရှိ) ယုဂန္ဓိုရ်တောင်ထိပ်မှစ၍ မြင့်မိုရ်တောင်အောက်ခြေအထိ ကျယ်ပြန့်သည်။

ထိုနတ်ပြည်ကို သိကြားမင်းကိုယ်စား ဖော်ပြပါ နတ်မင်းကြီးလေးပါးတို့က အုပ်ချုပ် မင်းလုပ်ကြသည်။

**ဝိရူဠှကနတ်မင်းကြီး** သည် မြရောင် တောက်ပသော မြင့်မိုရ်တောင်၏အလယ် တောင်မျက်နှာဘက်နံပါး၌ တည်နေလျက် ကုမ္ဘဏ်နတ်တို့ကို အုပ်ချုပ်၍ မင်းလုပ်၏။ အရပ်လေးမျက်နှာ၌ နေကုန်သော ကုမ္ဘဏ်နတ်အပေါင်းတို့၏ အရှင်သခင် ဖြစ်၏။ များသောအခြံအရံ ရှိ၏။ ကုမ္ဘဏ်နတ်အပေါင်း ခြံရံကာ ကခုန်သီဆိုပွဲတို့ဖြင့် မွေ့လျော် ပျော်ပါးစွာ နေထိုင်သည်။

**ဓတရဋ္ဌ နတ်မင်းကြီး** သည် ငွေရောင် တောက်ပသော မြင့်မိုရ် တောင်၏အလယ် အရှေ့မျက်နှာဘက် နံပါး၌ တည်နေလျက် ဂန္ဓဗ္ဗနတ် အပေါင်းတို့ကို အုပ်ချုပ်၍ မင်းလုပ်၏။ အရပ်လေးမျက်နှာ၌ နေကုန်သော ဂန္ဓဗ္ဗနတ်တို့၏ အရှင်သခင် ဖြစ်၏။ များသောအခြံအရံရှိသည်။ ဂန္ဓဗ္ဗနတ် အပေါင်း ခြံရံကာ ကခုန်သီဆိုပွဲတို့ဖြင့် မွေ့လျော်ပျော်ပါးစွာ နေထိုင်သည်။

**ဝိရူပက္ခ နတ်မင်းကြီး** သည် ဖန်ရောင် တောက်ပသော မြင့်မိုရ် တောင်၏အလယ် အနောက်မျက်နှာဘက် နံပါး၌ တည်နေလျက် နဂါး နတ်စစ်သည်တို့ကို အုပ်ချုပ်၍ မင်းလုပ်၏။ အရပ်လေးမျက်နှာ၌ နေကုန် သော နဂါးတို့၏ အရှင်သခင် ဖြစ်၏။ အခြံအရံများစွာရှိသည်။ နတ်နဂါး အပေါင်းခြံရံကာ ကခုန်သီဆိုပွဲတို့ဖြင့် မွေ့လျော်ပျော်ပါးစွာ နေထိုင်သည်။

**ကုဝေရ နတ်မင်းကြီး** သည် ရွှေရောင် တောက်ပသော မြင့်မိုရ် တောင်၏အလယ် မြောက်မျက်နှာဘက် နံပါး၌ အုပ်ချုပ်၍ မင်းလုပ်၏။ အရပ်လေးမျက်နှာ၌ နေကြကုန်သော နတ်ဘီလူး စစ်သည်တို့၏ အရှင် သခင် ဖြစ်၏။ အခြံအရံများစွာ ရှိသည်။ နတ်ဘီလူးအပေါင်း ခြံရံကာ ကခုန်သီဆိုပွဲတို့ဖြင့် မွေ့လျော်ပျော်ပါးစွာ နေထိုင်သည်။

ထိုနတ်မင်းကြီး လေးယောက်တို့မှာ ခွန်အားဗလကြီးသည့် သားတော် ကိုးကျိပ်တစ်ယောက်စီ ရှိကြသတဲ့။

ထိုသားတော်တို့၏အမည်ကို မိမိတို့၏အရှင် သိကြားမင်း၏ အမည်အတိုင်း 'ဣန္ဒ' ဟုချည်း အမည် တစ်ခုတည်း ပေးထားကြသည်ဟု သုတ်ပါထေယျ ပါဠိတော် အာဋ္ဌာနာဋိယသုတ်နှင့် သမ္မောဟဝိနောဒနီ အဋ္ဌကထာတို့၌ ဟောကြားဖွင့်ဆိုထားပေသည်။

ထိုနတ်မင်းကြီး လေးပါးတို့သည် လောကကြီးကို စောင့်ရှောက် နေကြသည့် နတ်မင်းကြီးများ ဖြစ်သောကြောင့် **စတုလောကပါလ** နတ် မင်းကြီးများဖြစ်ကြောင်း ပေတာဝတ္ထုပါဠိတော်နှင့် နေတ္တိအဋ္ဌကထာတို့မှာ ဟောကြား ဖွင့်ဆိုထားပါသည်။

## နတ်မြို့ကြီးများနှင့် ဓရဏီရေကန်တော်ကြီး

စတုမဟာရာဇ်နတ်များမှာ တောင်, မြေပေါ်မှာတည်သော ပဗ္ဗတဋ္ဌ၊





ဘုမ္မဋ္ဌနတ်များနှင့် ကောင်းကင်မှာတည်သော အာကာသဋ္ဌနတ်ဟု နှစ်မျိုး ရှိပေသည်။ ပဗ္ဗတဋ္ဌ၊ ဘုမ္မဋ္ဌ ခေါ် တောင်ပေါ် သို့မဟုတ် မြေပေါ် တည်သည့် နတ်များသည် ယုဂန္ဓိုရ်တောင်ပေါ်မှာ ဘုံဗိမာန်အသီးသီးနှင့် နေထိုင်ကြသကဲ့သို့ အာကာသဋ္ဌ ခေါ် ကောင်းကင်မှာတည်သည့် နတ်များ မှာလည်း မြင့်မိုရ်တောင်အလယ်ရှိ ယုဂန္ဓိုရ်တောင်ထွတ်နှင့် ညီမျှသော ပတ်ပတ်လည် ကောင်းကင်ပြင်ကြီးထဲတွင် စကြဝဠာတံတိုင်းရောက် အောင် နတ်ဘုံနတ်နန်း၊ ဘုံဗိမာန်များနှင့် စံမြန်းနေကြပါသည်။

မြင့်မိုရ်တောင်ပတ်လည် ယုဂန္ဓိုရ်တောင်ထွတ်နှင့် ညီမျှသော ကောင်းကင်ပြင် အရပ်တွင် ထိုနတ်မင်းကြီးတို့ ဖန်ဆင်း တည်ထောင် ထားသည့် နတ်မြို့ကြီးများလည်း ရှိကြပါသည်။

ထိုနတ်မြို့ကြီးများမှာ မြင့်မိုရ်တောင်ကြီး၏ အရှေ့ဘက် ကောင်း ကင်ပြင်တွင် အာဋ္ဌာနာဋ္ဌမြို့, နာဋ္ဌသုရိယမြို့၊ တောင်ဘက် ကောင်းကင်ပြင် တွင် ကုသိနာဋ္ဌမြို့, ပရကုသိနာသဋ္ဌမြို့၊ အနောက်ဘက် ကောင်းကင်ပြင် တွင် ကသိဝန္တမြို့, ဇနောဃမြို့၊ မြောက်ဘက် ကောင်းကင်ပြင်တွင် နဝန ဝုတိပမြို့, အမ္ဗရမြို့, အမ္ဗရဝတီမြို့၊ အာဋကမန္ဒာမြို့၊ ဝိသာဏာမြို့ကြီးများ ဖြစ်ပေသည်။

ထိုနတ်မြို့ကြီးများတွင် အာဋကမန္ဒာ မြို့ကြီးသည် ရာဇဌာနီ မင်းနေပြည်တော်ကြီး ဖြစ်၏။ ကုဝေရ နတ်မင်းကြီး၏ ရာဇဌာနီ မင်းနေပြည်တော်ကြီးကား **ဝိသာဏာမြို့ကြီး** ဖြစ်သည်။

ထို့ကြောင့် ကုဝေရနတ်မင်းကြီးကို မြို့တော်၏အမည်ကိုစွဲ၍ **ဝေဿဝဏ်** နတ်မင်းကြီး ဟူ၍လည်း ခေါ်ကြသည်။

ထိုမြို့တော်ကြီး၌ ဓရဏီ မည်သော ရေကန်ကြီး ရှိ၏။ ယူဇနာ ငါးဆယ်ရှိသော လေးထောင့်ကန်တော်ကြီး ဖြစ်သည်။

မိုးရွာသည့်အခါ ရေကန်ကြီးထဲမှ မိုးရေဟောင်းများ လျှံထွက် စီးဆင်းကြကုန်၏။

ရေကန်ကြီး အနီးတွင် နတ်ဘီလူးတို့ စည်းဝေးတိုင်ပင်ကြရာ တစ်ဆယ့်နှစ်ယူဇနာရှိသည့် သာလဝတီ မည်သော ရတနာမဏ္ဍပ်ကြီး ရှိပေသည်။

ရတနာမဏ္ဍပ်ကြီး၏ ဝန်းကျင်တွင် သရက်၊ ပိန္နဲ၊ သပြေ စသော သီးပင်တို့သည် လည်းကောင်း၊ စံကား, စံပယ်, ယုဇန စသော ပန်းပင်တို့သည် လည်းကောင်း အမြဲတမ်း သီးပွင့်နေကြသဖြင့် ရတနာမဏ္ဍပ်ကြီးထဲတွင် ရနံ့မွှေးကြိုင် သင်းပျံ့လှိုင်လျက် ရှိပေသည်။

ထိုရေကန်တော်ကြီး၌ ငှက်မျိုးစုံတို့ ပျံသန်းလှည့်လည် ကျက်စားလျက် နေကြကုန်၏။

အသံသာသော ဥဒေါင်း၊ ကြိုးကြာ၊ ဥသြငှက် စသည်တို့ကလည်း ငှက်တို့ ဘာသာဘာဝ မြည်တွန်နေကြသကဲ့သို့ ကျေးငှက်၊ သာလိကာ စသည်တို့၏ ကျူးရင့်အော်မြည်သံတို့မှာလည်း နားထောင်၍ မငြီး အံ့ချီးဖွယ် သာယာလျက်ရှိနေကြသည်။

'ဇီဝ၊ ဇီဝ–အသက်ရှည်ပါစေ၊ အသက်ရှည်ပါစေ' ဟု မြည်တမ်းသည့် ဇီဝဇိုးငှက်တို့သည် လည်းကောင်း၊ 'စိတ္တ–ထလော့၊ စိတ္တ–ထလော့' ဟု အော်မြည်သော ဥဌဝစိတ္တမည်သော ငှက်တို့သည် လည်းကောင်း၊ တောကြက်နှင့် ရွှေပုစွန်လုံးတို့သည် လည်းကောင်း၊ လူ့မျက်နှာနှင့်တူသောမျက်နှာ ရှိကြသည့် တုတ်ထောက်ငှက်တို့သည် လည်းကောင်း ရေကန်တွင်း၌ လှည့်လည် ကျက်စားနေကြပေသည်။

ထို့ကြောင့်ပင် ကုဝေရနတ်မင်းကြီး၏ ကြာပဒုမ္မာအိုင်ဖြစ်သည့် ဓရဏီ ရေကန်တော်ကြီးသည် အမြဲတစေ တင့်တယ်သာယာလျက်ရှိနေပေသည်။ ဤသို့ အာဋ္ဌာနာဋိယသုတ် ပါဠိ၊ အဋ္ဌကထာများ၌ ဟောကြားမိန့်ဆိုထားပေသည်။

အမှန်အားဖြင့် နတ်တို့ပြည်မှာ လူ့ပြည်ကဲ့သို့ ကျေးငှက်၊ တိရစ္ဆာန်သတ္တဝါများ မရှိကြဟု သာရတ္ထဒီပနီဋီကာ၊ ဗိနာလင်္ကာရဋီကာများမှာ မိန့်ဆိုထားပါသည်။

ယခု ဓရဏီ ရေကန်ကြီး၌ ပျံသန်းလှည့်လည် ကျက်စားနေကြသည့် ကျေးငှက်များမှာ နတ်သားက ဖန်ဆင်းပေးသည့် သိကြားမင်း၏ ဧရာဝဏ် ဆင်ကြီးကဲ့သို့ အခြံအရံ နတ်သား၊ နတ်သမီးတို့ ဖန်ဆင်းပျော်မြူးကြသော ကျေးငှက်များသာ ဖြစ်သည်ဟု ဝိမာနဝတ္ထုအဋ္ဌကထာ၌ မိန့်ဆိုထားပေသည်။





## ကုဝေရနတ်မင်းကြီး

ဤစတုမဟာရာဇ်နတ်မင်းကြီးတို့တွင် ကုဝေရ ခေါ် ဝေဿဝဏ်နတ်မင်းကြီးကား အလွန်တန်ခိုးကြီး၏။

လောက၌ အကြီးမြတ်ဆုံး လက်နက်ကြီးလေးမျိုးကို အသီးသီးပိုင်ဆိုင်ကြသည့် တန်ခိုးရှင်ကြီး လေးဦး ရှိသည်။

သိကြားမင်းက ဝဇီရစိန်လက်နက်၊

(ဝရဇိန်လက်နက်ဟုလည်း ခေါ်ကြသည်)

ဝေဿဝဏ်နတ်မင်းက သံတင်းပုတ်လက်နက်၊

ယမမင်းက မျက်စောင်းလက်နက်၊

အာဠဝကဘီလူးကြီးက ဘွဲ့ဖြူနတ်ပုဆိုးလက်နက်

တို့ကို အသီးသီး ပိုင်ဆိုင်ကြကြောင်း သုတ္တနိပါတ် အာဠဝကသုတ်၌ လာရှိပေသည်။

ဝေဿဝဏ်နတ်မင်းကြီးသည် သောတာပန် မဖြစ်မီ ပုထုဇဉ်ဖြစ်စဉ်က အမျက်ထွက်သဖြင့် သံတင်းပုတ်(သံချွန်းတောင်း) လက်နက်ကြီးကို ပစ်လွှတ်လိုက်လျှင် နတ်ဘီလူး ထောင်ပေါင်းများစွာတို့၏ ဦးခေါင်းများ ပြုတ်ကျကုန်ပြီး ဝေဿဝဏ်နတ်မင်းကြီး၏ နှစ်တောင့်ထွာအရပ်၌ တစ်ဖန်ပြန်၍ ရပ်တည်ကြသည်ဟု အာဠဝကသုတ်အဖွင့်၌ ဖွင့်ဆိုထားပေသည်။

ဝေဿဝဏ် ခေါ် ကုဝေရနတ်မင်းကြီး၏ ရှေးအတိတ်အကြောင်းကား ကဿပဘုရားရှင် ပွင့်တော်မူပြီးနောက် ဗာရာဏသီပြည်တွင် ကုဝေရမည်သော ပုဏ္ဏားသူကြွယ်သည် ကြီးကျယ်သော ကြံခင်းများ စိုက်ပျိုး၍ ကြံရည်ကြိတ်စက် ခုနစ်လုံးကို ဝယ်ယူကာ ကြံရည်ဆိုင် ခုနစ်ဆိုင် ဖွင့်သတဲ့။ ကြံခင်းများမှ ရရှိသော ကြံတို့ကို ထိုကြံရည်ကြိတ်စက်များဖြင့် ကြိတ်ပြီး ကြံရည်များကို ရောင်းချလေသည်။

ထိုကြံရည်ဆိုင် ခုနစ်ဆိုင်အနက် ကြံရည်ဆိုင်တစ်ဆိုင်မှ ရရှိသည့် အမြတ်အစွန်းများကို လာလာသမျှ လူအပေါင်းတို့အား ပေးလှူ၍ ကုသိုလ်ကောင်းမှုပြု၏။

ထိုကြံရည်ဆိုင်မှာ အခြား ကြံရည်ဆိုင်များထက် ရောင်းကောင်းလှသဖြင့် အမြတ်အစွန်း ပိုမို ရရှိသည်ဟု ဆိုပေသည်။

ထို့ကြောင့် ကုဝေရပုဏ္ဏားသည် သဒ္ဓါယုံကြည်စိတ် ပိုမိုပြင်းထန်လာကာ အခြား ကြံရည်ဆိုင်များမှ ရရှိသည့် အမြတ်အစွန်းတို့ကိုပါ အလှူဒါနပြုလေသည်။

ဤသို့လျှင် ကြံရည်ဆိုင် ခုနစ်ဆိုင်လုံးမှ ရရှိသော အမြတ်အစွန်းတို့ကို အနှစ် နှစ်သောင်း ကာလပတ်လုံး ပေးလှူခဲ့သည်။ (ထိုအချိန်ကား လူတို့၏သက်တမ်းမှာ အနှစ် နှစ်သောင်းသက်တမ်း ဖြစ်၏) ထိုကုသိုလ်ကောင်းမှုကြောင့် ကွယ်လွန်သောအခါ စတုမဟာရာဇ်နတ်ပြည်၌ ကုဝေရမည်သော နတ်မင်း ဖြစ်လေ၏။

နောင်အခါ ဝိသာဏမည်သော မင်းနေပြည်တော်၌ မင်းအဖြစ်ကို ရသောကြောင့် မင်းနေပြည်တော်ကိုအစွဲပြုကာ ဝေဿဝဏ်နတ်မင်း ဟူ၍လည်း ခေါ်ကြသည်။

နတ်ဘီလူးတို့၏ အကြီးအမှူး ဖြစ်သောကြောင့် ယက္ခာဓိပ ဟူ၍လည်းကောင်း၊ လူယာဉ်ကိုစီးသောကြောင့် နရဝါဟန ဟူ၍ လည်းကောင်း အမည်တွင်ပေသည်။

ထိုနတ်မင်းကြီးသည် သောတာပန်ဖြစ်ပြီးသည့်အခါ၌မူ သံတင်းပုတ် လက်နက်ကြီးကို အသုံးမပြုတော့ချေ။ စကားအရာ၌ အပြောအဆိုလိမ္မာ၍ ရဲရင့်ရကား သိကြားမင်းနှင့် အလွန် ချစ်ကျွမ်းဝင်သကဲ့သို့ မြတ်စွာဘုရားနှင့်လည်း အကျွမ်းဝင်၏။

ထိုနတ်မင်း၌ နတ်၌ဖြစ်သော ဆင်ယာဉ်၊ မြင်းယာဉ်၊ ပြာသာဒ်ယာဉ်၊ ထမ်းစင်ယာဉ်တို့ ရှိပေသည်။ ထိုယာဉ်တို့မှာ အိပ်နေစဉ် သို့မဟုတ် ထိုင်နေစဉ် နတ်မင်းကြီး သွားလိုသောစိတ်ရှိလျှင် ယာဉ်များ အလိုလို သွားကြ၏။

ထိုနတ်မင်းကြီး၏ ကျွန်အလုပ်အကျွေးတို့သည် နွားမကိုစီး၍ လှည့်ပတ်သွားလာကြ၏။

ကျွဲ၊ နွား၊ ဆင် စသော ခြေလေးချောင်းသတ္တဝါတို့ကိုစီး၍ ထိုထိုအရပ်များသို့ လှည့်လည်ကြကုန်သကဲ့သို့ မိန်းမ၊ ယောကျ်ား၊ မိန်းမပျို၊ ယောကျ်ားပျိုတို့ကို ယာဉ်ရထား၌တပ်ကာ စီးနင်း လှည့်ပတ်ကြကုန်၏ဟု အာဋာနာဋိယသုတ်၌ ဟောကြားထားပေသည်။





## ကုဝေရနတ်မင်းကြီး၏ နတ်မိဖုရား

စတုမဟာရာဇ် နတ်မင်းကြီးလေးပါးမှာ နတ်၊ မိဖုရား၊ သား၊ သမီး နတ်များ၊ အခြွေအရံ နတ်သား၊ နတ်သမီးများ ရှိကြမည် ဖြစ်သော်လည်း ကျမ်းဂန်များ၌ အထင်အရှား အတိအကျ မတွေ့ရချေ။

ယခု သက္ကပဉ္စသုတ်၌ တွေ့ရသည့် နတ်မိဖုရားမှာ ကုဝေရနတ်မင်းကြီး၏ နတ်မိဖုရား ဖြစ်သည်။ အမည်မှာ ဘူဇတိ နတ်သမီး ဖြစ်သည်။

ထိုနတ်သမီးမှာ သကဒါဂါမိဖိုလ်သို့ ရောက်ပြီးသည့် သကဒါဂါမ်အရိယာနတ်သမီး ဖြစ်သောကြောင့် နတ်ပြည်၌ မွေ့လျော်ပျော်ပိုက်ခြင်း မရှိပေ။ ထို့ကြောင့် အမြဲလိုလိုပင် မြတ်စွာဘုရားထံတော်သို့ ဆည်းကပ်လျက် လက်အုပ်ကို ဦးခေါင်း၌တင်ထားပြီးလျှင် မြတ်စွာဘုရားကို ရှိခိုးကာ ရပ်တည်ဝတ်ပြုလျက် နေလေ့ရှိပေသည်။

သိကြားမင်းအား သက္ကပဉ္စသုတ်တော်ကို မဟောကြားမီ သုံးရက်ခန့်က ဇေတဝန် ကျောင်းတိုက်တော်ကြီးအတွင်းရှိ သလဠာဂါရကျောင်းတော်၌ ဗုဒ္ဓရှင်တော်ဘုရား သီတင်းသုံးတော်မူစဉ် သိကြားမင်းသည် မြတ်စွာဘုရားထံတော်သို့ အဖူးအမြော် ရောက်လာခဲ့သည်။

ထိုအချိန်တွင် သိကြားမင်း၏ ဣန္ဒြေများ မရင့်ကျက်သေးသဖြင့် ဘုရားရှင်သည် သိကြားမင်းကို အဖူးအတွေ့မခံဘဲ အချိန်ပိုင်းပြီး ဖလသမာပတ်ကို ဝင်စားနေတော်မူသည်။

သိကြားမင်းသည် ဘူဇတိနတ်သမီးကိုတွေ့၍ –

"နှမ၊ နတ်တို့သနင်း သိကြားမင်းသည် အမတ်များ၊ အခြံအရံ ပရိသတ်များနဲ့အတူ မြတ်စွာဘုရားရဲ့ ခြေတော်အစုံ ကြာပဒုံကို ဦးခေါင်းနဲ့ ရှိခိုးပါတယ် ဘုရားလို့ လျှောက်ထားပေးပါ"

ဟု ဆိုသည်။

ထိုအခါ နတ်သမီးက –

"အရှင်သိကြားမင်း၊ အခုအချိန်ဟာ မြတ်စွာဘုရားကို ဖူးမြော်ဖို့ အခါ မဟုတ်ပါ။ ရှင်တော်ဘုရားဟာ တစ်ပါးတည်း ကိန်းအောင်းလျက် ရှိပါတယ်" ဟု ပြန်ပြောသည်။

သိကြားမင်းက –

"နမ၊ ဒီလိုဆိုရင် မြတ်စွာဘုရား ဖလသမာပတ်မှ ထတော်မူတဲ့အခါ ကျွန်ုပ် ရှေ့က လျှောက်ထားခိုင်းတဲ့အတိုင်း မြတ်စွာဘုရားကို ကျွန်ုပ်ကိုယ်စား လျှောက်ထားပေးပါ" ဟု မှာထားခဲ့ပေသည်။

နောက်တစ်ကြိမ် သိကြားမင်း ဘုရားထံတော်သို့ အဖူးမြော်လာသည့်အခါ သိကြားမင်းက မြတ်စွာဘုရားကို –

"ရှင်တော်မြတ်ဘုရား၊ တပည့်တော် ပထမအကြိမ် အဖူးအမြော်လာစဉ်က ဘုရားရှင်ကို ဖူးမြော်ခွင့် မရတဲ့အတွက် ဘူဇတိနတ်သမီးကို မှာထားခဲ့ပါတယ်။ ဘူဇတိနတ်သမီးက တပည့်တော် ကိုယ်စား လျှောက်ထားပါရဲ့လား ဘုရား" ဟု မေးလျှောက်သည်။

မြတ်စွာဘုရားက –

"သိကြားမင်း၊ နတ်သမီးဟာ ငါဘုရားကို လျှောက်ထားပါတယ်၊ နတ်သမီး လျှောက်ထားတဲ့စကားကို ငါဘုရား သတိရပါတယ်၊ အမှန်စင်စစ် ငါဘုရားဟာ သင် သိကြားမင်းရဲ့ ရထားဘီးသံနဲ့ပြိုင်ကာ သမာပတ်မှ ထတော်မူခဲ့ပါတယ်"

ဟု ပြန်လည် မိန့်ကြားတော်မူကြောင်းကို သက္ကပဉှသုတ် ပါဠိ၊ အဋ္ဌကထာတို့၌ တွေ့ရပေသည်။

ဤအကြောင်းအရာအရ ဝေဿဝဏ် နတ်မင်းကြီး၌ ဘူဇတိမည်သော နတ်မိဖုရားရှိကြောင်း၊ အရိယာနတ်တို့မှာ ဝတ္ထုကာမဂုဏ် အာရုံများလှသည့် နတ်ပြည်တွင် မပျော်မွေ့ကြောင်း သိရသည့်အပြင် ဓတရဋ္ဌစသော အခြား နတ်မင်းကြီးတို့၌လည်း နတ်မိဖုရားများ ရှိမည်ဖြစ်ကြောင်း ယူဆနိုင်ပေသည်။

## ကုဝေရနတ်မင်းကြီး၏ သမီးတော်များ

ဘုရားရှင် လက်ထက်တော်က သာဝတ္ထိပြည်သား ဥပါသကာ တစ်ယောက်မှာ လတာခေါ်သည့် သမီးတစ်ယောက်ရှိသတဲ့။

လတာ အမျိုးသမီးသည် ပညာရှိ၏။ လိမ္မာယဉ်ကျေး၏။ ဉာဏ်ပညာထက်မြက်၏။ အိမ်ထောင်ကျသည့်အခါ လင်သားနှင့် ယောက္ခမမိဘနှစ်ပါးကို ရိုသေ၏။ စကားပြော ယဉ်ကျေးသိမ်မွေ့၏။ အခြွေအရံတို့ကို ချိုးမြောက်လေ့ရှိ၏။ အိမ်ထောင်ဝန်ကို ကျေပွန်နိုင်နင်းစွာ ဆောင်ရွက်နိုင်၍ အိမ်ရှင်မကောင်း ပီသ၏။ အမျက်ထွက် စိတ်ဆိုးလေ့ မရှိ။ လှူဒါန်း ပေးကမ်းခြင်း၌ မွေ့လျော်၏။ သီလစင်ကြယ်၍ ဥပုသ်သီတင်း အမြဲစောင့်သုံး၏။

ထို လတာ အမျိုးသမီး ကွယ်လွန်သည့်အခါ ကုဝေရနတ် ခေါ် ဝေဿဝဏ်နတ်မင်းကြီး၏ သမီးတော် သွားဖြစ်သည်။ လတာနတ်သမီး ဟူ၍ပင် အမည်တွင်သည်။

ထိုနတ်သမီးမှာ သဇ္ဇာ၊ ပဝရာ၊ **အစ္စိမတီ** နှင့် သုတာ ခေါ်သည့် ညီမလေးယောက် ရှိသည်။ ထို ဝေဿဝဏ် နတ်မင်းကြီး၏ သမီးတော် ငါးဦးတို့ကို သိကြားမင်းက ယူဆောင်၍ ကချေသည်များ အဖြစ်ဖြင့် အလုပ်အကျွေးအရာ၌ ထား၏။ လတာ နတ်သမီးသည် အလွန် အကကောင်း၊ အဆိုကောင်းသဖြင့် အကြီးအမှူးဖြစ်လေသည်။

ထိုနတ်သမီးတို့သည် တစ်ပေါင်းတည်းစု၍ ချမ်းသာစွာ နေထိုင်ကြစဉ် အဆိုအကနှင့်ပတ်သက်၍ သူက ကောင်းသည်၊ ငါက ကောင်းသည်ဟု ငြင်းခုံကြ၏။

နောက်ဆုံးတွင် ဖခင် ဝေဿဝဏ်နတ်မင်းကြီးထံသို့ သွားကြ၍ အဆုံးအဖြတ်ခံယူကြ၏။

ဝေဿဝဏ်နတ်မင်းကြီးက –

"ချစ်သမီးတို့၊ အနောတတ်အိုင်ကမ်းပါး နတ်သဘင် အစည်းအဝေးသို့ သွားရောက်ပြီး သီဆိုကပြကြ၊ အဲဒီ နတ်သဘင်အစည်းအဝေးက ဘယ်သူ အဆိုအက အကောင်းဆုံးဖြစ်တယ်ဆိုတာ ဆုံးဖြတ်ပေးပါလိမ့်မယ်" ဟု ပြောကြား၏။

ထိုနတ်သမီး ညီအစ်မများသည် ဖခင် ဝေဿဝဏ်နတ်မင်းကြီး ပြောသည့်အတိုင်း နတ်သဘင်အစည်းအဝေးသို့ သွားရောက်ပြီး အစွမ်းကုန် သီဆိုကပြကြသတဲ့။

ထိုနတ်သဘင် အစည်းအဝေး၌ လတာနတ်သမီး သီဆိုကခုန်သည့်အခါ နတ်သားအပေါင်းတို့သည် လှုပ်လှုပ်ရှားရှား ဖြစ်သွားကြကာ

နှစ်သက်ရွှင်လန်း ပီတိဖြန်းပြီး အံ့မခန်းသော စိတ်တို့ဖြင့် ကျယ်လောင်ဟစ်ကြွေး ကောင်းချီးပေးသံတို့မှာ မစဲဘဲရှိလေ၏။ အဝတ်ပုဆိုးကိုပင် မြှောက်ပင့်ဝှေ့ယမ်းကာ သဘောကျနှစ်သက်ခြင်းကို ပြကြ၏။ နတ်တို့၏ ကောင်းချီးပေးသံမှာ ဟိမဝန္တာတောကြီးတစ်ခုလုံး ပဲ့တင်သံ ဖုံးလွှမ်းသွားပေသည်။

အခြား နတ်သမီးများ သီဆိုကခုန်ကြသည့်အခါ၌မူ အေးချမ်းလှသည့် ရာသီဥတုဝယ် ဥဩငှက်ငယ်တို့ အသံတိတ်ဆိတ်နေသကဲ့သို့ နတ်ပွဲသဘင်တွင် မည်သည့် ကောင်းချီးပေးသံမျှ မပေါ်လာဘဲ တိတ်ဆိတ်နေပေသည်။

ထို့ကြောင့် ထို သီဆိုကခုန်ပွဲတွင် လတာနတ်သမီးမှာ ထူးခြားစွာထင်ရှား ကျော်ကြားသွားလေသည်။

ထိုအခါ ညီမ အငယ်ဆုံးဖြစ်သည့် သုတာ နတ်သမီးက –

"အစ်မကြီး လတာ၊ အစ်မကြီးသည် အဘယ် ကောင်းမှုမျိုးကို ပြုလို့ အခုလို ကျွန်မတို့ထက် အဆင်း၊ အခြံအရံနဲ့ အဆိုအကတို့ဘက်မှာ သာလွန်ရပါသလဲ"

ဟု လတာ နတ်သမီးကို မေး၏။

လတာနတ်သမီးက ရှေးလူဖြစ်စဉ်ဘဝက ပြုလုပ်ခဲ့သည့်ကောင်းမှုတို့ကို ပြန်လည် ပြောကြားသောအားဖြင့် သုတာ နတ်သမီး၏ အမေးကို ဖြေကြားခဲ့သည်ဟု ဝိမာနဝတ္ထုပါဠိ၊ အဋ္ဌကထာ လတာဝိမာနဝတ္ထု၌ ဟောကြား ဖွင့်ဆိုထားပေသည်။

ဤဝတ္ထု၌ အမျိုးသမီးတစ်ဦး၏ လင်ကို ကျူးကျော်၍ မကျင့်ပုံ၊ ယောက္ခမ, မိဘတို့၌ ရိုသေ၍ အိမ်ရှင်မကောင်း ပီသပုံ၊ သီလမြဲပုံနှင့် ဥပုသ်စောင့် မပျက်ပုံတို့ကို လေ့လာ တွေ့ရှိရ၍ ထိုကောင်းမှုအတွက် တမလွန်လောက နတ်သမီးဘဝတွင် အရာရာ၌ သူတစ်ပါးတို့ထက် သာလွန်ပုံကို ဟောကြားထားရာ အိမ်ထောင်ရှင် အမျိုးသမီးတိုင်း အားကျအတုယူစရာပင် ဖြစ်ပေသည်။

ဤဝတ္ထုကို ထောက်ဆ၍ ကုဝေရ နတ်မင်းကြီးမှတစ်ပါး အခြား စတုရဋ္ဌ စသော နတ်မင်းကြီး သုံးပါးတို့၌လည်း သမီးတော် နတ်သမီးများ ရှိမည်ဟု ယူဆနိုင်ပေသည်။





## နတ်မင်းကြီးလေးပါးတို့၏ ဘုံဗိမာန်များ

မြင့်မိုရ်တောင်ထက်ဝက် အမြင့်ရှိ ယုဂန္ဓိုရ်တောင်ထိပ် အရှေ့ဘက်တွင် အလျား၊ အနံ ယူဇနာတစ်ထောင်စီရှိသော နတ်မြို့ကြီး ရှိ၏။ ထိုနတ်မြို့ကြီး အတွင်း၌ ဓတရဋ္ဌ နတ်မင်းကြီးနေသော ဘုံဗိမာန်ကား အလျား၊ အနံ နှစ်ဆယ့်ငါးယူဇနာစီ ရှိပေသည်။ အထက်သို့ တစ်ယူဇနာမြင့်သည်။ ငွေသားအတိပြီးသည်။ အလုံးစုံသော နတ်တို့၏အသုံးအဆောင်အမျိုးမျိုးတို့ဖြင့် တင့်တယ်လျက်ရှိပေသည်။

ဝိရူဠှကနတ်မင်းကြီး၏ ဘုံဗိမာန်ကလည်း ယုဂန္ဓိုရ်တောင်ထိပ်တောင်မျက်နှာတွင် အလျား၊ အနံ ယူဇနာတစ်ထောင်စီရှိသော နတ်မြို့ကြီးအတွင်း၌ရှိပြီး အလျား၊ အနံ နှစ်ဆယ့်ငါးယူဇနာစီရှိ၍ အမြင့် တစ်ယူဇနာရှိသည့် ပတ္တမြားဗိမာန်ကြီး ဖြစ်သည်။ နတ်အသုံးအဆောင်အမျိုးမျိုးတို့ဖြင့် ပြည့်စုံပေသည်။

ထို့အတူ ယုဂန္ဓိုရ်တောင်ထိပ်၏ အနောက်မျက်နှာရှိ နတ်မြို့ကြီးတွင် ဖန်ဗိမာန်ကြီး၌ ဝိရူပက္ခနတ်မင်းကြီးသည် လည်းကောင်း၊ ယုဂန္ဓိုရ်တောင်ထိပ်၏ မြောက်ဘက်မျက်နှာရှိ နတ်မြို့ကြီးတွင် ရွှေဗိမာန်ကြီး၌ ကုဝေရ နတ်မင်းကြီးသည် လည်းကောင်း အသီးသီး စံမြန်းကြသည်။ နတ်မင်းကြီးလေးပါး ဘုံနန်းဗိမာန်၊ ခြွေရံသင်းပင်း၊ အခင်းအကျင်း စည်းစိမ်အားလုံးတို့ တူကြပေသည်။

## နတ်မင်းကြီးလေးပါးတို့၏ နတ်စစ်သေနာပတိကြီးများ

ထိုစတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့မှာ အသူရာတို့နှင့်ဖြစ်သော စစ်ပွဲတွင် ကြီးကြပ် ကွပ်ကဲကြရသည့် နတ်စစ်သေနာပတိကြီး သုံးကျိပ်ခုနစ်ဦးရှိကြောင်း သုတ်ပါထေယျပါဠိတော် အာဋာနာဋိယသုတ်၌ မြတ်စွာဘုရား ဟောကြားထားပါသည်။

ထိုသုံးကျိပ်ခုနစ်ဦးသော နတ်စစ်သေနာပတိကြီးများမှာ –

(၁) ဣန္ဒနတ်

(၂) သောမနတ်

(၃) ဝရုဏနတ်

(၄) ဘာရဒွါရနတ်
(၅) ပဇာပတိနတ်
(၆) စန္ဒနနတ်
(၇) ကာမသေဋ္ဌနတ်
(၈) ကိန္နုဃဏ္ဍုနတ်
(၉) နိဃဏ္ဍုနတ်
(၁၀) ပနာဒနတ်
(၁၁) ဩပမညနတ်
(၁၂) မာတလိနတ်
(၁၃) စိတ္တသေနနတ်
(၁၄) နဠောရာဇနတ်
(၁၅) ဇနသဘ (ဇနဝသဘ) နတ်
(၁၆) သာတာဂိရနတ်
(၁၇) ဟေမဝတနတ်
(၁၈) ပုဏ္ဏကနတ်
(၁၉) ကရတိယနတ်
(၂၀) သိဝကနတ်
(၂၁) မုခလိန္ဒနတ်
(၂၂) ဝေသာမိတ္တနတ်
(၂၃) ယုဂန္ဓရနတ်
(၂၄) ဂေါပါလနတ်
(၂၅) သုပ္ပရောဇနတ်
(၂၆) ဟိရိနတ်
(၂၇) နေတ္တိနတ်
(၂၈) မန္ဒိယနတ်
(၂၉) ပဉ္စာလစန္ဒနတ်
(၃၀) အာဠာဝကနတ်
(၃၁) ပဇ္ဇုန္နနတ်





(၃၂) သုမနနတ်
(၃၃) သုမုခနတ်
(၃၄) ဒဓိမုခနတ်
(၃၅) မဏိနတ်
(၃၆) မာဏိဝရနတ်
(၃၇) သေရီသကနတ်တို့ ဖြစ်ပါသည်။

ထို နတ်စစ်သေနာပတိကြီးများကို ကြီးကြပ်ကွပ်ကဲစေ၍ မြင့်မိုရ်တောင်၏ အရှေ့မျက်နှာ၌ ဂန္ဓဗ္ဗ နတ်စစ်သည်များ၊ တောင်မျက်နှာ၌ ကုမ္ဘဏ် နတ်စစ်သည်များ၊ အနောက်မျက်နှာ၌ နဂါး နတ်စစ်သည်များနှင့် မြောက်မျက်နှာ၌ ဘီလူး နတ်စစ်သည်များကို အာဋနာဋမြို့မှ စကြဝဠာတောင်အထိ အစောင့်ချထားပေးသည်။

ထိုနတ်စစ်သေနာပတိကြီး ၃၇ ဦးကို ဗုဒ္ဓဘာသာ ၃၇ မင်း ခေါ်၍ ထို ၃၇ မင်းကို အတုယူ၍ အတွင်း ၃၇ မင်း၊ အပြင် ၃၇ မင်း မြန်မာနိုင်ငံတွင် ပေါ်လာသည်ဟု အမျိုးသားပညာဝန် ဦးဖိုးကျားက ဆိုသည်။

ထို နတ်စစ်သေနာပတိကြီး ၃၇ ဦးတွင် အမှတ် ၁ ဣန္ဒနတ်မှ အမှတ် ၉ နိဃဏ္ဍုနတ်အထိ ၉ ဦးသည် နတ်မင်းကြီးများဖြစ်၍ ကျန် နှစ်ဆယ့်ရှစ်ဦးမှာ နတ်စစ်သူကြီးများ ဖြစ်ကြသည်ဟု ဆိုသည်။

သုတ်ပါထေယျအဋ္ဌကထာ၊ မူလ ပဏ္ဏာသအဋ္ဌကထာများ၌ နတ်စစ်သူကြီး ၂၈ ဦးရှိကြောင်း အမြွက်မျှ ပြဆိုထား၏။ ထိုနတ်စစ်သူကြီး ၂၈ ဦးတို့၏ ရုပ်ပုံများကို ပုဂံမြို့ ကျန်စစ်သားတည်ထားသော အာနန္ဒာဘုရား၌ မြောက်ဘက်မုခ် အရှေ့ဘက်တန်းတွင် ၁၄ ရုပ်၊ တောင်ဘက်မုခ် အရှေ့ဘက်တန်းတွင် ၁၄ ရုပ်၊ ပေါင်း ၂၈ ရုပ် တည်ရှိပေသည်။

ထိုနတ်စစ်သူကြီး ၂၈ ဦးအနက် ဇနဝသဘ၊ သာတာဂိရ၊ ဟေမဝတ၊ အာဠာဝက စသော နတ်စစ်သူကြီးအချို့၏အကြောင်းကို အကျဉ်းချုပ်မျှ တင်ပြပါမည်။

## ဇနသဘ (ဝါ) ဇနဝသဘနတ်စစ်သူကြီး

အိန္ဒိယနိုင်ငံ ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရ ရှင်ဘုရင်ကြီးအကြောင်း

ကို ဗုဒ္ဓဘာသာဝင်တိုင်းလိုလို ကောင်းစွာ သိနေကြပြီဖြစ်၍ ဤနေရာ၌ အကျယ်မဖော်ပြတော့ပြီ။

သားတော် အဇာတသတ်မင်းက –

"ငါ့ခမည်းတော်ရဲ့ ခြေဖဝါးတွေကို သင်တုန်းဓားနဲ့ မွှန်းကာ ဆီဆားတွေနဲ့ သုတ်လိမ်းနယ်ပြီး အလျှံမရှိ ပကတိရဲရဲညီးနေတဲ့ ရှားမီးကျီးတွေနဲ့ ကင်ကြရမယ်" ဟု ဆတ္တာသည်များကို စေခိုင်းလိုက်သည်။

ဆတ္တာသည်များသည် အခိုးခြောင်းခြောင်းထွက်အောင် ပူပြင်းနေသည့် သံလှောင်အိမ်ထဲတွင် အကျဉ်းချခံနေရရှာသည့် ဗိမ္ဗိသာရဘုရင်ကြီးကို သူတို့၏ အရှင်သခင်ကောင်းကြီး ဖြစ်သည့်အတွက် တောင်းပန်ရှိခိုးကြကာ မင်းမိန့်အတိုင်း မငြင်းသာဘဲ ဖွတ်အတင်း ပြုလုပ်ကြရရှာသည်။

ဗိမ္ဗိသာရဘုရင်ကြီးမှာ အပြင်းအထန် ဒုက္ခဝေဒနာဒဏ်ကို ခံစားရသော်လည်း လုံးဝ အမျက်မထားဘဲ –

"မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးတော်သည် ဩော်–အံ့ဖွယ်ရှိပေစွ၊
တရားတော်မြတ်၏ ဂုဏ်ကျေးဇူးတော်သည် ဩော်–အံ့ဖွယ်ရှိပေစွ၊
သံဃာတော်မြတ်၏ ဂုဏ်ကျေးဇူးတော်သည် ဩော်–အံ့ဖွယ်
ရှိပေစွတကား"

ဟု ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးတော်ကိုသာ အောက်မေ့တော်မူနေစဉ်ပင် စေတီရင်ပြင်ဝယ် စွန့်ပစ်ထားလိုက်သည့် ပန်းပမာ ညှိုးနွမ်းခြောက်သွေ့ကာ စတုမဟာရာဇ်နတ်ပြည်တွင် ဝေဿဝဏ်နတ်မင်းကြီး၏ အခြံအရံ အလုပ်အကျွေး အပေါင်းအဖော် နတ်ဘီလူး စစ်သူကြီး သွားဖြစ်ပေသည်။

အမည်မှာ ဇနဝသဘ ဖြစ်ပါသည်။

ဤအမည်ရပုံကို ရှင်းပြပါဦးမည်။

ရှင်တော်ဗုဒ္ဓသည် တစ်ဝါ ရပြီးသည့်အခါ ဥရုဝေလကဿပ ရသေ့ဆရာကြီး အမှူးရှိသည့် ရသေ့ညီနောင် ရှင်တစ်ထောင်တို့ကို ရဟန္တာဖြစ်အောင် ချေချွတ်တော်မူပြီးနောက် တောထွက်လာစဉ်က ဗိမ္ဗိသာရဘုရင် လျှောက်တင်ခဲ့သည့် –





"အရှင်ဘုရား၊ တောင်းပန်စကား တပည့်တော် လျှောက်ထားပါတယ်။ ဘုရားဖြစ်တော်မူတဲ့အခါ ရှေးဦးဆုံး တပည့်တော်နိုင်ငံသို့ ကြွချီတော်မူပါ ဘုရား"

ဟူသော စကားအတိုင်း ရဟန္တာတစ်ထောင် ခြံရံကာ ရာဇဂြိုဟ်ပြည်သို့ ကြွချီတော်မူပါသည်။

ထိုအခါ ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရဘုရင်သည် မဂဓတိုင်းသားပုဏ္ဏားသူဌေးပေါင်း တစ်သိန်းနှစ်သောင်း ခြံရံကာ မြတ်စွာဘုရားထံတော်မှောက်သို့ သွားရောက် ချဉ်းကပ်၍ ရိုသေမြတ်နိုး ရှိခိုးပြီးလျှင် အပြစ်ခြောက်ပါး ကင်းစင်ရာအရပ်၌ ထိုင်နေကြပါသည်။

ယင်းသို့ ထိုင်နေကြစဉ် –

'ရဟန်းကြီး ဂေါတမကပင် ဥရုဝေလ ဆရာကြီးရဲ့တပည့် ဖြစ်လေသလား။ သို့မဟုတ် ဥရုဝေလ ကဿပ ဆရာကြီးကပင် ရဟန်းဂေါတမရဲ့တပည့် ဖြစ်သလား'

ဟု ပုဏ္ဏားသူဌေးတို့ သန္တာန်၌ ဖြစ်ပေါ်နေသည့် သံသယကို သိတော်မူ၍ မြတ်စွာဘုရားကိုယ်တိုင် အရှင်ဥရုဝေလကဿပ မထေရ်နှင့် အမေးအဖြေ ပြုလုပ်တော်မူပါသည်။

နောက်ဆုံးတွင် အရှင် ဥရုဝေလကဿပ မထေရ် နေရာမှထ၍ မြတ်စွာဘုရား၏ ခြေဖမိုးတော်၌ ဦးခေါင်းကို ထင်ထားကာ –

"ရှင်တော်မြတ်ဘုရား၊ အရှင်ဘုရားသည် တပည့်တော်၏ ဆရာဖြစ်တော်မူပါတယ်၊ တပည့်တော်မှာ အရှင်ဘုရားရဲ့ တပည့်သာ ဖြစ်ပါတယ် ဘုရား"

ဟု လျှောက်ထားပြီး ကောင်းကင်သို့ ပထမအကြိမ် ထန်းပင်တစ်မြင့်ခန့်၊ ဒုတိယအကြိမ် ထန်းပင်နှစ်မြင့်ခန့်၊ တတိယအကြိမ် ထန်းပင်သုံးမြင့်ခန့် စသည်ဖြင့် ထန်းပင် ခုနစ်မြင့်အထိ ပျံတက်ကာ ဘုရားရှင်ကို ခုနစ်ကြိမ်တိုင်တိုင် ရှိခိုးပြီး နေရာ၌ ပြန်ထိုင်နေပါသည်။

ပုဏ္ဏားသူဌေးတို့မှာ ရှင်ဥရုဝေလကဿပ မထေရ်က မြတ်စွာဘုရားအား လျှောက်ထားပုံ၊ ရှိခိုးပုံတို့ကို ကြားသိ တွေ့မြင်ကြရသည့်အခါမှပင် မိမိတို့သန္တာန်တွင် ဖြစ်ပေါ်နေသည့်သံသယများ ကင်းပျောက်သွားပြီး

မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးစကားများကို ချီးမွမ်း မြွက်ကြားနေကြသည်။ မြတ်စွာဘုရားက -

"ငါဘုရားသည် ယခုအချိန်မှာသာ ဥရုဝေလကဿပကို ယဉ်ကျေးအောင် ဆုံးမခဲ့တာ မဟုတ်၊ ရှေးနာရဒပြဟ္မာမင်းဖြစ်စဉ် ဘုရားလောင်းဘဝကလည်း ဥရုဝေလကဿပအလောင်း အင်္ဂတိမင်းကြီးကို မိစ္ဆာအယူမှ သမ္မာအယူ ယူအောင် ဆုံးမတော်မူဖူးလေပြီ"

ဟု မိန့်တော်မူကာ မဟာနာရဒကဿပဇာတ်ကို ဟောကြားတော်မူပါသည်။

ထို့နောက် ဗိမ္ဗိသာရမင်းကြီး အမှူးရှိသော ပုဏ္ဏားသူဌေးပရိသတ်အပေါင်းအား မဂ်ဖိုလ်ရောက်ကြောင်း တရားဟောစဉ်အတိုင်း ဒါနနှင့်စပ်သောတရား (ဒါနကထာ)၊ သီလနှင့် စပ်သောတရား (သီလကထာ)၊ နတ်ရွာသုဂတိနှင့်စပ်သောတရား (သဂ္ဂကထာ)၊ မဂ်, ဖိုလ် နိဗ္ဗာန်ရောက်ကြောင်း လမ်းကောင်းကျင့်စဉ်နှင့် စပ်သောတရား (မဂ္ဂကထာ) တို့ကို အစဉ်အတိုင်း ဟောကြားတော်မူရာ တရားနာ ပရိသတ်တို့သန္တာန်မှာ နူးညံ့သောစိတ်၊ နီဝရဏကင်းသောစိတ်၊ ဝမ်းမြောက်ကြည်လင်သောစိတ်များ ဖြစ်ပွားလျက် ရှိနေပေသည်။

ထိုအချိန်တွင်မှ သစ္စာလေးပါး မြတ်တရားကို ဟောကြားတော်မူရာ ဗိမ္ဗိသာရဘုရင် အမှူးရှိသော ပုဏ္ဏားသူဌေးပေါင်း တစ်သိန်းတစ်သောင်းတို့ သောတာပန် အရိယာ ဖြစ်သွားကြ၏။ ကျန်ပုဏ္ဏား သူဌေးပေါင်း တစ်သောင်းတို့မှာမူ သရဏဂုံတည် ဥပါသကာများသာ ဖြစ်ကြလေသည်။

ဗိမ္ဗိသာရဘုရင်ကြီးမှာ ထိုသောတာပန် အရိယာ ဖြစ်သောကြောင့် ဧနဝသဘဟု အမည်တွင်ခြင်း ဖြစ်သည်။ (ဧန=တစ်သိန်းတစ်သောင်း ပုဏ္ဏားသူဌေးအပေါင်း၏ + ဝသဘ=အကြီးအကဲ၊ အကြီးအမှူး)

ဤ၌ မေးဖွယ်ရာ ရှိပါသည်။

'ဗိမ္ဗိသာရမင်းကြီးမှာ သောတာပန် အရိယာပုဂ္ဂိုလ်ကြီး ဖြစ်သည့်အပြင် ဝေဠုဝန်ကျောင်းတိုက် အရံကြီးကို လှူဒါန်းသည့် ကျောင်းဒကာကြီးလည်း ဖြစ်သည်။ ကျောင်းတိုက်အရံကြီးကို နှုတ်မြွက်လှူဒါန်းပြီး





ဘုရားလက်ထက်တော်၌ ရေစက်သွန်းချသည့်အခါ၌လည်း မဟာပထဝီမြေကြီး တုန်လှုပ်ခဲ့၏။ ဤဇမ္ဗူဒီပ်ကျွန်း၌ ဝေဠုဝန်ကျောင်းတိုက်အရံကိုထားပြီး မြေကြီးကို တုန်လှုပ်စေ၍ အလှူခံရသည့် အခြား မည်သည့်ကျောင်းတိုက်အရံမျှ မရှိဟု ဗုဒ္ဓဝံသအဋ္ဌကထာ စသည့် ကျမ်းဂန်များ၌ မိန့်ဆိုထား၏။

ဤသို့ ဗိမ္ဗိသာရမင်းကြီးသည် ထူးခြားသော ဝေဠုဝန် ကျောင်းဒကာ၊ သောတာပန်ကြီး ဖြစ်ပါလျက် အဘယ်ကြောင့် အောက်တန်းကျသည့် စတုမဟာရာဇ် နတ်ဘီလူးမျိုး၌ ဖြစ်ရပါသနည်း'

ဟု မေးဖွယ်ရာ ရှိပေသည်။

အဖြေမှာ ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရမင်းကြီးသည် ဝေဠုဝန်ကျောင်းဒကာကြီးနှင့် သောတာပန်အရိယာဖြစ်သည့်အပြင် ရတနာသုံးပါးတို့၌ များစွာသော ကုသိုလ်ကောင်းမှုတို့ကို ပြုလုပ်ခဲ့သည့် အထက်တန်းသူတော်ကောင်းကြီးဖြစ်သည့်အတွက် အထက်နတ်ပြည်မှ စုတေ၍ လူ့ပြည်၌ ခုနစ်ဘဝ ကျင်လည်ခဲ့ဖူး ဖြစ်ခဲ့ဖူးပေသည်။ ယင်းသို့ စတုမဟာရာဇ်နတ်ပြည်၌ ဘဝများစွာ ကာလရှည်ကြာ ဖြစ်ခဲ့ဖူး၊ နေခဲ့ဖူးသောကြောင့် စတုမဟာရာဇ် နတ်ပြည်၌ ဖြစ်လိုသည့် ဘဝနိကန္တိ (ဘဝ၌ တပ်မက်သောတဏှာ) ဘေးကြီး ဖြစ်ခဲ့လေသည်။

ထိုစတုမဟာရာဇ်နတ်ဘဝ၌ ဖြစ်လိုသည့် ဘဝနိကန္တိကြောင့်ပင် အထက်နတ်ပြည်တို့၌ ဖြစ်နိုင်သော ကုသိုလ်ကောင်းမှု ရှိခဲ့သော်လည်း သူဖြစ်လိုသည့် အနိမ့်ဆုံး စတုမဟာရာဇ် နတ်ပြည်၌ပင် ဖြစ်ရပါသည်ဟု ထိုနတ်ဘီလူးကြီးကိုယ်တိုင် **ဣတော သတ္တ တတော သတ္တ၊ သံသရာနိ စတုဒ္ဒသ** စသည်ဖြင့် ထုတ်ဖော် ဝန်ခံ ဖြေကြားထားကြောင်း သုတ်မဟာဝါပါဠိတော် ဇနဝသဘသုတ်၌ မြတ်စွာဘုရား ဟောကြားထားသည်ကို တွေ့ရပေသည်။

## ဘာသာရေးမှတ်သားစရာများ

ဤဗိမ္ဗိသာရမင်းကြီး၏ အကြောင်းအရာ၌ ဘာသာရေးရာ ဓမ္မကြောင်းနှင့် ပတ်သက်၍ မှတ်သားဖွယ် အချက်သုံးချက်ကို တွေ့နိုင်ပေသည်။

**ပထမအချက်မှာ** သဗ္ဗညုတဉာဏ်ရှင် ဘုရားသခင်သည် ဒေသနာအစဉ်အားဖြင့် တရားနာ ဝေနေယျသတ္တဝါတို့အား အရဟတ္တဖိုလ်ပေါက် ပုဟန္တာအဖြစ်ရောက်သည်အထိ သစ္စာလေးပါးတရားကို ဟောကြားတော်မူသော်ငြားလည်း တရားနာပုဂ္ဂိုလ် တစ်သိန်းတစ်သောင်းတစ်ယောက်တို့မှာ မိမိတို့ ရှေးရှေးဘဝတို့က ဆည်းပူးခဲ့သော ပါရမီကုသိုလ် အဆောက်အဦနှင့်တန်ရုံ သောတာပန်မျှသာဖြစ်ကြ၍ တစ်သောင်းသော ပုဂ္ဂိုလ်တို့မှာမူ မဂ်ဖိုလ်မရ သရဏဂုံမျှသာ တည်ကြသည် ဟူသောအချက် ဖြစ်သည်။

**ဒုတိယအချက်မှာ** ဗိမ္ဗိသာရမင်းကြီးမှာ သောတာပန် အရိယာအဖြစ်သို့ ရောက်သော်ငြားလည်း ရှေးအတိတ် ဘဝတစ်ခုမှာ စေတီရင်ပြင်၌ ဖိနပ်စီးခဲ့ခြင်း၊ ထိုင်နေရန် ခင်းထားသည့် ဖျာသင်ဖြူးတို့ပေါ်မှာ မဆေးမကြော ညစ်ပတ်နေသည့် ခြေတို့ဖြင့် နင်းခဲ့ခြင်း အကုသိုလ် ဝဋ်ကြွေးကြောင့် သင်တုန်းဓားဖြင့် ခြေဖဝါးပြင်ကိုမွန်း၍ ဆီဆားသိပ်ကာ ရှားမီးကျီးခဲတို့ဖြင့် အကင်ခံရသည်ကိုထောက်က အရိယာပုဂ္ဂိုလ်ပင်ဖြစ်စေကာမူ ဝဋ်မှာအမြဲ၊ ငရဲအပ ဆိုသကဲ့သို့ ငရဲမှ လွတ်မြောက်သွားသော်ငြားလည်း အကုသိုလ် ဝဋ်ကြွေးကိုလည်း ပေးဆပ်ရကြသေးသည် ဟူသော အချက်ဖြစ်သည်။

**တတိယအချက်မှာ** ဘဝဟောင်းတွင် စုတိကမ္မဇရုပ် ချုပ်ငြိမ်း၍ တမလွန်ဘဝတွင် ခန္ဓာအသစ်ဖြစ်ကြသည့် သတ္တဝါတို့၌ ဖြစ်ခဲ့ဖူးသည့်ဘဝကို တပ်မက်သောတဏှာ၊ ဖြစ်လိုသည့် ဘဝသစ်ကို တပ်မက်သောတဏှာ ဟူသော ဘဝနိကန္တိသည် အရေးပါအရာရောက်၍ အားကြီးသောစွမ်းအင်တစ်ခု ဖြစ်သည်ဆိုသောအချက် ဖြစ်သည်။

မှန်၏။ ဘဝသစ်တစ်ခု ဖြစ်ပေါ်ရာတွင် ဘဝဟောင်း ချုပ်ငြိမ်းခါနီးတွင် အဝိဇ္ဇာ ခေါ် မောဟက ထင်လာသည့် အာရုံ၏အပြစ်ကို မမြင်အောင်၊ မသိအောင် ပညာမျက်စိကို ဖုံးကွယ်ထားပေးလိုက်၏။ ဘဝကိုတွယ်တာတပ်မက်သည့် ဘဝနိကန္တိ ခေါ် တဏှာက လိုချင်သည့်ဘဝကို လမ်းညွှန်ပေးလိုက်၏ (ဝါ) ညွှတ်ပေးလိုက်၏။

ထိုအခါ တဏှာလမ်းညွှန်ပေးသည့်ဘဝကို ကုသိုလ် သို့မဟုတ် အကုသိုလ်ခေါ်သည့် သင်္ခါရက ပို့ပေးလိုက်၏ (ဝါ) ပစ်ချလိုက်ပေသည်။





၌ အဝိဇ္ဇာ၊ တဏှာ၊ သင်္ခါရ အကြောင်းသုံးပါးတွင် တဏှာ ခေါ် ဘဝနိကန္တိတရားသည် အလွန်အရေးပါသည်။

ထို့ကြောင့် ဗိမ္ဗိသာရမင်းကြီးမှာ အထက်နတ်ဘုံများ၌ ဖြစ်နိုင်သည့် ကုသိုလ်သင်္ခါရများ ရှိသော်လည်း ဖြစ်ခဲ့ဖူးသော စတုမဟာရာဇ်နတ်ဘဝ၌ တပ်မက်သော ဘဝနိကန္တိ ခေါ် တဏှာက လမ်းညွှန်ပေး၊ ညွှတ်ပေးသည့် အတိုင်းသာ အောက်ဆုံး နတ်ဘုံ၌ ဖြစ်ရခြင်း ဖြစ်ပေသည် ဟူသော အချက်တို့ ဖြစ်သည်။

## သာတာဂိရနှင့် ဟေမဝတနတ်စစ်သူကြီးများ

၌ ဘဒ္ဒကမ္ဘာတွင် လူတို့အသက် အနှစ် နှစ်သောင်းတမ်း၌ ပွင့်တော်မူသော ကဿပဘုရားရှင်သည် ဘုရားတို့၏ ဓမ္မတာအတိုင်း သက်တမ်း၏ငါးပုံ လေးပုံဖြစ်သည့် အနှစ်တစ်သောင်း ခြောက်ထောင်ကာလပတ်လုံး တည်နေတော်မူပြီး ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့ပါသည်။ ထိုအခါ သက်တော်ရှည် ဘုရားရှင်တို့၏ ဓမ္မတာအတိုင်း သရီရဓာတ်မွေတော်မြတ်သည် အစိတ်စိတ်အမြွှာမြွှာ မဖြစ်ဘဲ ရွှေစိုင်ရွှေတုံးကြီးပမာ တစ်လုံးတစ်ခဲတည်းဖြစ်၍သာ ကြွင်းကျန်ရစ်ခဲ့၏။ ထိုအချိန်မှာ ဗာရာဏသီပြည်တွင် ကိတကမင်းကြီး အုပ်စိုးချိန် ဖြစ်သည်။

ဘုရင်နှင့် ပြည်သူအပေါင်းတို့သည် ကဿပဘုရား၏ တစ်ဆူတည်းသော မွေတော်ဓာတ်ကို ဓာတ်တော်တိုက် တည်ဆောက်ကြပြီး အမြင့်တစ်ယူဇနာ၊ အဝန်းအဝိုင်း တစ်ယူဇနာရှိသည့် စေတီတော်ကြီးကိုတည်ကာ ကိုးကွယ်ကြသတဲ့။

စေတီတော်ကြီး တည်ပြီးသည့်အခါ သူငယ်ချင်း နှစ်ယောက်တို့သည် လူ့ဘောင်မှထွက်၍ ဘုရားလက်ထက်တော် ကတည်းက ရှိခဲ့ကြသည့် တပည့်သာဝကကြီးတို့ထံတွင် ရှင်ရဟန်းပြုကြ၏။ သက်တော်ရှည်ဘုရားရှင်၏ သာသနာတော်တွင် ဘုရားရှင် ရှိစဉ်က တည်ဖြစ်ခဲ့ကြသည့် သာဝကကြီးတို့ကသာ ရှင်ရဟန်း ပြုပေးနိုင်ကြသည်။

ထို့နောက် သူငယ်ချင်း ရဟန်းနှစ်ပါးတို့သည် သာဝကကြီးများ၏ အဆုံးအမ ဩဝါဒကို နာယူကြပြီး –

"ငါတို့မှာ အသက်အရွယ် ငယ်ကြသေးတယ်။ အသက်ကြီးမှ သာလွန်မြင့်မြတ်တဲ့ ဝါသဓုရ (ဝိပဿနာဓုရ) ကမ္မဋ္ဌာန်းအလုပ်ကို စီးဖြန်း အားထုတ်ကြမယ်။ အသက်အရွယ်မကြီးမီ ပရိယတ္တိဓုရ(ဂန္ထဓုရ)ခေါ် စာပေ ပရိယတ် သင်ကြားပို့ချမှုဆိုတဲ့ ရဟန်းအလုပ်ကို အားထုတ်ကြဦးမယ်"

ဟု တိုင်ပင်ကြပြီး ပရိယတ်အလုပ်ကို အားထုတ်ကြရာ ကာလ မကြာမီမှာပင် ပိဋကသုံးပုံကို တစ်ဖက်ကမ်းရောက် တတ်မြောက်ကြလျက် ဝိနည်းအဆုံးအဖြတ်အရာ၌ အလွန်လိမ္မာ ကျွမ်းကျင်တော်မူကြသည့် ဝိနည်းမိုရ် မထေရ်ကြီးများ ဖြစ်လာကြ၏။

ထို့ကြောင့် သာသနာတော်၌ ထင်ပေါ်ကျော်စောမှု၊ တပည့် ပရိသတ် အခြံအရံများမှု၊ လာဘ်လာဘပေါများမှုများ ဖြစ်ပွားလာခဲ့ပေ သည်။ တစ်ပါး တစ်ပါးလျှင် တပည့်တပန်း ရဟန်းပရိသတ် ငါးရာ ငါးရာစီ ရှိသည်ဟု ဆိုပေသည်။

ထိုအချိန်တွင် တောရွာကျောင်းတိုက်ကြီးတစ်တိုက်မှာ ဓမ္မဝါဒီ (တရားတော်အတိုင်း ပြောဆိုနေထိုင်လေ့ရှိသူ) ရဟန်းနှင့် အဓမ္မဝါဒီ (တရားတော်အတိုင်း ပြောဆိုနေထိုင်လေ့မရှိသူ) ရဟန်းနှစ်ပါးတို့ နေထိုင် သီတင်းသုံးနေကြ၏။

ထိုနှစ်ပါးတွင် အဓမ္မဝါဒီရဟန်းမှာ ရက်စက်ရုန့်ရင်းသူ၊ နှုတ် ထွက်ကြမ်းသူ ဖြစ်သည်။

တစ်နေ့မှာ အဓမ္မဝါဒီ ရဟန်း၏ ဝိနည်းသိက္ခာပုဒ်တော်ကို လွန်ကျူးပြစ်နဲ့ပတ်သက်၍ ဓမ္မဝါဒီရဟန်းက ပြစ်တင် ဝေဖန်ရာမှစပြီး ထိုရဟန်းနှစ်ပါးတို့ အချင်းများကြ၏။

ထိုအခါ အဓမ္မဝါဒီရဟန်းသည် –

'ဒီအကြောင်းကို ဝိနည်းမိုရ် မထေရ်ကြီးများက တရားလမ်း အတိုင်း ဆုံးဖြတ်ရင် ငါ သာသနာတော်မှာ နေရတော့မှာ မဟုတ်ဘူး။ ဝိနည်းမိုရ် မထေရ်ကြီးတွေကို ငါ့ဘက်ပါအောင် ဆွဲဆောင်မှ တော်မယ်'

ဟု စဉ်းစားကာ လက်ဆောင် ပရိက္ခရာများကို ယူဆောင်ပြီး ဝိနည်းမိုရ် မထေရ်ကြီးနှစ်ပါးထံသို့ သွားရောက်ပြီး လာဘ်ထိုး၏။ ထို မထေရ်ကြီးနှစ်ပါးတို့ကို ရိုသေလေးမြတ် ချဉ်းကပ်နီးပါး ခစားလုပ်ကျွေး





ကာ ဝတ်ကြီးဝတ်ငယ် အားလုံးကို ပြုစုလိုသူယောင် ဟန်ဆောင်ပြုလုပ် နေသတဲ့။

တစ်နေ့တွင် မထေရ်ကြီး နှစ်ပါးက ထိုအဓမ္မဝါဒီရဟန်းကို ပြန်လွှတ်သော်လည်း ထိုရဟန်းမှာ ပေကတ်နေသဖြင့် –

"ငါ့ရှင်၊ သင့်မှာ ဘာများ လျှောက်ထားစရာ အကြောင်းထူး ရှိသလဲ"

ဟု မေးမြန်းရာ –

"တပည့်တော်မှာ ရဟန်းတစ်ပါးနဲ့ သိက္ခာပုဒ် လွန်ကျူးချက်နဲ့ ပတ်သက်ပြီး ငြင်းခုံမှု ဖြစ်ခဲ့ပါတယ်။ အဲဒီ စောဒကရဟန်းက အရှင်ဘုရား များထံမှောက် လာရောက်ပြီး လျှောက်ထားပါက ဝိနည်းဓမ္မကံ ရှိတဲ့ အတိုင်း ဆုံးဖြတ်တော်မမူကြပါနဲ့ ဘုရား"

ဟု လျှောက်ထား၏။

ပထမတွင် ဝိနည်းမိုရ် မထေရ်ကြီး နှစ်ပါးက ထိုရဟန်း၏ လျှောက်ထားချက်ကို ငြင်းဆန်ကြသေး၏။

သို့သော် အဓမ္မဝါဒီ ရဟန်းက –

"အရှင်ဘုရားများက ဝိနည်းဓမ္မကံအတိုင်း ဆုံးဖြတ်လိုက်ကြပါရင် တပည့်တော်မှာ သာသနာ့ဘောင်မှာ နေရတော့မှာမဟုတ်ပါ။ တပည့်တော် ရဲ့ သံသရာအပြစ်ကို တပည့်တော်ပဲ ခံပါ့မယ်။ အရှင်ဘုရားများကသာ အမှုကို မဆုံးဖြတ်ကြပါနဲ့ဘုရား"

ဟု အတင်းအကျပ် လျှောက်ထားသည့်အခါ မထေရ်ကြီးနှစ်ပါး တို့မှာ မလွှဲသာမရှောင်သာတော့ဘဲ "ငါ့ရှင် ကောင်းပါပြီ" ဟု ဝန်ခံစကား မိန့်ကြားလိုက်ရ၏။

အဓမ္မဝါဒီ ရဟန်းသည် ဝိနည်းမိုရ် မထေရ်ကြီးနှစ်ပါးထံမှ ဝန်ခံ ချက် ရပြီးသည့်အခါ မိမိနေရာ တောရွာကျောင်းတိုက်သို့ ပြန်လာပြီး ဓမ္မဝါဒီရဟန်းကို ရှေးကထက် တိုး၍ လွှမ်းမိုးနှိပ်စက် မထီမဲ့မြင်ပြုလျက် ကြမ်းကြုတ်ခက်ထန်စွာ ဆက်ဆံပြောဆိုလေ၏။

ဓမ္မဝါဒီ ရဟန်းမှာ သည်းမခံနိုင်တော့သဖြင့် ဝိနည်းမိုရ် မထေရ် ကြီးတို့၏အခြံအရံ ရဟန်းတစ်ထောင်ထံမှောက်သို့ သွားရောက်ပြီး –

"သံဃာ့ဘောင်သို့ သက်ရောက်လာသည့် အကြောင်းဝတ္ထုကို တရားလမ်းရှိသည့်အတိုင်း ဆုံးဖြတ်ပေးသင့်ကြောင်း၊ မဆုံးဖြတ်ရင်လည်း စောဒက(တရားလို) ရဟန်း၊ စုဒိတက(တရားခံ) ရဟန်းတွေကို အချင်းချင်း အပြစ်ဝန်ခံစကား ပြောကြားစေပြီး ညီညွတ်အောင် လုပ်ပေးသင့်ကြောင်း၊ အခုလို ဘာမှ မလုပ်ဘဲ နေခြင်းဟာ ဘယ်လို သဘောပါလဲ"

စသည်ဖြင့် လျှောက်ထားတိုင်ကြား၏။

သို့ရာတွင် တပည့်ရဟန်းတော်များကလည်း -

'ဆရာတော်ကြီးနှစ်ပါးဟာ တစ်စုံတစ်ခု အကြောင်းထူးရှိလို့ ဖြစ်လိမ့်မယ်' ဟု ထင်ကြကာ မည်သို့မျှ မပြောကြဘဲ ဆိတ်ဆိတ်နေကြလေသည်။

ထိုအခါ အဓမ္မဝါဒီ ရဟန်းသည် အခွင့်ကောင်းယူကာ -

"ငါ့ရှင်၊ သင် ပြောခဲ့တဲ့အတိုင်း ခုအခါ ထိုအကြောင်းအရာကို ဝိနည်းဓိုရ် မထေရ်များထံ သွားလျှောက်ပါတော့လား"

ဟု ဖိနှိပ်ပြောဆိုပြီး -

"သင် ကနေ့ကစပြီး အရှုံးကြီး ရှုံးပြီ၊ တို့နေထိုင်တဲ့ တောရွာကျောင်းတိုက်သို့ ပြန်မလာခဲ့နဲ့တော့"

ဟု ကြမ်းတမ်းစွာ ပြောဆို ထွက်ခွာသွားလေ၏။

ထိုအခြေအနေထိ ဖြစ်လာသည့်အခါ ဓမ္မဝါဒီ ရဟန်းမှာ မနေနိုင်ရှာတော့ဘဲ ဝိနည်းဓိုရ် ဆရာတော်ကြီးနှစ်ပါး ထံမှောက်သို့ သွားရောက်ကာ -

"အရှင်ဘုရားများဟာ ဘုရားသာသနာရဲ့မျက်နှာကို မကြည့်ကြဘဲ ဒီ အဓမ္မဝါဒီရဟန်းဟာ ငါတို့ကို ပြုစုလုပ်ကျွေးဖော်ရတယ်ဆိုပြီး ပုဂ္ဂိုလ်ရဲ့မျက်နှာကိုသာ ကြည့်ကြတယ်။ သာသနာကို မစောင့်ရှောက်ကြဘဲ အလဇ္ဇီဒုဿီလ ပုဂ္ဂိုလ်ကိုသာ ကာကွယ်စောင့်ရှောက် အားပေးနေကြတယ်။ ကနေ့ကစပြီး အရှင်ဘုရားတို့ ဝိနည်းအဆုံးအဖြတ် မပေးသင့်တော့ပါ။ ဒီနေ့မှာမှ ကဿပမြတ်စွာဘုရား ပရိနိဗ္ဗာန်ဝင်စံတာ အမှန်ဖြစ်တာပါပဲ။ ဘုရား သာသနာတော်မှာ အရှင်ဘုရားတို့ကြောင့် ပျက်စီးခြင်းမလှ ပျက်စီးရတော့တာပဲ ဘုရား"





ဟု ကျယ်လောင်စွာ ပြောဆိုဟစ်အော် ငိုကြွေးကာ ထွက်ခွာသွားရှာလေတော့သည်။

ဝိနည်းဓိုရ် မထေရ်ကြီးနှစ်ပါးတို့သည် ဓမ္မဝါဒီရဟန်း၏ ကျယ်လောင်စွာ စွပ်စွဲကဲ့ရဲ့သံ၊ ငိုကြွေးသံတို့ကို ကြားကြရသည့်အခါ ပြင်းစွာ တုန်လှုပ်သွားကြပြီး -

"ဟုတ်ပေတယ်၊ ငါတို့ဟာ အဂတိလိုက်ကြပြီး အလဇ္ဇီဒုဿီလ ရဟန်းရဲ့ မျက်နှာကိုကြည့်ပြီး သာသနာဆိုတဲ့ ရတနာတုံးကြီးကို ထုံးအိုင်ထဲသို့ ပစ်ချမိခဲ့လေပြီ"

ဟု နောင်တတစ်ဖန် ပူပန်မှု ကုက္ကုစ္စ အကုသိုလ်တရား ဖြစ်ပွားကြသတဲ့။

ထိုမထေရ်ကြီးတို့မှာ ကုက္ကုစ္စဒဏ်ချက် မပျောက်ပျက်တော့ဘဲ စုတိကမ္မဇရုပ် ချုပ်ငြိမ်းသွားကြသည့်အခါ အထက်နတ်ပြည်တို့၌ မဖြစ်နိုင်ကြမူ၍ တစ်ပါးက ဟိမဝန္တာတောအတွင်း ဟေမဝတတောင်၌ ဟေမဝတမည်သော စစ်သေနာပတိ နတ်ဘီလူးကြီး ဖြစ်လေသည်။

ကျန် တစ်ပါးကလည်း မဇ္ဈိမဒေသအတွင်း သာတတောင်၌ သာတဂိရမည်သော စစ်သေနာပတိ နတ်ဘီလူးကြီး ဖြစ်သည်။

ဤ နတ်ဘီလူးကြီးနှစ်ဦးတို့သည် နတ်စစ်ဗိုလ်ချုပ်ကြီးများတွင် ပါဝင်၍ တန်ခိုးအာနုဘော် အလွန်ကြီးမားသည့် နတ်မင်းကြီးများ ဖြစ်ကြပေသည်။

ထိုမထေရ်ကြီး နှစ်ပါးတို့၏ ရဟန်း တစ်ထောင်တို့မှာလည်း ထိုမထေရ်ကြီးတို့နှင့် အလိုတူအလိုပါ ဖြစ်သည့်အတွက် အထက်အထက် နတ်ပြည်တို့၌ မဖြစ်ကြဘဲ ထိုနတ်မင်းကြီး နှစ်ဦးတို့ထံမှာပင် ငါးရာစီ ငါးရာစီ အခြံအရံ နတ်ဘီလူးများ ဖြစ်ကြလေသည်။

ထိုမထေရ်ကြီးနှစ်ပါးတို့၏ ပစ္စည်းလေးပါး ဒကာ၊ ဒကာမတို့မှာမူ အထက်နတ်ပြည်၌ ဖြစ်ကြကုန်သတဲ့။

ဟိမဝန္တာတောအတွင်း၌ ဆေးဒန်းမြင်းသီလာကျောက်အပြင်ရှိ နာဂဝတီမည်သော မဏ္ဍပ်ကြီး၌ တစ်လလျှင် ရှစ်ကြိမ် တရားဆုံးဖြတ်ရန် နတ်သဘင် အစည်းအဝေးပွဲကြီး ကျင်းပမြဲ ဖြစ်သည်။

ထိုအစည်းအဝေးပွဲကြီးသို့ နတ်မင်းကြီးနှစ်ဦးလုံး တက်ရောက်ကြရသည်။ ထိုနတ်သဘင် အစည်းအဝေးပွဲကြီးတွင် နတ်မင်းကြီးနှစ်ဦးတို့ တွေ့ဆုံကြသည့်အခါ လူ့ပြည်က ဖြစ်ရပ်ကို အမှတ်ရကြပြီး တစ်ဦးနှင့် တစ်ဦး ဖြစ်ရာဘုံဌာနကို မေးမြန်းကြကာ –

"ဖြစ်မှ ဖြစ်ရပလေ မိတ်ဆွေရယ်၊ ငါတို့ဟာ ကဿပဘုရားရှင်ရဲ့ သာသနာတော်အတွင်းမှာ နှစ်ပေါင်း နှစ်သောင်းအထိ ရဟန်းတရားကို ကြိုးစား အားထုတ်ခဲ့ကြပါရက်နဲ့ အလဇ္ဇီဒုဿီလ ပုဂ္ဂိုလ်တစ်ယောက် အတွက်ကြောင့် အဆင့်အတန်းနိမ့်တဲ့ နတ်ဘီလူးကြီးတွေ လာဖြစ်ကြရတယ်။ ငါတို့ရဲ့ ပစ္စည်းလေးပါး ဒကာ၊ ဒကာမတွေကတော့ အထက်နတ်ပြည်တွေမှာ ဖြစ်ကြရတယ်"

ဟု ပြောဆိုကြပြီး စိတ်မချမ်းမသာ ဖြစ်ကုန်ကြသတဲ့။

ထို့နောက် မိမိတို့နေရာမှာ အံ့ဖွယ်သရဲ ထူးကဲတဲ့အကြောင်း တစ်စုံတစ်ရာကို တွေ့မြင် ကြားသိကြရရင် တစ်ဦးကိုတစ်ဦး ပြောကြစတမ်းဟု အချင်းချင်း ကတိကဝတ်ပြုကာ နေထိုင်ခဲ့ကြရာ ဘုရားတစ်ဆူနှင့်တစ်ဆူအကြား ကာလဟူသော ဗုဒ္ဓန္တရ အသင်္ချေယျကပ်တစ်ခုပင် ကျော်လွန်ခဲ့သော်လည်း နတ်ဘီလူးဘဝ၌ပင် ရှိနေကြပေသေးသည်။

ဂေါတမဘုရားအလောင်း ပဋိသန္ဓေတည်နေတော်မူသည့်အခါ၊ ဖွားမြင်တော်မူသည့်အခါ၊ တောထွက်တော်မူသည့်အခါ၊ ဘုရားဖြစ်တော်မူသည့်အခါတို့၌ အံ့ဖွယ်သရဲ ထူးကဲသည့် နိမိတ်ကြီး သုံးဆယ့်နှစ်ပါးတို့ ဖြစ်ပေါ်၍၊ မြေလျှင်ကြီးစွာ တုန်လှုပ်ခြင်းတို့ ဖြစ်ပေါ်၍ မြေလျှင်ကြီးစွာ တုန်လှုပ်ခြင်းတို့ကို နတ်စစ်သူကြီးတို့သည် တွေ့မြင်ကြသော်ငြားလည်း တစ်ခဏချင်း ကွယ်ပျောက်သွားကြသဖြင့် ထိုနိမိတ်ကြီးတို့ ဖြစ်ပေါ်လာခြင်း အကြောင်းတို့ကို မဆင်ခြင်မိကြ၊ မသိရှိကြကုန်။

မြတ်စွာဘုရား ပဉ္စဝဂ္ဂီငါးဦးတို့အား ဓမ္မစကြာတရား ဟောကြားတော်မူသည့်အခါ ခဏချင်း မပျောက်ကွယ်ဘဲ ကာလအတန်ကြာ ဖြစ်ပေါ်နေသဖြင့် သာတာဂိရ နတ်မင်းကြီးက ဆင်ခြင်ကြည့်သည့်အခါ မြတ်စွာဘုရား ဓမ္မစကြာတရား ဟောတော်မူနေသောကြောင့် ဖြစ်ကြောင်းကို သိရှိသွား၏။





ထိုအခါ သာတာဂိရနတ်မင်းသည် နတ်ဘီလူးအခြံအရံ ငါးရာတို့နှင့်အတူ မြတ်စွာဘုရားထံတော်မှောက်သို့ သွားရောက်ကာ ဓမ္မစကြာတရားကို နာကြားသည်။ တရားပွဲတွင် သူငယ်ချင်း ဟေမဝတနတ်သားကို ရှာဖွေရာ မတွေ့သဖြင့် သူငယ်ချင်းအတွက် ကြောင့်ကြကာ စိတ်ပျံ့လွင့်နေမှုကြောင့် မဂ်ဖိုလ်တရားထူး တစ်စုံတစ်ရာကိုမျှ မရခဲ့ချေ။ သို့အတွက် တရားပွဲမဆုံးမီ ဟေမဝတ နတ်သားကိုခေါ်ရန် မိမိပရိသတ် နတ်ဘီလူး ငါးရာနှင့်အတူ ဟိမဝန္တာသို့ ရှေးရှုကာ ကောင်းကင်ခရီးဖြင့် သွားလေ၏။

ဟေမဝတ နတ်စစ်သူကြီးကလည်း ဟိမဝန္တာ တောအတွင်း၌ အံ့ဖွယ်သရဲထူးကဲသော နိမိတ်ကြီးများကို တွေ့ရ၍ ရှေးက ကတိပြုထားကြသည့်အတိုင်း သာတာဂိရနတ်စစ်သူကြီးအား ပြောကြားရန် နတ်ဘီလူး ငါးရာ ခြံရံကာ မဇ္ဈိမဒေသသို့ ရှေးရှု၍ ကောင်းကင်ခရီးဖြင့် လာလေသည်။

ထိုနတ်စစ်သူကြီး နှစ်ဦးတို့သည် ရာဇဂြိုဟ်မြို့အပေါ် ကောင်းကင်ပြင်တွင် ရင်ဆိုင် တွေ့ရှိကြ၍ အချင်းချင်း အပြန်အလှန် မေးမြန်းသဖြင့် လာရောက်ကြသည့်အကြောင်းကို အသီးသီး နားလည်သွားကြ၏။

ထိုအခါ ဟေမဝတ နတ်စစ်သူကြီးက သာတာဂိရ နတ်စစ်သူကြီး ဖူးမြင်ခဲ့ရသည့် ဘုရားသည် တကယ် ဘုရားစစ် ဘုရားမှန် ဟုတ်၊ မဟုတ် ဘုရားရှင်တို့၏ ဂုဏ်ပုဒ်တွေကို ဖော်ထုတ်ပြီး မေးမြန်း၏။ သာတာဂိရ နတ်စစ်သူကြီးကလည်း တကယ့် ဘုရားစစ်၊ ဘုရားမှန် ဖြစ်ကြောင်း ဘုရားရှင်၏ ဂုဏ်တော်တွေကို ဖော်ထုတ်ဖြေကြားပေးသည်။

## ပထမဆုံး အမျိုးသမီးသောတာပန် ကာဠီ

ထိုအချိန်ကား ရာဇဂြိုဟ်ပြည်၌ ကုရရဃရမြို့၌နေသူ ကာဠီမည်သော အမျိုးသမီးသည် မိဘတို့၏ အိမ်ပြာသာဒ်ထက်သို့တက်၍ ခြသေ့်ခံသော လေသာတံခါးကိုဖွင့်ကာ ဖွားလုနီးနီး ဖြစ်နေသည့် ကိုယ်ဝန်ကြောင့်ဖြစ်သော ပင်ပန်းမှုကို သက်သာလိုသဖြင့် လေညင်းခံနေဆဲအချိန် ဖြစ်သည်။

ကာဠီ အမျိုးသမီးသည် ထိုနတ်ဘီလူးကြီး နှစ်ဦးတို့ ပြောကြားကြသည့် ဘုရားရှင်ဂုဏ်တော်များကို အစအဆုံး ကြားနာရ၍ –

"မြတ်စွာဘုရားရှင်တွေဟာ ဒီလို အံ့ဖွယ်အထူး ဂုဏ်ကျေးဇူးတော်တွေနဲ့ ပြည့်စုံတော်မူပါပေစွတကား"

ဟု ဘုရားဂုဏ်ကို အာရုံထား၍ နှစ်သက်ခြင်း ပီတိတရား ဖြစ်ပွားလာကာ ထိုပီတိဖြင့်ပင် အကုသိုလ် နီဝရဏတရားတို့ကို ပယ်ခွာကာ ဝိပဿနာ ကမ္မဋ္ဌာန်း စီးဖြန်းလိုက်ရာ ထိုနေရာမှာပင် သောတာပန် တည်သွားလေသတဲ့။

ထို ကာဠီ အမျိုးသမီးသည် အမျိုးသမီးလောကတွင် ပထမဆုံး သောတာပန်ဖြစ်သည့် အမျိုးသမီး ဖြစ်သည့်အပြင် ဘုရားဂုဏ်တော်ကို တစ်ဆင့် ကြားရုံမျှဖြင့် ဘုရားကို ကြည်ညိုသော အမျိုးသမီး ဖြစ်သည်။

ထို့ကြောင့် နောင်အခါတွင် ဘုရားရှင်သည် အမျိုးသမီးတို့ကို ဧတဒဂ်ဘွဲ့နှင်းသဘင် ဆင်ယင်တော်မူသည့်အခါ –

"ရဟန်းတို့၊ တစ်ဆင့် ကြားရုံမျှဖြင့် ရတနာသုံးပါး၌ သက်ဝင်ကြည်ညိုကြသူ ငါဘုရား၏ တပည့်မ အပေါင်းတွင် ကာဠီမည်သော အမျိုးသမီးသည် အမြတ်ဆုံး၊ အထူးချွန်ဆုံး ဖြစ်တယ်"

ဟု အနုဿဝပသာဒ (တစ်ဆင့်ကြားရုံဖြင့် ကြည်ညိုသော) အရာ၌ ဧတဒဂ်ထားတော်မူပါသည်။

ထို့နောက် သာတာဂိရ နတ်မင်းနှင့် ဟေမဝတ နတ်မင်းတို့ နှစ်ဦးတို့သည် မိမိတို့ အခြွေအရံ နတ်ဘီလူးပေါင်း တစ်ထောင်ခြံရံကာ ထိုညသန်းခေါင်ယံ အချိန်မှာပင် ရှင်တော်ဘုရား ဓမ္မစကြာတရား ဟောကြားတော်မူသည့် ဗာရာဏသီပြည်အနီး ဣသိပတန မိဂဒါဝုန်တောကြီးသို့ သွားရောက်ကြပြီး ဓမ္မစကြာတရားဟောပြီး၍ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေမြဲ ထိုင်နေတော်မူသည့် မြတ်စွာဘုရားထံ မိမိတို့ မသိမမြင်သည့်တရားများကို မေးလျှောက်ခွင့်ပြုရန် လျှောက်ထားကြ၏။

ဘုရားရှင်က ခွင့်ပြုတော်မူသဖြင့် နတ်မင်းကြီးနှစ်ဦးတွင် တန်ခိုး ပညာ သာလွန်ထက်မြက်သည့် ဟေမဝတ နတ်မင်းကြီးက သိလိုသော တရားအချက်အလက်များကို လျှောက်ထားသည်။

သံသရာလည်ကြောင်း ဝဋ္ဋတရား မေးခွန်းများနှင့် သံသရာဝဋ်မှ လွတ်မြောက်ကြောင်း ဝိဝဋ္ဋတရား မေးခွန်းများကို အလုံးစုံ ဖြေကြားတော်





မူပြီး အရဟတ္တဖိုလ်ကို အထွတ်တပ်ကာ တရားဒေသနာတော်မြတ်ကို ကောင်းစွာ အဆုံးသတ်တော်မူပါသည်။

ဒေသနာနိဂုံး အဆုံးသတ်တော်မူသည့်အခါ နတ်မင်းကြီး နှစ်ဦးတို့သည် နောက်ပါ အခြံအရံ နတ်ဘီလူးပေါင်း တစ်ထောင်နှင့်တကွ သောတာပန် အရိယာများ ဖြစ်သွားကြကုန်၏။

ဤသည်တို့မှာ သုတ္တနိပါတ် ပါဠိတော် ဥရဂဝဂ်၌လာရှိသည့် ဘုရားဟောကြားတော်မူသော ဟေမဝတသုတ်လာ အကြောင်းအရာ အကျဉ်းချုပ် ဖြစ်ပါသည်။

(ရှေးဗုဒ္ဓဝင် ကျမ်းဂန်များ၌ သာတာဂိရိ နတ်မင်းဟု အသုံးအနှုန်း ရှိခဲ့သော်လည်း ဆဋ္ဌသံဂါယနာမူ သုတ္တနိပါတ် ပါဠိတော် ဟေမဝတသုတ်၌ လည်းကောင်း၊ သုတ်ပါထေယျပါဠိတော် အာဋာနာဋိယသုတ်၌ လည်းကောင်း 'သာတာဂိရော၊ ဟေမဝတော' ဟုရှိ၍ မင်းကွန်း တိပိဋကရေဓမ္မဘဏ္ဍာဂါရိက ဆရာတော် ပြုစုသည့် မဟာဗုဒ္ဓဝင် ဒုတိယတွဲ၌ 'သာတာဂိရ နတ်မင်း'ဟုပင် မိန့်ဆိုထားသောကြောင့် သာတာဂိရ နတ်မင်းဟု သုံးနှုန်းထားခြင်း ဖြစ်သည်။)

## ဤသုတ္တန်ဒေသနာလာ မှတ်သားစရာအဖြာဖြာ

ဤဟေမဝတသုတ္တန် ဒေသနာတော်၌ မှတ်သားစရာ ဘာသာရေး ဗဟုသုတ အဖြာဖြာကို တွေ့ရှိရပါသည်။

ပထမအချက်မှာ ကဿပဘုရားရှင် စသည့် သက်တော်ရှည်ဘုရားရှင်တို့၏ သာသနာတော်တွင် ဘုရားရှင် ရှိစဉ်က တပည့် ဖြစ်ခဲ့ကြသည့် သာဝကကြီးတို့ကသာ ရှင်ရဟန်း ပြုပေးနိုင်ကြသည် ဆိုသည့် အချက်ပင် ဖြစ်သည်။

ဒုတိယအချက်မှာ အဂတိတရား လေးပါးတွင် တစ်ပါးပါး လိုက်စားခြင်း၏ပြစ်ချက် ဖြစ်သည်။

နှစ်ပေါင်း နှစ်သောင်းနီးပါး ရဟန်းတရားကို ကြိုးစားအားထုတ်ခဲ့ကြသည့် ဝိနည်းဓိုရ် မထေရ်ကြီးနှစ်ပါးမှာ အထက်နတ်ဘုံများမှာ ဖြစ်နိုင်သည့် ကုသိုလ်အင်အား ကြီးမားခဲ့သော်ငြားလည်း ဆန္ဒဂတိလိုက်မှု

အကုသိုလ် ပီဠကကံက ထိုအင်အားကြီးမားသည့် ကုသိုလ်ကံကို အကျိုးပေး မသန်အောင် နှိပ်စက်လိုက်မှုကြောင့် ဝေဿဝဏ် နတ်မင်းကြီး၏ လက်အောက်ခံ နတ်ဘီလူးစစ်သူကြီးများသာ လာဖြစ်ကြရခြင်း ဖြစ်သည်။

အဂတိတရား လိုက်စားမှု အကုသိုလ်ကံသည် ကုသိုလ်အခံနည်း သူများအဖို့ ငရဲသို့ ပို့ဆောင်နိုင်ကြောင်း အင်္ဂုတ္တိုရ်ပါဠိတော် ဘဒ္ဒေကဋ္ဌသက သုတ်များ၌ ဟောထားပေသည်။

ဤအချက်ကား ဝိနည်းဓိုရ်ရဟန်းတော်များ၊ ဝိနိစ္ဆယရုံး အမှုထမ်း များ၊ တရားသူကြီးများ၊ တရားရေးဝန်ထမ်းများ၊ ဌာနဆိုင်ရာ အကြီးအကဲ များ စသည့်ပုဂ္ဂိုလ်တို့ အလွန်သတိထားရမည့်အချက် ဖြစ်သည်။

တတိယအချက်မှာ ပထမဘဝတွင်(ဝါ)ရှေ့ဘဝတွင် ပစ္စည်းလေးပါး ဒကာ၊ ဒကာမများထက် မြင့်မြတ်သည့် သာသနာ့ဝန်ထမ်း ရှင်ရဟန်း ဘဝကို ရခဲ့ကြသော်လည်း အကျင့်ချွတ်ယွင်းပါက ဒုတိယဘဝတွင် (ဝါ) နောက်ဘဝတွင် ဒကာ၊ ဒကာမတို့က အထက်နတ်ဘုံများ၌ ဖြစ်ကြရပြီး ရဟန်းတော်များမှာ အောက်ဆုံး နတ်ဘုံ၌သာ ဖြစ်ကြရခြင်း ဖြစ်သည်။

ဤအဖြစ်မျိုးကို ဂေါပကနတ်သားဝတ္ထု၌လည်း တွေ့ရသည်။ ဤအချက်နှင့် ပတ်သက်၍ မင်းကွန်း တိပိဋကက ဆရာတော်ဘုရားကြီး ဟောကြားတော်မူသည့် **ဝါးချက် မင်းကျောင်း ဆရာတော်ဘုရားကြီး** အကြောင်းကို တင်ပြလိုပါသည်။

ဝါးချက်ရွာကား စစ်ကိုင်းတောင်ရိုး မြောက်ဖျားမှာရှိသောရွာ ဖြစ်ပါသည်။ ထို ဝါးချက်ရွာက မင်းကျောင်း ဆရာတော်ဘုရားကြီးမှာ ပရိယတ်၊ ပဋိပတ် စွယ်စုံရ ပုဂ္ဂိုလ်ကြီးဖြစ်၍ သာသနာတော်တွင် ထိုခေတ် ထိုအခါက အလွန် ထင်ရှားသည့် ဆရာတော်တစ်ပါး ဖြစ်သည်။

တစ်ချိန်မှာ မင်းကျောင်း ဆရာတော်ကြီးကို မန္တလေးရွှေမြို့တော် က အလှူပင့်သဖြင့် ကြွသွားပါသည်။

ဒကာ၊ ဒကာမများကို တရားဟောရမည့် အချိန် ဆိုက်ရောက် သည့်အခါ သံဃာစင်ပေါ်ရှိ မြို့ပေါ်က ဆရာတော်ကြီးများက -

"ဟာ-ဝါးချက် မင်းကျောင်းဆရာတော်ဟာ အလွန် ရောက်ခဲ ပါတယ်။ တရားဟောပါ" လို့ ဝိုင်းတိုက်တွန်းကြသတဲ့။





မင်းကျောင်းဆရာတော်ကြီးက -

"မဟောပါရစေနဲ့" လို့ ပြန်ပြောတယ်။

ဆရာတော်ကြီးတစ်ပါးက -

"ဟာ-မဟုတ်ပါဘူး။ အင်မတန် ရောက်ခဲပါတယ်။ ဟောပါ" ဟု ထပ်တိုက်တွန်းတယ်။

ဝါးချက် ဆရာတော်ကြီးက -

"ဟုတ်တာ ပြောတတ်လွန်းလို့ မဟောပါရစေနဲ့ ကိုယ်တော်" ဟု ပြောပြီး ငြင်းပြန်ပါသည်။

ထိုအခါ ထောင့်မှာထိုင်နေသည့် ဆရာတော်တစ်ပါးက မခံချင် သည့်စိတ်ဖြင့် -

"မဟုတ်ပါဘူး ကိုယ်တော်၊ တရားဟောတယ်ဆိုတာ ဟုတ်တာ ဟောရမှာပေါ့" ဟု ဝင်ထောက်လိုက်ပြန်သတဲ့။

ယင်းသို့ ဆရာတော်များက ဝိုင်းဝန်းပြောကြသည့်အခါ ဝါးချက် ဆရာတော်ကြီးက မနေသာတော့ဘဲ တရားဟောရရှာပါတယ်။

သီလပေးပြီး တရားဟောသည့်အခါ -

"အခု မင်းတို့က အောက်ကနေပြီးတော့ ပုဗ္ဗ၊ မုဋ္ဌ၊ ပရ စေတနာ ဆိုတဲ့ စေတနာသုံးတန် ထက်သန်စွာနဲ့ ဟောဒီ သင်္ကန်းတွေ၊ ထီးတွေ၊ ဖိနပ်တွေဟာ နိဗ္ဗာန်လက်ဆောင်တွေကွ။

အဲဒါတွေကို မင်းတို့က စေတနာသုံးတန် ပြဋ္ဌာန်းပြီး ဝမ်းပန်း တသာ လှူလိုက်တော့ အခု မင်းတို့က အောက်မှာ ထိုင်ရပေမယ့် နောက် ဘဝကျလျှင် အထက်အထက်ဖြစ်တဲ့ တာဝတိံသာ၊ ယာမာ နတ်ပြည်တွေ ရောက်မှာ သေချာတယ်။

အေး-အခု သံဃာစင်ပေါ်မှာ အမြင့်က နေကြတဲ့ တို့တစ်တွေ ကတော့ မင်းတို့ လှူလိုက်တဲ့ သင်္ကန်းတွေ၊ ထီးတွေ၊ ဖိနပ်တွေ၊ ပရိက္ခရာ တွေကို ငါ့သင်္ကန်း၊ ငါ့ထီး၊ ငါ့ဖိနပ်၊ ငါ့ပရိက္ခရာ၊ ငါ့ဆွမ်း၊ ငါ့ကျောင်း၊ ငါ့ဆေးဆိုတဲ့ တဏှာနဲ့ ပစ္စည်းလေးပါးကို စွဲလျှင်တော့ အောက်ရောက်ဖို့ သေချာတယ်" ဟု ဟောသတဲ့။

ထိုအခါ ထောင့်က ဆရာတော်ဘုရားကြီးက မခံချင်ပြန်သဖြင့်-

"ကိုယ်တော်၊ ဒါ လူတိုင်း မဟုတ်ပါဘူး"

ဟု ဝင်ပြောလိုက်သည့်အခါ -

"အဖြစ် များသဗျာ"

ဟု ပြန်ဖြေ ဟောကြားပါသည်။

ဤကဲ့သို့ ဝါးချက် ဆရာတော်ကြီး ဟောတော်မူခြင်းမှာ ဒကာက အထက်ဘွဲ့၊ ဆရာက အောက်ဘွဲ့များမှာ ဖြစ်ကြရသည့် ဤဟေမဝတ သုတ္တန်နဲ့ သက္ကပဉှသုတ်လာ ဂေါပက နတ်သား စသည့် ကျမ်းဂန်လာ အကြောင်းအရာများကို သိထားသောကြောင့်ပင် ဖြစ်ပါသည်။

စတုတ္ထအချက်မှာ ပါရမီဓာတ်ရင့်သူများအဖို့ ဘုရားဂုဏ်တော်များကို အောက်မေ့ပွားများသည့် ဗုဒ္ဓါနုဿတိ သမထဘာဝနာ ကုသိုလ်မှာ ဈာန်မဂ်ဖိုလ်ကို မရနိုင်ဘဲ ဥပစာရ သမာဓိမျှသာ ဖြစ်နိုင်သော်လည်း ထို ဗုဒ္ဓါနုဿတိဘာဝနာကြောင့် ဖြစ်ပေါ်လာသည့် ပီတိ စသော တရားများမှတစ်ဆင့် ဝိပဿနာဘာဝနာသို့ ကူးပြောင်းအားထုတ်ပါလျှင် ကာဠီအမျိုးသမီးကဲ့သို့ တစ်မဂ်တစ်ဖိုလ် ရနိုင်သည့်အချက် ဖြစ်ပါသည်။

ပဉ္စမအချက်မှာ သာတာဂိရ နတ်စစ်သူကြီးကား ရှင်တော်ဗုဒ္ဓကိုယ်တော်တိုင် ဟောကြားသည့် တရားဦး ဓမ္မစကြာတရားကိုလည်း ကြားနာရ၏။ မဂ်ဖိုလ်ရနိုင်သည့် မဂ်မျိုးစေ့ ပါရမီဓာတ်ခံလည်း ရှိနေပြီဖြစ်၏။

သို့သော် တရားတော်၌ စိတ်မဝင်စားနိုင်ဘဲ သူငယ်ချင်း ဟေမဝတ နတ်စစ်သူကြီး အကြောင်းများကို တွေးတောပြီး စိတ်ပျံ့လွင့်နေသဖြင့် တရားထူး မရခဲ့ပါချေ။

ထို့အတူ တရားအားထုတ်သူ ယောဂီပုဂ္ဂိုလ်သည် တရားအားထုတ်နေသော်ငြားလည်း တရား၌ စိတ်မဝင်စားနိုင်ဘဲ အခြားအကြောင်းများကို တွေးတောပြီး စိတ်ပျံ့လွင့်နေလျှင် မည်သည့် တရားကိုမျှ ရနိုင်မည် မဟုတ် ဟူသောအချက် ဖြစ်သည်။

ဆဋ္ဌမအချက်မှာ စတုမဟာရာဇ်နတ်တို့၏ သက်တမ်းမှာ ဖော်ပြခဲ့ပြီးသည့်အတိုင်း ထိုနတ်တို့ အရေအတွက်အားဖြင့် နှစ်ပေါင်း ၅၀၀၊ လူတို့နှစ်အရေအတွက်အားဖြင့် အနှစ် ၉ သန်း အသက်ရှည်ပါသည်။





သို့ရာတွင် ယခု နတ်စစ်သူကြီး နှစ်ဦးတို့မှာ ကျွန်ုပ်တို့ ဘုရားရှင် ပွင့်သည်အထိ အသက်ရှင်နေကြရကား လူတို့ အနှစ် ၉ သန်းမက အန္တရ တစ်ကပ်ကျော်ပင် ရှိနေကြပေသည်။

ဤမျှ အသက်ရှည်ကြသည်မှာ ထို နတ်စစ်သူကြီး နှစ်ဦးလုံး တောင်ကိုမှီ၍ နေထိုင်ကြသည့် ဘုမ္မစိုးနတ်ကြီးများ ဖြစ်ကြသောကြောင့် ဖြစ်သည်ဟု ဆိုပါသည်။

မှန်၏။ ဘုမ္မစိုးနတ်တို့မှာ ကံရှိသလောက် အသက်ရှည်ကြ၍ သက်တမ်း မမြဲကြ။

အချို့ ဘုမ္မစိုးနတ်တို့မှာ အသင်္ချေယျကပ်တိုင်အောင်ပင် အသက်ရှည်ကြ၍ အချို့မှာ ကံအားလျော်စွာ ၇ ရက်၊ ၁၅ ရက်၊ တစ်လ စသည် လောက်သာ အသက်ရှည်ကြသည်ဟု ဝိဘင်းအဋ္ဌကထာ၊ အင်္ဂုတ္တိုရ်ဋီကာ စသော အဋ္ဌကထာ၊ ဋီကာကျမ်းများ၌ မိန့်ဆိုထား၏။

ထို့ကြောင့် ထိုနတ်စစ်သူကြီးနှစ်ဦးတို့မှာ ကံအရှိန်အဝါ ကြီးမားကြ၍ ဤမျှ အသက်ရှည်သည်ဟု မှတ်သားရန် ဖြစ်ပါသည်။

▢

# အာဠာဝက နတ်စစ်သူကြီး

သာတာဂိရနှင့် ဟေမဝတ နတ်စစ်သူကြီးများ အကြောင်းကို အကျဉ်းချုံး တင်ပြပြီးနောက် အာဠာဝက နတ်စစ်သူကြီးအကြောင်းကို အကျဉ်းချုပ် ဆက်လက် တင်ပြပါမည်။

အာဠာဝက နတ်စစ်သူကြီးကား စတုမဟာရာဇ် နတ်မင်းကြီး လေးပါးတို့၏ စစ်သေနာပတိကြီး သုံးကျိပ်ခုနစ်ယောက်တို့တွင် တစ်ယောက် အပါအဝင် ဖြစ်၏။

အာဠာဝက နတ်စစ်သူကြီးသည် အာဠဝီမြို့တော်အနီး ညောင်ပင်ကြီးကို အုပ်စိုး၍ နေလေသည်။ အာဠာဝက နတ်ဘီလူးကြီး ဘုံဗိမာန်မှာ မြေပြင်၌ တည်ရှိ၏။ တံတိုင်းဖြင့် ကာရံထား၍ ကောင်းစွာ လုံခြုံ၏။ တံခါး၊ ပြအိုး၊ တံခါးမုခ်များကို နေရာတကျ တပ်ဆင်ထား၏။ ဗိမာန်တော်၏အထက်တွင် ကြေးဖြူဇာကွန်ဖြင့် ဖုံးအုပ်ထား၍ သုံးယူဇနာ (၂၄ မိုင်) ရှိလေသည်။

နေမွန်းတည့်ချိန်တွင် ညောင်ပင်ရိပ် ကျရောက်ရာ အရပ်အပိုင်းအခြား အတွင်းသို့ နေ့ ဖြစ်စေ၊ ည ဖြစ်စေ ဝင်ရောက်လာသည့် သတ္တဝါ မှန်သမျှကိုစားရန် ဝေဿဝဏ် နတ်မင်းကြီးထံမှ အခွင့်ရထားသည်။

အာဠာဝက နတ်ဘီလူးကြီးမှာ အမျက်ဒေါသ ခက်ထန်သည်နှင့် အမျှ အလွန် တန်ခိုးကြီး၏။ ဘွဲ့ဖြူနတ်ပုဆိုးနှင့် လက်နက်ကို ပိုင်ဆိုင်ထားသူ ဖြစ်၏။ အမျက်ထွက်သဖြင့် ဘွဲ့ဖြူနတ်ပုဆိုးလက်နက်ကို အထက်ကောင်းကင်သို့ ပစ်လွှင့်လိုက်လျှင် တစ်ဆယ့်နှစ်နှစ်လုံးလုံး မိုးမရွာတော့ချေ။





အကယ်၍ မြေပေါ်သို့ ပစ်ချလိုက်လျှင် သစ်ပင်၊ မြက်ပင် အားလုံး တစ်ခါတည်း ခြောက်သွေ့ကုန်ပြီး တစ်ဆယ့်နှစ်နှစ်အတွင်း၌ တစ်ဖန် ပြန်မပေါက်နိုင်ကြပေ။

အကယ်၍ သမုဒ္ဒရာထဲသို့ ပစ်လိုက်လျှင်လည်း အလွန် ချစ်ချစ်တောက်ပူနေသည့် မီးအိုးကင်းထဲသို့ ကျရောက်သွားသည့် ရေစက်ကလေးပမာ သမုဒ္ဒရာရေအားလုံး ခြောက်ခန်းသွား၏။

အကယ်၍ မြင့်မိုရ်တောင် ကဲ့သို့သောတောင်ကို ပစ်လွှတ်လိုက်လျှင်လည်း တောင်ကြီး အပိုင်းပိုင်းဖြစ်ကာ ဖရိုဖရဲ ပြိုကွဲပျက်စီးသွား၏။

ထို့ပြင် ကေလာသတောင်ထွတ်၌ ရပ်တည်ကာ "အာဠာဝက ဆိုတာ ငါပဲကွ" လို့ ကြုံးဝါး ဟစ်အော် ကြွေးကြော်လိုက်လျှင်လည်း ထိုကြုံးဝါးသံကို ဇမ္ဗူဒိပ်တစ်ကျွန်းလုံးရှိ မြို့ရွာများ အားလုံး မြို့ရွာထိပ်က အော်သည့်အသံအလား ကြားကြရ၏။ ယူဇနာသုံးထောင် အပြန့်ကျယ်သည့် ဟိမဝန္တာတောကြီးပင် တဖိမ့်ဖိမ့်တုန်လှုပ်သွား၏။

အာဠာဝကဘီလူးကား ခက်ထန်ကြမ်းတမ်းလှဘိ၏။ မိဘတို့ကို သော်မှ ရှိခိုးခြင်း စသည်ကို ပြုလေ့မရှိ။ ရဲရဲပြောင်ပြောင် မီးစွဲလောင်သည့် သံအိုးကင်းနှင့် တူသူ ဖြစ်၏။ မိဘမှန်း၊ ရဟန်း ပုဏ္ဏားမှန်း၊ တရားမှန်း၊ မတရားမှန်း လုံးဝ မသိနားမလည်သူ ဖြစ်သည်။

သူ့ဗိမာန်သို့ ရောက်ရှိလာသူ မှန်သမျှကို စိတ်ပျံ့လွင့်သွားအောင်လည်း ပြုတတ်၏။ နှလုံးသားကိုလည်း ဖောက်ခွဲပစ်တတ်၏။ ခြေနှစ်ချောင်းကိုကိုင်၍ သမုဒ္ဒရာတစ်ဖက်သို့ဖြစ်စေ၊ စကြဝဠာတိုက်တစ်ဖက်သို့ဖြစ်စေ ပစ်လွှင့်တတ်သူလည်းဖြစ်ကြောင်း သူ၏တံခါးမှူး ဂဒြဘဘီလူး၏ ဘုရားရှင်သို့ လျှောက်တင်ချက်အရ သိရသည်။

## အာဠာဝကဘီလူးနှင့် အာဠာဝကဘုရင်

ဤအာဠာဝကသုတ္တန် ဒေသနာတော်၌ ထူးခြားသည်မှာ အာဠဝီပြည်ကို စိုးမိုးအုပ်ချုပ် မင်းလုပ်သူ၏ အမည်မှာလည်း အာဠာဝက၊ အာဠဝီမြို့တော် အနီးရှိ ညောင်ပင်ကြီးကို အုပ်စိုးနေသူ နတ်ဘီလူးကြီး၏ နာမည်မှာလည်း အာဠာဝကပင် ဖြစ်ပေသည်။

တစ်နေ့တွင် အာဠဝီပြည့်ရှင် ဘုရင် အာဠာဝကသည် တောကစားသွားရာမှ အပြန်တွင် မောပန်းသောကြောင့် အရိပ်ကောင်းလှသည့် ညောင်ပင်ကြီးအောက်တွင် ဝင်၍ အပန်းဖြေနေ၏။

အမောအပန်းပြေ၍ သွားမည်ပြုသောအခါ အာဠာဝကဘီလူးက–

"သင်သည် ငါ့အစာဖြစ်ပြီ မသွားနဲ့"

ဆို၍ ဖမ်း၏။

မင်းကြီးက –

"နေ့စဉ် လူတစ်ယောက်နှင့် ထမင်းတစ်အိုး ပို့ပါမည်"

ဟု ကတိပြု ဝန်ခံသောကြောင့် လွှတ်လိုက်၏။

ထိုအချိန်မှစ၍ ထောင်တွင်းရှိ အကျဉ်းသားများကို ထမင်းအိုးနှင့်အတူ လွှတ်၍ ပို့၏။ ထောင်သားများ ကုန်သည့်အခါ သေခါနီးဖြစ်သောလူကြီးများကိုလွှတ်လျှင် တိုင်းပြည်ဆူမည် စိုးသောကြောင့် ကလေးငယ်တို့ကို နေ့စဉ် တစ်ယောက်ကျ ပို့စေ၏။ ထို့ကြောင့် ကိုယ်ဝန်ဆောင်အမျိုးသမီးများနှင့် သားသည်အမေတို့သည် အရပ်တစ်ပါးသို့ ထွက်ပြေးတိမ်းရှောင်သွားကြကုန်၏။

ဤနည်းဖြင့် တစ်နေ့လျှင် ကလေးတစ်ယောက်ကျစီ ပေးပို့ရာ တစ်ဆယ့်နှစ်နှစ်ကြာသည့်အခါ ကလေးသူငယ်များ ကုန်သွား၏။

ထိုအခါ မင်းချင်းတို့က –

"အရှင်မင်းကြီးရဲ့သားတော် အာဠာဝက မင်းသားလေးမှတစ်ပါး ပြည်သူတို့မှာ သားငယ် မရှိတော့ပါ"

ဟု လျှောက်ထားရာ မင်းကြီးက –

"လောကမှာ မိမိကိုယ်ထက် ချစ်စရာမရှိ"

ဆိုပြီး သားငယ်လေးအား ဘီလူးစာကျွေးရန် ခွင့်ပြုလိုက်ပေတော့သည်။

မင်းချင်းတို့သည် နန်းတော်သို့သွား၍ မင်းအမိန့်ဖြင့် တစ်သောင်းခြောက်ထောင်သော မောင်းမအပေါင်းနှင့်တကွ မယ်တော်မိဖုရားကြီးတို့ ငိုကြွေး မြည်တမ်းနေကြစဉ်မှာပင် နောက်တစ်နေ့တွင် ဘီလူးစာကျွေးရန် အာဠာဝက မင်းသားကလေးကို ယူသွားကြ၏။





## မြတ်ဗုဒ္ဓနှင့် အာဠာဝကဗိမာန်

ထိုနေ့၌ပင် ဘုရားရှင်သည် နံနက် မိုးသောက်ယံတွင် ဇေတဝန်ကျောင်းတိုက် ဂန္ဓကုဋိကျောင်းတော်၌ ဗုဒ္ဓစက္ခုတော်အစုံဖြင့် ကျွတ်ထိုက်သူ နတ်လူဗြဟ္မာ သတ္တဝါအပေါင်းကို ကြည့်တော်မူရာ –

(၁) အာဠာဝက မင်းသားငယ် အနာဂါမ်တည်မည့်အကြောင်း

(၂) အာဠာဝကဘီလူး သောတာပန်တည်မည့်အကြောင်းနှင့်

(၃) တရားဒေသနာအဆုံး၌ သတ္တဝါပေါင်း ရှစ်သောင်းလေးထောင်တို့ မဂ်ပေါက်ဖိုလ်ဝင်ဖြစ်ကြမည့် အကြောင်းသုံးရပ်တို့ကို မြင်တော်မူလေသည်။

ထို့ကြောင့် ပြုလုပ်ဖွယ်ရာ ဗုဒ္ဓကိစ္စတို့ကို ပြုလုပ်ပြီး အဖော်မမှီး ကိုယ်တော်တစ်ပါးတည်း အာဠဝီပြည်သို့ ကြွတော်မူပါသည်။

ထို့နောက် အာဠဝီမြို့တော် မနီးမဝေး၌ရှိသော ညောင်ပင်ကြီးအနီးရှိ လူသာမန်တို့ မမြင်နိုင်သည့် အာဠာဝကဘီလူးကြီး၏ ဗိမာန်ရှိရာသို့ ကြွသွားတော်မူပြီး ဗိမာန်တံခါးဝ၌ ရပ်တည်တော်မူပါသည်။

ထိုအချိန်ကား အာဠာဝက ဘီလူးစစ်သေနာပတိကြီး ဟိမဝန္တာတောင် ဘီလူးများ အစည်းအဝေးကြီးသို့ သွားရောက်နေခိုက်ဖြစ်၍ ဗိမာန်တံခါးစောင့်ဖြစ်သော ဘီလူးကြီး ဂဒြဘသာ ရှိသည်။

ဂဒြဘသည် မြတ်စွာဘုရားထံတော်သို့ သွားရောက် ရှိခိုးပြီး နှုတ်ဆက်စကား ပြောကြားသည်။

ဘုရားရှင်က ဗိမာန်တွင် တစ်ညမျှ နေလိုသည့်အကြောင်း ပြောကြားသည့်အခါ ဘီလူးကြီး ဂဒြဘက သူ့ဆရာ အာဠာဝကဘီလူးကြီး၏ ခက်ထန်ကြမ်းတမ်းပုံ၊ ရက်စက်ကြမ်းကြုတ်ပုံနှင့် တန်ခိုးကြီးပုံတို့ကို လျှောက်ထားပြီး ဗိမာန်၌ မနေရန် တောင်းပန်၏။

တောင်းပန်၍ မရသည့် အဆုံး၌ 'ဤဗိမာန်၌ နေသင့်၊ မသင့် စဉ်းစားတော်မူပါ။ သူမသိဘဲ အကျွန်ုပ်က နေခွင့်ပြုလျှင် အကျွန်ုပ်ကို သတ်ပါလိမ့်မည်။ အကျွန်ုပ် သူ့ထံသွား၍ အကြောင်းကြားပါဦးမည်' ဟု ပြောကြား ရှိခိုးပြီး ထွက်ခွာခဲ့လေသည်။

ထိုအခါ အာဠာဝက ဗိမာန်တံခါးမှာ အလိုလိုပွင့်လာရာ မြတ်စွာ

ဗုဒ္ဓသည် ဗိမာန်တွင်းသို့ ဝင်တော်မူပြီး အာဠာဝကဘီလူး နတ်စည်းစိမ် ခံစားရာ ရတနာပလ္လင်၌ သီတင်းသုံးကာ ရွှေရောင်အဆင်း ဝါဝင်းသော ပီတရောင်ခြည်တော်ကို လွှတ်တော်မူ၏။

ထိုရောင်ခြည်တော်ကို ဖူးမြော်ကြရ၍ အာဠာဝကဘီလူး၏ မောင်းမမိဿံ အခြွေအရံ ဘီလူးမများသည် စုရုံးရောက်ရှိလာကြကာ ဘုရားရှင်ကို ရှိခိုးပြီး ဝိုင်းရံထိုင်နေကြသတဲ့။

ဘုရားရှင်က -

"သင်တို့ဟာ ရှေးဘဝက ဒါန၊ သီလမှုတွေကို ပြုခဲ့ကြပြီးနောက် ပူဇော်ထိုက်သူကို ပူဇော်ခဲ့ကြလို့ အခုလို နတ်စည်းစိမ် ရရှိခံစားကြရတာ ဖြစ်တယ်။ အခုလည်း ရှေးကလိုပဲ ကုသိုလ်ကောင်းမှု ပြုကြ။ တစ်ဦးနဲ့ တစ်ဦး မနာလိုမှု၊ ဝန်တိုမှုတွေကို မပြုကြနဲ့"

စသည်ဖြင့် ဟောကြားတော်မူရာ ဘီလူးမများသည် ဝမ်းမြောက် နှမော် သာဓုအကြိမ်ကြိမ်ခေါ်ကာ ဘုရားရှင်ကိုပင် ဝိုင်းဝန်း ခြံရံကြပြီး ထိုင်မြဲ ထိုင်နေကြ၏။

## အာဠာဝကဘီလူး၏ကြုံးဝါးသံ

တံခါးဝစောင့် ဂဒြဘဘီလူးသည် ဟိမဝန္တာသို့သွားကာ မြတ်စွာ ဘုရားသည် အာဠာဝကဘီလူးမင်း၏ ဘုံဗိမာန်ထဲသို့ ကြွရောက်သီတင်း သုံးတော်မူနေကြောင်း သတင်းပို့ လျှောက်ထားပြောကြား၏။

အာဠာဝကဘီလူးက ဘီလူးမာန်တက်ကာ သူ့ဗိမာန်တွင်းသို့ ဘုရားရှင်ဝင်နေသည်ကို ရှက်လှသောကြောင့် ထိုအကြောင်းကို အခြား နတ်ဘီလူးများ မသိသွားစေရန် -

"မင်း တိတ်တိတ်နေစမ်းပါ၊ ပြုလုပ်စရာ ရှိသမျှကို ငါ လုပ်မယ်"

ဟု နှုတ်ပိတ်စကား ပြောကြား၏။

ထိုအချိန်တွင် သာတာဂိရနှင့် ဟေမဝတ နတ်ဘီလူးမင်း သူငယ်ချင်း အရိယာနတ်နှစ်ဦးတို့လည်း အာဠာဝကဗိမာန်၌ ဘုရားရှင်ကို ဖူးမြင်ကြပြီး ဟိမဝန္တာရှိ နတ်ဘီလူးကြီးများ အစည်းအဝေးကို ရောက် လာကြ၏။





အာဠာဝကဘီလူးက ထို သူငယ်ချင်း အရိယာ နတ်မင်းနှစ်ဦးကို မြင်လျှင် -

"ဒီနေရာမှာ ထိုင်တော်မူကြပါ"

ဟု ဖိတ်မန်စကား ပြောကြားကာ နေရာဖယ်ပေး၏။

ထိုအခါ နတ်သူငယ်ချင်းနှစ်ဦးက -

"အို ... အာဠာဝက၊ သင်သည် အရတော်လေစွ၊ သင့်ဗိမာန်မှာ မြတ်စွာဘုရား သီတင်းသုံးတော်မူနေပါတယ်၊ သင် သွားပြီး ဘုရားရှင်ကို ဆည်းကပ်ပါ"

ဟု တိုက်တွန်းစကား ပြောကြားကြ၏။

ထိုစကားကို ကြားလျှင် အာဠာဝက ဘီလူးမှာ မီးထဲသို့ ပစ်ထည့် လိုက်သည့် ဆားခဲပမာ တစ်ဖျစ်ဖျစ်မြည်သည့် အမျက်ဒေါသစိတ်တို့ ဖြစ်လာပြီး -

"ငါ့ဗိမာန်ထဲ ဝင်ရောက် နေထိုင်တဲ့ ဘုရားဆိုတာ ဘယ်လို လူစားမျိုးလဲ" ဟု ဒေါသစိတ်ဖြင့် မေးလိုက်၏။

နတ်ဘီလူးမင်း သူငယ်ချင်း နှစ်ယောက်တို့က -

"အို ... အာဠာဝက၊ သင်သည် ငါတို့ဆရာ မြတ်စွာဘုရားကို မသိဘူးလား။ မြတ်စွာဘုရား မယ်တော့်ဝမ်း၌ ပဋိသန္ဓေနေချိန်၊ ဘုရားဖြစ် တော်မူချိန်၊ ဓမ္မစကြာတရား ဟောကြားတော်မူချိန်တွေမှာ ဖြစ်ပေါ်ခဲ့တဲ့ အံ့ဖွယ်သရဲ ထူးကဲတဲ့ ပုဗ္ဗနိမိတ်ကြီးတွေကို သင် မမြင်ခဲ့ဘူးလား"

ဟု မေးကြ၏။

အာဠာဝကဘီလူးက မြင်ခဲ့သော်ငြားလည်း ဒေါသအလိုသို့ လိုက်ကာ -

"ငါ မမြင်လိုက်ပါ"

ဟု လိမ်ညာပြော၏။

ထိုအခါ နတ်မင်း နှစ်ဦးတို့မှာ မခံချိမခံသာ ဖြစ်ကြကာ -

"အို...အာဠာဝက၊

သင် မြင်သည် ဖြစ်စေ၊ မမြင်သည် ဖြစ်စေ အကြောင်းမထူးပါ။

သင်သည် ငါတို့ဆရာ မြတ်စွာဘုရားကို ဘယ်လို လုပ်နိုင်မလဲ။

သင့်မှာ ငါတို့ဆရာ မြတ်စွာဘုရားနှင့် နှိုင်းယှဉ်ပါလျှင် ခွန်အားကြီးမားနွားလား ဥသဘကြီးနှင့် ယနေ့ ဖွားစ ဆင်ငယ်လေးပမာ၊ ကေသရာဇာခြင်္သေ့မင်းကြီးနှင့် မြေခွေးအိုပမာ၊ ဂဠုန်မင်းနှင့် အတောင်ကျိုးတဲ့ ကျီးငှက်ပမာ ကွာခြားလှပါတယ်၊ သင်သွားပါချေ၊ ငါတို့ဆရာ မြတ်စွာဘုရားကို ပြုချင်သလိုပြုပါ" ဟုပြောဆိုကြ၏။

အာဠာဝကဘီလူးမှာ ထိုစကားကြောင့် အမျက်ခြောင်းခြောင်းထွက်ကာ ဆေးဒန်းမြင်းသီလာ ကျောက်ဖျာအပြင်ပေါ်ရပ်လျက် –

"သင်တို့ဆရာ ဘုရားကပဲ တန်ခိုးကြီးသလား၊ ငါကပင် တန်ခိုးကြီးသလား၊ ကြည့်ကြသေးတာပေါ့"

ဟု ကြုံးဝါးပြီး လက်ယာခြေဖြင့် ယူဇနာခြောက်ဆယ်ရှိသော ကေလာသတောင်ထွတ်ကို ဆောင့်နင်းလိုက်၏။

ထိုအခါတွင် မီးပြင်းတိုက်ထားသည့် သံတွေခဲကြီးကို တူနှင့်ရိုက်လိုက်သည့်အခါ သံလျှာမီးပွားများ အလွှားလွှား ကွာကျသကဲ့သို့ ကေလာသတောင်ထွတ်မှ ကျောက်လွှာကျောက်ချပ်တို့ အထပ်ထပ်ကွာ၍ထွက်လေသည်။

အာဠာဝကဘီလူးသည် ကေလာသတောင်ထိပ်ပေါ်၌ရပ်လျက်–

"အာဠာဝကဆိုတာ ငါပဲကွ"

ဟု အသံကျယ်စွာ ကြွေးကြော်ဟစ်အော်လိုက်၏။

ထိုအသံသည် ဇမ္ဗူဒိပ်တစ်ကျွန်းလုံးကို ပျံ့နှံ့သွားကာ ယူဇနာသုံးထောင်ရှိသော ဟိမဝန္တာတောင်ကြီးမှာ ထိုအသံကြောင့် တဖိမ့်ဖိမ့်တုန်လှုပ်သွားသတဲ့။

## မြတ်ဗုဒ္ဓနှင့် အာဠာဝကနတ်စစ်သူကြီး

ထို့နောက် အာဠာဝက နတ်ဘီလူးကြီးသည် ဘုရားရှင်ကို မာရ်နတ်မင်း တိုက်ခိုက်သကဲ့သို့ပင် လေမုန်တိုင်း၊ သည်းထန်သောမိုးကြီး၊ ကျောက်ခဲမိုး၊ လက်နက်မိုး၊ မီးကျီးမီးခဲ၊ ပြာပူမိုး၊ သဲပူမိုး၊ ညွန်ပူမိုး၊ အမိုက်မှောင်ကြီး ဟူသော လက်နက်ကြီး ကိုးမျိုးတို့ဖြင့် တိုက်ခိုက်သော်လည်း ဘုရားရှင်ကို ဗိမာန်မှ ထွက်ခွာခြင်းငှာ မစွမ်းနိုင်ပါချေ။





ထိုအခါတွင် လက်နက် အမျိုးမျိုး စွဲကိုင်ထားသော ရုပ်အဆင်းအမျိုးမျိုးရှိသည့် ဖုတ်ပြိတ္တာအပေါင်း ပါဝင်သည့် ကြောက်မက်ဖွယ်ရာအင်္ဂါလေးပါးရှိသော စစ်တပ်ကြီးဖြင့် မိမိကိုယ်တိုင် ကွပ်ကဲဦးစီးကာ ဘုရားရှင်ရှိရာသို့ ချီတက်တိုက်ခိုက်ပြန်၏။

ယင်းကဲ့သို့ ညဉ့်ဦးမှ သန်းခေါင်ချိန်အထိ တိုက်ခိုက်ကြပါသော်လည်း အာဠာဝက၏ စစ်တပ်ကြီးသည် အလွန်ပူသည့် သံတွေခဲသို့ ယင်ကောင် မကပ်ဝံ့သည့်ပမာ မြတ်စွာဘုရား အနီးသို့ မကပ်ဝံ့ဘဲ ရှိကြ၏။

ထိုအခါ အာဠာဝကဘီလူးသည် မိမိ၏ အထက်မြက်ဆုံးသော လက်နက်ကို ထုတ်သုံးမှ တော်မည်ဟု ကြံစည်ပြီး အလွန်တန်ခိုးအာနုဘော်ကြီးမားလှသည့် အပေါ်ရုံ စုလျားတဘက် ဘွဲ့ဖြူနတ်ပုဆိုး လက်နက်ကို ချွတ်ကာ ပစ်လွှတ်ရန် ရပ်နေ၏။

ထိုအချိန်တွင် စကြဝဠာတစ်သောင်း တိုက်အပေါင်းမှ နတ်အပေါင်းတို့သည် အာဠာဝက ဘီလူးကြမ်းကြီးကို ဘုရားရှင် ဆုံးမတော်မူပွဲသို့ တရားနာရန်နှင့် စစ်တိုက်ပွဲကို ကြည့်ရှုရန်အတွက် စည်းဝေးရောက်လာကြရာ ကောင်းကင်တစ်ခုလုံး နတ်တို့ဖြင့် ပြည့်ကျပ်လျက် ရှိနေပေတော့၏။

မကြာမီမှာပင် အာဠာဝကဘီလူးသည် ဘွဲ့ဖြူပုဆိုးလက်နက်ကို ဘုရားရှင်ရှိရာသို့ ပစ်လွှတ်လိုက်ရာ ထိုပုဆိုးလက်နက်သည် ကြောက်မက်ဖွယ်အသံကြီးပြုလျက် အခိုးခြောင်းခြောင်းထွက်ပြီး အလျှံတပြောင်ပြောင်တောက်လောင်ကာ ဘုရားရှင်အနီးသို့ ရောက်ရှိသည့်အခါ ခြေသုတ်ပုဆိုးဖြစ်၍ ဘုရားရှင်၏ ခြေတော်ရင်းသို့ ကျရောက်သွား၏။

အာဠာဝကမှာ ထိုအခြင်းအရာကို မြင်ရသည့်အခါ ခြေသုတ်ပုဆိုးမြွေစွယ်ကျိုးလား ချိုကျိုးနွားပမာ မာနတံခွန်ပြုတ်ကျကာ –

"ဒီဘွဲ့ဖြူလက်နက်ဟာ ရဟန်း ဂေါတမကို မနှိပ်စက်နိုင်တာ ရဟန်း ဂေါတမဟာ မေတ္တာဗြဟ္မဝိဟာရနဲ့ နေလို့ ဖြစ်လိမ့်မယ်။ အခုဒေါသထွက်ပြီး မေတ္တာဗြဟ္မဝိဟာရ ပျက်အောင်လုပ်မည်"

ဟု စဉ်းစား၏။

ထို့နောက် ဘုရားရှင် ကြားလောက်ရာအရပ်သို့ ချဉ်းကပ်ပြီး–

"အရှင် ဂေါတမ၊ ငါ၏ ဗိမာန်မှ အခုပင်ထွက်ပါ၊ ဘာကြောင့် ငါ့ခွင့်မပြုဘဲ ငါ့ဗိမာန်ထဲသို့ဝင်ကာ အိမ်ရှင်သဖွယ် မောင်းမမိဿံတို့ အလယ်မှာ နေထိုင်ပါသလဲ။ ပိုင်ရှင်မပေးဘဲ ငါ့ဗိမာန်ကို အသုံးပြုတာလည်း မအပ်၊ မိန်းမတွေနဲ့ ရောယှက်နေတာလည်း မအပ်၊ တကယ်လို့များ ရဟန်းကောင်း၊ ရဟန်းစစ်ဖြစ်ရင် အခုပဲ ငါ့ဗိမာန်မှ ထွက်သွားပါ"

ဟု ဆိုလိုက်၏။

ဘုရားရှင်က ကြမ်းတမ်း ဆိုးသွမ်းသူကို နူးညံ့ သိမ်မွေ့သည့် အပြုအမူမျိုးဖြင့် ဆုံးမလျှင် ရနိုင်သည်ဆိုသည့် သဘောတရားကို သိမြင်ထားပြီးဖြစ်၍ –

"ဒကာ အာဠဝကဘီလူး၊ ကောင်းပါပြီ"

ဟု မိန့်ဆိုကာ ဗိမာန်အပြင်ဘက်သို့ ထွက်ကြွတော်မူ၏။

အာဠဝကက –

'အခုလို ထွက်တာဟာ စိတ်ဆိုးလို့ ထွက်သလား၊ အပြောရ အဆိုရ လွယ်ကူသူဖြစ်လို့ ထွက်သလား'

ဟု စုံစမ်းရန် –

"အို...ရဟန်းဂေါတမ၊ ပြန်ဝင်လိုက်ဦး"

ဟု ပြောရာ ရှင်တော်ဗုဒ္ဓသည် အာဠဝက ပြောသည့်အတိုင်း–

"ဒကာ အာဠဝက ကောင်းပါပြီ"

ဟု မိန့်ဆိုကာ ဗိမာန်တွင်းသို့ ပြန်ဝင်တော်မူ၏။

အာဠဝကဘီလူးသည် ဤနည်းအတိုင်း "ထွက်လိုက်ဦး၊ ဝင်လိုက်ဦး" ဟု သုံးကြိမ်တိုင်တိုင် ပြောဆိုပြီး စုံစမ်း၏။

မဟာကရုဏာ ဉာဏ်တော်ရှင် ဘုရားသခင်သည်လည်း ငိုကြွေးမြည်တမ်း ဆိုးသွမ်းနေသည့် သားဆိုးကလေးကို သူ့အလိုရှိရာပေး၍ဖြစ်စေ၊ သူ့အကြိုက် လိုက်နာပြုလုပ်၍ ဖြစ်စေ လိမ္မာအောင် စောင့်ရှောက် ချီးမြှောက်သည့် မိခင်ကြီးပမာ လောကသုံးပါး၏ မိခင်ကြီးနှင့်တူစွာ ဒေါသ ကိလေသာတည်း ဟူသော ငိုကြွေးခြင်းဖြင့် ငိုကြွေးမြည်တမ်းနေသည့် အာဠဝကဘီလူး သားဆိုးသားကြမ်းကလေးကို လိမ္မာအောင် စောင့်ရှောက် ချီးမြှောက်တော်မူလိုပေသည်။





တစ်နည်းအားဖြင့် နို့မစို့ချင်သည့် ကလေးဆိုးကြီးကို တစ်စုံတစ်ခုပေးကာ ချော့မော့ပြီး နို့ချိုတိုက်ကျွေးတတ်သည့် အထိန်းတော်ကြီးပမာ လောကသုံးပါး၏ အထိန်းတော်ကြီး ဖြစ်တော်မူသော မြတ်စွာဘုရားသည် အာဠဝက ကလေးဆိုးကြီးကို လောကုတ္တရာတရားတော် ဟူသော နို့ချိုအေးကို တိုက်ကျွေးတော်မူလိုပေသည်။

ထို့ပြင် ဖန်ဘူးထဲသို့ စတုမဓု အပြည့်ထည့်လိုသည့်အခါတွင် ထို ဖန်ဘူးအတွင်းကို စင်ကြယ်စွာ ဆေးကြောသည့်ယောကျ်ားပမာ မြတ်စွာဘုရားသည် ဘီလူး၏စိတ် ဟူသော ဖန်ဘူးထဲသို့ လောကုတ္တရာ စတုမဓုကိုထည့်လိုသဖြင့် ရှေးဦးစွာ ဘီလူး၏စိတ်ဟူသော ဖန်ဘူးအတွင်း၌ရှိသော အမျက်ကောဓဆိုသည့် အညစ်အကြေးကို ဆေးကြော သုတ်သင်တော်မူလိုပေသည်။

ထို့ကြောင့် ဘီလူးပြောဆိုသည့်အတိုင်း လိုက်နာပြုကျင့်တော်မူခြင်းဖြစ်သည်။ ကြောက်၍ လိုက်နာပြုကျင့်ခြင်း မဟုတ်ချေ။

ထိုအခါ အာဠဝကဘီလူးသည် –

"ဒီရဟန်းကြီးဟာ တကယ်ပင် ပြောဆိုလို့ လွယ်ကူသူဖြစ်တယ်၊ ဒီလို တစ်ညလုံး ရဟန်းကြီးကို ထွက်ခိုင်း၊ ဝင်ခိုင်းပြီး ပင်ပန်းနွမ်းနယ်အောင်လုပ်ပြီးမှ ခြေတွေကိုဆွဲကိုင်ကာ ဂင်္ဂါမြစ်တစ်ဖက်ကမ်းသို့ ပစ်လွှင့်ရင် ကောင်းမယ်"

ဟု ယုတ်မာစွာ ကြံစည်ပြီး လေးကြိမ်မြောက် –

"အို...ရဟန်းကြီး ထွက်လိုက်ဦး" ဟု ပြောဆိုပြန်လေသည်။

ဤအခါတွင် မြတ်စွာဘုရားသည် ဘီလူး၏ ယုတ်မာသည့်စိတ်အကြံကို သိတော်မူ၍ –

"ဒကာ ဘီလူးမင်း၊ သင် မကောင်းကြံတဲ့အတွက် ငါဘုရားဟာ ဗိမာန်မှ မထွက်တော့ပြီ၊ သင်လုပ်လိုရာ လုပ်ပေတော့"

ဟု မိန့်တော်မူလိုက်သတဲ့။

အာဠဝကဘီလူးသည် ရှေးအဘိညာဉ်ရ တန်ခိုးရှင် ရသေ့ပရိဗိုဇ်တို့အား ပြဿနာမေးပြီး ညှဉ်းပန်းနှိပ်စက်ခဲ့ဖူးပုံတို့ကို သတိရ၍ ဘုရားရှင်ကိုလည်း ပြဿနာမေးပြီး ညှဉ်းပန်းနှိပ်စက်ရန် –

"အို ... ရဟန်းကြီး ဂေါတမ၊ ဒီလိုဆိုရင် သင့်ကို ငါ ပြဿနာ မေးမယ်၊ သင် ငါမေးတဲ့ ပြဿနာကို မဖြေနိုင်ခဲ့ရင် သင့်စိတ်ကိုသော်လည်း ဖောက်ခွဲပစ်မယ်၊ ခြေနှစ်ချောင်းကိုကိုင်ပြီး မြစ်တစ်ဖက်ကမ်းသို့သော်လည်း ပစ်လွှင့်လိုက်မယ်"

ဟု ရိုင်းပျစွာ ပြောဆို၏။

သို့သော်လည်း ဘုရားရှင်က -

"ဒကာဘီလူး၊ နတ်လောက၊ ဗြဟ္မာလောက၊ လူ့လောကဆိုတဲ့ လောက အားလုံးမှာ ငါဘုရားရဲ့စိတ်ကို ပျံ့လွင့်ရူးသွပ်အောင် လုပ်နိုင်သူ၊ ငါ့ရဲ့ နှလုံးသားကို ဖောက်ခွဲပစ်နိုင်သူ၊ ငါ့ရဲ့ခြေကိုကိုင်ပြီး မြစ်တစ်ဖက်ကို ပစ်လွှင့်နိုင်သူ ဘယ်သူကိုမှ ငါဘုရား မမြင်။ ဒကာဘီလူး၊ ဒါပေမယ့် သင်မေးလိုတဲ့ ပြဿနာကိုသာ မေးပါ၊ ငါ အားလုံး ဖြေကြားပါ့မယ်"

ဟု ဘုရားရှင်တို့၏ ဖိတ်ကြားခြင်းဖြင့် ရဲရဲတောက် ဖိတ်ကြားလိုက်ပေသည်။

## အာဠာဝကအမေးနှင့် မြတ်ဗုဒ္ဓအဖြေ

အာဠာဝက နတ်ဘီလူးကြီးသည် ဗုဒ္ဓ မြတ်စွာဘုရားရှင်တို့၏ ဖိတ်ကြားခြင်း (သဗ္ဗညုတ ပဝါရဏာ) ဖြင့် မေးလိုသမျှမေးရန် ရဲရဲတောက် ဖိတ်ကြားလိုက်သည့်အခါ -

အို-ရဟန်းကြီး ဂေါတမ-

(၁) လောကတွင် မိန်းမ၊ ယောကျ်ား လူသားများ၏ အမြတ်ဆုံး ဥစ္စာကား အဘယ်တရား ဖြစ်ပါသနည်း။

(၂) နေ့ရှည်ရက်ဆက် ကောင်းစွာ လေ့ကျက်ပွားများလျှင် လူ၊နတ်၊နိဗ္ဗာန် သုံးတန်သော ချမ်းသာသို့ ပို့ဆောင်နိုင်သည့် တရားကား အဘယ်အရာပါနည်း။

(၃) အရသာအပေါင်းတို့တွင် အဘယ်အရသာသည် အချိုမြိန်ဆုံး ဖြစ်ပါသနည်း။

(၄) အဘယ်အရာဖြင့် အသက်ရှင်ခြင်းသည် အမြတ်ဆုံး ဖြစ်ပါသနည်း။





ဟု **ကိံသူဓဝိတ္တံ ပုရိသဿ သေဋ္ဌံ** အစရှိသော ဂါထာဖြင့် ပုစ္ဆာလေးချက် ပြဿနာလေးရပ်ကို မေးမြန်းလိုက်သည်။

အာဠာဝက နတ်ဘီလူးကြီးသည် ယခုမေးသည့် ပုစ္ဆာလေးရပ်နှင့် နောက်ထပ်မေးမည့် ပုစ္ဆာလေးရပ် ပေါင်း အမေးပုစ္ဆာပြဿနာရှစ်ရပ်တို့မှာ အာဠာဝက၏ မိဘနှစ်ပါး နတ်ဘီလူးများက အာဠာဝကငယ်စဉ်ကပင် အဖြေနှင့်တကွ သင်ကြား ပြသပေးထားသည့် ပြဿနာများပင် ဖြစ်ပါသည်။

အာဠာဝက၏ မိခင်၊ ဖခင် နတ်ဘီလူးတို့သည် ကဿပဘုရားရှင်ကို ဆည်းကပ်ကြ၍ ပြဿနာရှစ်ရပ်တို့ကို အဖြေနှင့်တကွ နာယူမှတ်သားထားကြပေသည်။ အချိန်ကာလတို့ ကြာညောင်းခဲ့ပြီဖြစ်၍ အာဠာဝက နတ်ဘီလူးသည် ပြဿနာရှစ်ရပ်အဖြေများကို မေ့သွားခဲ့သည်။

ထို့ကြောင့် အာဠာဝကသည် 'ဒီအမေးပုစ္ဆာ ပြဿနာတွေလည်း ကြာရင် ပျောက်ကုန်ကြမယ်၊ ပျောက်လို့ မတော်ဘူး' ဟု စဉ်းစားပြီး ပြဿနာများကို ရွှေပြားတွင် ဟင်္သပြဒါးစစ်ဖြင့် ရေးသားစေကာ ဗိမာန်ဦး၌ ထားရှိသည်။

ဤသို့ ယခု အာဠာဝကဘီလူးမေးသည့် ပြဿနာတို့မှာ ကဿပဘုရားရှင် သင်ကြားထားသည့် ပြဿနာများဖြစ်၍ သာမန်ပုဂ္ဂိုလ် မဖြေနိုင်၊ ဘုရားရှင်များသာ ဖြေနိုင်သည့် ဗုဒ္ဓဝိသယပြဿနာများ ဖြစ်ကြသည်။

အာဠာဝကဘီလူးကြီး ပြဿနာလေးရပ်ကို မေးပြီးသည်နှင့် တစ်ပြိုင်နက် ရှင်တော်ဗုဒ္ဓသည် ကဿပ မြတ်စွာဘုရား ဖြေကြားခဲ့သည့် နည်းအတိုင်းပင် သဒ္ဓီဓဝိတ္တံ ပုရိသဿ သေဋ္ဌံ အစရှိသော ဂါထာဖြင့် ဖြေကြားတော်မူပါသည်။

အဓိပ္ပာယ်မှာ -

အို - အာဠာဝက နတ်ဘီလူး -

(၁) ဤလောကတွင် မိန်းမ၊ ယောကျ်ား လူသားများ၏ အမြတ်ဆုံး ဥစ္စာကား ရတနာသုံးတန်၊ ကံ၊ ကံ၏ အကျိုးတို့ကို မြတ်နိုးကျေနပ် ယုံကြည်တတ်သော လောကီ၊ လောကုတ္တရာ နှစ်ဖြာ သဒ္ဓါတရားပင်တည်း။

(၂) နေ့ရှည်ရက်ဆက် ကောင်းစွာလေ့ကျက်ပွားများလျှင် လှူ,နတ်,နိဗ္ဗာန် သုံးတန်သော ချမ်းသာသို့ ပို့နိုင်သည့် တရားမှာ ကုသိုလ်ကမ္မပထတရား ဆယ်ပါး(ဝါ)ဒါန၊ သီလ၊ ဘာဝနာ သုံးဖြာအပြား ကောင်းမှုတရားတည်း။

(၃) အရသာအပေါင်းတို့တွင် ပရမတ္ထသစ္စာ၊ ဝိရတီသစ္စာ၊ ဝစီသစ္စာ ဤသုံးဖြာသော သစ္စာတရားသည်· အချိုမြိန်ဆုံး အရသာ ဖြစ်ပေသည်။

(၄) သမ္မာပဋိပတ် အကျင့်မြတ်ကို မပြတ်ပွားတွေ ပညာတရားဖြင့် ပြီးစီးစေလျက် အသက်ရှည်ခြင်းသည် အမြတ်ဆုံး ဖြစ်ပေသည်ဟု ဖြေကြားလိုက်သည်။

ဘုရားရှင်၏ အဖြေ ၄ ချက်ကို ကြားနာရသည့်အခါ အာဠာဝက နတ်ဘီလူးသည် သူ့မိဘများ သင်ကြားပေးခဲ့သည့် အဖြေများနှင့် တစ်ထပ်တည်းကျသောကြောင့် ဝမ်းမြောက်ဝမ်းသာဖြစ်ကာ ကျန်နေသေးသည့် ပြဿနာလေးရပ်ကို ဤသို့ ဆက်လက် မေးမြန်းသည်။

အို – ရဟန်းကြီး ဂေါတမ၊

(၁) အဘယ် တရားဖြင့် ဩဃလေးအင် ရေအလျဉ်ကို ကူးခတ် လွန်မြောက်နိုင်ပါသနည်း။

(၂) အဘယ် တရားဖြင့် ဘဝသံသရာ သမုဒ္ဒရာကို ကူးမြောက်နိုင်ပါသနည်း။

(၃) အဘယ် တရားဖြင့် ဆင်းရဲဒုက္ခကို လွန်မြောက်နိုင်ပါသနည်း။

(၄) အဘယ် တရားဖြင့် ကိလေသာအညစ်အကြေးမှ ကင်းဝေး စင်ကြယ်နိုင်ပါသနည်း။

ဟူ၍ ဆက်လက် မေးမြန်းသည်။

ထိုအခါ ဘုရားရှင်က –

အို–အာဠာဝက နတ်ဘီလူး၊

(၁) သဒ္ဓါတရားဖြင့် ဩဃလေးအင် ရေအလျဉ်ကို ကူးခတ် လွန်မြောက်နိုင်ပေသည်။





(၂) ကုသိုလ်တရား လွန်တိုးပွားဖို့ မနားမရပ် မပြတ်မွေ့မွေ့ မမေ့မလျော့သော အပ္ပမာဒ တရားဖြင့် ဘဝသံသရာကို ကူးမြောက်နိုင်ပေသည်။

(၃) လွန်စွာကြိုးစား ဝီရိယတရားဖြင့် ဆင်းရဲဒုက္ခ လွန်မြောက်နိုင်ပေသည်။

(၄) ဝိပဿနာ ပညာတရား၊ အရဟတ္တမဂ် ပညာတရားတို့ဖြင့် ကိလေသာအညစ်အကြေးမှ ကင်းဝေးစင်ကြယ်နိုင်ပေသည် –

ဟု **သဒ္ဓါယ တရတိ ဩဃံ** အစချီသော ဂါထာဖြင့် ထပ်ကာ ဖြေကြားတော်မူပါသည်။

ဟောတော်မူလိုရင်း အဓိပ္ပာယ်မှာ –

ဩဃလေးပါးကို ကူးမြောက်သောသူသည် ဘဝသံသရာ သမုဒ္ဒရာကိုလည်း ကူးမြောက်နိုင်၊ ဝဋ်ဆင်းရဲ ဒုက္ခကိုလည်း လွန်မြောက်နိုင်၊ ကိလေသာအညစ်အကြေးမှလည်း ကင်းဝေး စင်ကြယ်နိုင်ပါသည်။

(၁) သို့သော် သဒ္ဓါတရား မရှိသောသူသည် ဩဃလေးပါးကို ကူးမြောက်ကြောင်း အကျင့်ကောင်း၌ သက်ဝင် ယုံကြည်မှု ကင်းမဲ့သောကြောင့် ဩဃလေးပါးကို မကူးမြောက်နိုင်။

(၂) အာရုံငါးပါး ကာမဂုဏ်တရားတို့၌ စိတ်ကိုလွှတ်ထားသောအားဖြင့် ကုသိုလ်တရားတို့၌ မေ့လျော့နေသောသူသည် ထိုအာရုံငါးပါး ကာမဂုဏ်တရား၌ပင် ငြိကပ် တွယ်တာနေသောကြောင့် ဘဝသံသရာ သမုဒ္ဒရာကို မကူးမြောက်နိုင်။

(၃) လုံ့လမရှိ ပျင်းရိသောသူသည် အကုသိုလ်တရားတို့နှင့်သာ ရောပြွမ်းယှက်ထွေးကာ ဆင်းရဲစွာ နေရ၏။

(၄) ပညာမရှိသောသူသည် ကိလေသာမှ စင်ကြယ်ကြောင်း အကျင့် ပဋိပတ်လမ်းကောင်းကို မသိရကား ကိလေသာ အညစ်အကြေးမှ မကင်းဝေး မစင်ကြယ်ချေ။

ထို့ကြောင့် အယုံအကြည်ကင်းမဲ့မှု အသဒ္ဓိယတရား၏ ဆန့်ကျင်ဘက်ဖြစ်သော သဒ္ဓါတရား၊ ပမာဒတရား၏ ဆန့်ကျင်ဘက်ဖြစ်သော

အပ္ပမာဒတရား၊ ကောသဇ္ဇ (ပျင်းရိခြင်း) တရား၏ ဆန့်ကျင်ဘက်ဖြစ်သော ဝီရိယတရား၊ မောဟ၏ ဆန့်ကျင်ဘက်ဖြစ်သော ပညာတရားများကို ထုတ်ဖော် ဖြေကြားတော်မူခြင်း ဖြစ်သည်ဟု ဆိုလိုပေသည်။

ဤသို့ အရဟတ္တဖိုလ် အထွတ်တပ်ကာ ဟောကြားတော်မူသည့် အဖြေဂါထာအဆုံး၌ အာဠဝက နတ်ဖိုလ်မှူးကြီးသည် သောတာပတ္တိဖိုလ် တရားထူးကိုရ၍ သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်သွားသည်။

သောတာပန်ဖြစ်သည်နှင့် တစ်ပြိုင်နက် 'ပညာယ ပရိသုဇ္ဈတိ' (ပညာတရားဖြင့် ကိလေသာအညစ်အကြေးမှ ကင်းဝေးစင်ကြယ်နိုင်၏) ဟူသော ဘုရားရှင်၏ ဖြေဆိုချက်အတိုင်း သောတာပန်အရိယာဖြစ်ပြီး မိမိ၌ ထင်လာသည့် ဉာဏ်အမြင် အားလျော်စွာ **ကထံသု လဘတေ ပညာ** အစရှိသော ဂါထာဖြင့် -

(၁) ပညာကို ရကြောင်းတရား။
(၂) ဥစ္စာကို ရကြောင်းတရား။
(၃) ကျေးဇူးသတင်း ကျော်စောခြင်းသို့ ရောက်ကြောင်း တရား။
(၄) အဆွေခင်ပွန်းနှင့် ပြည့်စုံနိုင်ကြောင်းတရား။
(၅) ဤဘဝမှ စုတေ၍ တမလွန်ဘဝသို့ ရောက်လျှင် မစိုးရိမ် မပူပန်ရသောတရား

ဟူသော တရား ၅ မျိုးတို့ကို ဆက်လက်မေးမြန်းသည်။

ဗုဒ္ဓ ရှင်တော်မြတ်ဘုရားသည် (၁) ပညာကို ရနိုင်သည့် အကြောင်းတရား လေးပါးတို့ကို **သဒ္ဒဟာ နော အရဟံ၊ ဓမ္မံနိဗ္ဗာန ပတ္တိ** စသော ဂါထာဖြင့် ဖြေကြားတော်မူပါသည်။

ထိုအကြောင်းတရား လေးပါးမှာ -

(၁) နိဗ္ဗာန်ရောက်ကြောင်း သုစရိုက် ၁၀ ပါး၊ ဗောဓိပက္ခိယ တရား ၃၇ ပါး ဟူသော ကျင့်စဉ်တရားတို့ အပေါ်မှာ ယုံကြည်သည့် သဒ္ဓါတရား၊
(၂) ယုံကြည်သည့်အတိုင်း ထိုကျင့်စဉ်တရားများကို ရိုသေစွာ နာခံမှတ်သားခြင်း သုဿုသာတရား၊
(၃) ရိုသေစွာ နာခံမှတ်သားပြီးနောက် ထိုတရားများကို မမေ့





မပျောက်သွားအောင် ဆောင်ယူထားခြင်း အပ္ပမာဒတရား၊
(၄) ဆင်ခြင်တုံတရားဖြင့် ဆောင်ထားသည့် တရားတို့၏ လေးနက်သော အနက်အဓိပ္ပာယ်ကို ဆင်ခြင်စဉ်းစားခြင်း ဝိစက္ခဏာတရားတို့ ဖြစ်သည်။

ဤတရားလေးပါးရှိသောသူသည်သာ လောကီ၊ လောကုတ္တရာ ပညာနှစ်ပါးကို ရနိုင်သည်ဟု ဟောတော်မူရင်း ဖြစ်ပါသည်။

ထို့နောက် ဥစ္စာရကြောင်း စသည့် တရားတို့ကို 'ပတိရူပ ကာရီဓုရဝါ' စသော ဂါထာဖြင့် ဆက်လက် ဖြေကြားတော်မူပါသည်။

အဓိပ္ပာယ်မှာ ဥစ္စာရကြောင်း ဥပါယ်ကောင်းကို ဒေသကာလ စသည့် အလိုက်အထိုက် ပြုလုပ်ခြင်း၊ စိတ်အားတက်ကြွခြင်း၊ ကိုယ်ဖြင့် ထကြွ လုံ့လဝီရိယပြုခြင်း ဟူသော အကြောင်းတရား သုံးပါးကြောင့် လောကီ, လောကုတ္တရာ နှစ်ဖြာသောဥစ္စာကို ရနိုင်သည်။

စဝီသစ္စာ မင်္ဂလာစကားကြောင့် -

'ဤသူကား အဟုတ်အမှန်ကိုသာ ပြောလေ့ရှိသူ' ဟူ၍ ကျော်စော ခြင်းသို့ ရောက်နိုင်သကဲ့သို့ ပရမတ္ထသစ္စာ နိဗ္ဗာန်တရားကြောင့် -

'ဤသူကား ဘုရား၊ ဤသူကား ပစ္စေကဗုဒ္ဓါ၊ ဤသူကား အရိယာ သာဝက' ဟု ကျော်စောခြင်းသို့ ရောက်နိုင်၏။

သူလိုသည်ကို ဝန်မတိုဘဲ ကြည်ညိုရွှင်လန်း ပေးကမ်း လှူဒါန်း သူသည် မိတ်ဆွေများကို ရနိုင်ပေသည်ဟု ဟောတော်မူပါသည်။

ထိုမှဆက်၍ ယဿေ တေ စတုရောဓမ္မာ စသော ဂါထာဖြင့် နောင်တမလွန်ဘဝတွင် မပူပန် မစိုးရိမ်ရကြောင်း တရားလေးပါးတို့ကို ဖြေကြားတော်မူပါသည်။

ထိုတရားလေးပါးမှာ -

(၁) မှန်ကန်စွာ ပြောဆိုမှု ဝစီသစ္စာတရား၊
(၂) အသိအလိမ္မာ ဉာဏ်ပညာတရား၊
(၃) ဝီရိယတရား၊
(၄) စွန့်ကြဲပေးကမ်း လှူဒါန်းခြင်း စာဂတရား တို့ ဖြစ်ပါသည်။

ယင်းသို့ ပဥ္စမပြဿနာကို ဖြေကြားပြီးသည့်အခါ ဘုရားရှင်က–

"တမလွန်လောကဍ္ဍ မပူပန်ရ၊ ချမ်းသာရကြောင်းဖြစ်တဲ့ ဒီတရား လေးပါးထက် သာလွန်တဲ့တရားတွေ ရှိနေသေးတယ်ဟု သင် ထင်ရင် ငါဘုရားမှတစ်ပါး အခြားသော သမဏ၊ ဗြဟ္မဏတို့ထံ ဆည်းကပ်ပြီး မေးမြန်းစုံစမ်းလေဦး"

ဟု တိုက်တွန်းပြောကြားရာ အာဠာဝက နတ်ဗိုလ်မှူးကြီးက–

"ဒီတရားလေးပါးထက် သာလွန်ကောင်းမြတ်တဲ့ တမလွန်ဘဝ ချမ်းသာကြောင်းတရား မရှိတာကို ကိုယ်တိုင်သိပြီးဖြစ်လို့ အခြား သမဏ၊ ဗြဟ္မဏ ပုဂ္ဂိုလ်တွေထံ မေးမြန်းဖို့ မလိုတော့ပါ ဘုရား။ ဘုရားရှင်ဟာ တပည့်တော်ရဲ့ လောကီ၊ လောကုတ္တရာ အကျိုးစီးပွားအတွက် အာဠဝီပြည် သို့ ကြွလာတော်မူပါပေတယ်။ ဘုရားရှင်၌ သဒ္ဓါဖွေးဖြူ ပေးလှူတဲ့ အလှူ ဒါနဟာ လူ့ရပ်နတ်ထံ နိဗ္ဗာန်တိုင်ထိ အကျိုးကြီးလှကြောင်း တပည့်တော် ကောင်းကောင်းကြီး ပိုင်းခြားထင်ထင် သိမြင်ရပါပြီ ဘုရား။

ရှင်တော်မြတ်ဘုရား၊ တပည့်တော်သည် အခုချိန်မှစပြီး –

'သုံးလူ့ရှင်ပင်၊ တို့ထိပ်တင်သည်၊ သဗ္ဗညုတ၊ ဉာဏဦးကိုင်၊ စိုးမိုးပိုင်သည့်၊ ဘုန်းလှိုင်ဘုရား၊ မှန်လှငြား၏။ မြတ်ဖျားဓိနော်၊ စိတ္တေယျော်သည်၊ ဆယ်ဖော်ဓမ္မ၊ မြတ်ထွတ်လှကို၊ စလယ်အဆုံး၊ သုံးပါးအစုံ၊ ကောင်းခြင်းဂုဏ်နှင့်၊ ပြည့်စုံထင်ရှား၊ ဟောညွှန် ကြားခဲ့၊ ရှစ်ပါးအရိယာ၊ မြတ်သံဃာလည်း၊ သိက္ခာသုံးရပ်၊ ချီးမွမ်းအပ်သည်၊ စေ့စပ်လုံးစုံ၊ ကျင့်ဖုံဖုံကို၊ အာရုံနှစ်လို့၊ အားသစ်မြို့၏'

စသည့် ရတနာသုံးမည်၏ ဂုဏ်ရည်အသီးသီးကို တချီးမွမ်းမွမ်း မြွက်ဆိုညွှန်း၍ ဦးစွန်းထိပ်ပြင် ဆယ်လက်စုံ တင်ပြီးလျှင် ကြည်ရွှင်မြတ်နိုး ရှိခိုးပူဇော် နိဗ္ဗာန်ဆော်တစ်ဦးဖြစ်လျက် နတ်ရွာတစ်ရွာမှ နတ်ရွာတစ်ရွာသို့၊ နတ်ပြည်တစ်ပြည်မှ နတ်ပြည်တစ်ပြည်သို့ လှည့်လည်ကျက်စား သွားလာ ကြွေးကြော်ပါတော့အံ့ ဘုရား"

ဟု **သော အဟံ ဝိစရိဿာမိ၊ ဂါမာ ဂါမံ ပုရာပုရံ** စသော ဂါထာဖြင့် ရှိသေစွာ လျှောက်ထားပေသည်။





ဤသို့ အာဠာဝက နတ်စစ်သူကြီး နောက်ဆုံးလျှောက်ထားသည့် ဂါထာ ပြီးဆုံးချိန်တွင် နတ်ပရိသတ်များ၏ ကောင်းချီးကြွေးကြော် သာခု ခေါ်သံသည် ဆူညံစွာ ဖြစ်ပေါ်လာ၏။

ညဥ့်မှောင်ကင်းရှင်း မိုးလည်း စင်စင်လင်းခဲ့ပေပြီ။

ဘုရင့်နန်းတော်မှ အာဠာဝက မင်းသားကလေးနှင့် ထမင်းအုပ် အပို့လာသူများလည်း ညောင်ပင်ကြီး၏အနီးသို့ ရောက်နေကြပြီ ဖြစ်၏။

ဘီလူးစာ လာပို့သည့် မင်းချင်း ယောကျ်ားတို့သည် သာခုခေါ် သံကို ကြားရသောအခါ ဗိမာန်တွင်းသို့ လှမ်းမျှော်ကြည့်လိုက်ကြသည်။

ဗိမာန်တွင်းဝယ် သုံးလောကထွတ်တင် သဗ္ဗညုတ ဘုရားရှင်ကို အာဠာဝက ဘီလူးက လက်အုပ်ချီမိုး ရှိခိုးနေသည်ကို တွေ့မြင်ကြရသည်။

ထို့ကြောင့် ဗိမာန်တွင်းသို့ ရဲရဲဝံ့ဝံ့ဝင်ကြကာ –

"အို–ဘီလူးကြီး အာဠာဝက၊ သင့်အတွက် ဗလိနတ်စာ ပူဇော်ရန် ဤကလေးကို လာပို့ပါသည်။ အလိုရှိသလို သုံးဆောင်စားသောက်ပါ"

ဟု ပြောကာ မင်းသားကလေးကို ဘီလူးလက်သို့ အပ်နှံကြ၏။

သောတာပန်ဖြစ်နေပြီဖြစ်သော အာဠာဝကဘီလူးသည် ထိုစကား ကို ကြားရသောအခါ လွန်စွာ ရှက်၏။ အထူးသဖြင့် ဘုရားရှင်၏ ရှေ့တော် မှောက်မှာ ဖြစ်သောကြောင့် ပို၍ ရှက်၏။

ထို့နောက် မင်းသားကလေးကို လက်နှစ်ဖက်ဖြင့် ပွေ့ဖက် ချီယူပြီး –

"တပည့်တော်အတွက် ပို့ဆောင်လာသော ဤကလေးကို တပည့် တော် အရှင်ဘုရားအား လှူဒါန်းပါ၏။ ဤကလေးအတွက် စီးပွားချမ်းသာ တိုးတက်ရန် လက်ခံတော်မူပါ"

ဟု လျှောက်ကာ ဘုရားရှင်အား လှူ၏။

ဗုဒ္ဓဘုရားရှင်က လက်ခံတော်မူပြီး မင်းချင်း ယောကျ်ားတို့၏ လက်သို့ပင် ပြန်ပေးတော်မူ၏။

"ဤကလေးကို ကြီးပြင်းအောင် မွေးမြူပြီး အချိန်တန် အရွယ် ရောက်သောအခါ ငါဘုရားအား တစ်ဖန်ပြန်ပြီး လှူကြ"

ဟုလည်း မိန့်တော်မူလိုက်၏။

ထိုသို့ တစ်လက်မှ တစ်လက်သို့ အဆင့်ဆင့် ကူးပြောင်းရသော ကြောင့်ပင် ဤမင်းသားကလေးကို ဟတ္ထက- တစ်လက်မှ တစ်လက်သို့ ကူးပြောင်းရောက်ရှိသော၊ အာဠဝက–အာဠဝီပြည့်ရှင် ဘုရင်၏ သားတော် ကလေးဟု ခေါ်လေသည်။

မင်းသားကလေးကို ပြန်ချီယူလာကြသော မင်းချင်းယောကျ်ား တို့၏ ပြောစကားကို ကြားကြရသည့်အခါ အာဠဝီမြို့သူမြို့သားတို့သည် များစွာ သာဓုခေါ်ကြ၏။ ဘုရားရှင်အားလည်း များစွာ ကျေးဇူးတင်ကြ ၏။ ထို့ကြောင့် အာဠဝီပြည့်ရှင် ဘုရင်နှင့်တကွ အာဠဝီမြို့သူမြို့သား အပေါင်းတို့သည် အာဠဝီမြို့၌ပင် ဆွမ်းခံ၍ ဆွမ်းဘုဉ်းပေးတော်မူပြီးနောက် မြို့တံခါးဝရှိ ညောင်ပင်အောက်မှာ သီတင်းသုံးနေတော်မူသည့် ဘုရားရှင် ရှိတော်မူရာသို့ စုရုံးရောက်ရှိလာကြသည်။

“ဤမျှ ကြမ်းကြုတ်လှသည့် ဘီလူးကို အဘယ်နည်းဖြင့် ဆုံးမ ချေချွတ်တော်မူပါသလဲ ဘုရား” ဟု မေးမြန်း လျှောက်ထားကြသည်။

ထိုအခါ ဘုရားရှင်သည် အာဠဝက နတ်ဘီလူးကြီး၏ စစ်ထိုးမှု ကစပြီး ညဉ့်က ဖြစ်ပျက်ခဲ့ပုံ အလုံးစုံသော အကြောင်းတရားများ ပါဝင် သည့် အာဠဝကသုတ္တန် ဒေသနာတော်ကို ပရိသတ်အား ဟောကြားတော် မူပေသည်။ ဒေသနာတော်နိဂုံး ဆုံးတော်မူသည့်အခါ သတ္တဝါအပေါင်း ရှစ်သောင်းလေးထောင်တို့ သစ္စာလေးပါး တရားသိမြင် ကျွတ်တမ်းဝင် ကြသည်။

မင်းနှင့်တကွ ပြည်သူပြည်သားတို့သည် ဝေဿဝဏ်နတ်မင်း၏ ဗိမာန်အနီး၌ အာဠဝက နတ်စစ်သူကြီးအတွက် ဗိမာန်နတ်ကွန်းအသစ် သတ်မှတ်ပြုလုပ်၍ ပန်းနံ့သာ စသည်တို့ဖြင့် ပူဇော်မှု ဒေဝတာဗလိကို အမြဲတစေ ပြုလုပ်ကြကုန်၏။

အာဠဝကမင်းသားလေး အရွယ်ရောက်သည့်အခါ ဘုရားရှင် မိန့်မှာထားသည့်အတိုင်း ဘုရားရှင်ထံသို့ မင်းသားကလေးကို ပို့သကြ ၏။ မင်းသားကလေးသည် ဘုရားအမှူးရှိသည့် သံဃာတော်များအား ဆည်းကပ်ပြုစုရင်း တရားနာ၊ တရားအားထုတ်မှုကို ပြုလေရာ မကြာမီ မှာပင် အနာဂါမ် အရိယာပုဂ္ဂိုလ် ဖြစ်သွား၏။





ပိဋကသုံးပုံ အလုံးစုံကို တတ်မြောက်၍ ဥပါသကာငါးရာ အခြံအရံရှိသူလည်း ဖြစ်ပေသည်။ တစ်ချိန်တွင် ဘုရားရှင်က သူ့အား –

“သင်္ဂဟဝတ္ထုလေးပါးဖြင့် ပရိသတ်ကို သင်္ဂြိုဟ်ထောက်ပံ့ ချီးမြှင့် နိုင်သူတို့တွင် အသာဆုံး၊ အမြတ်ဆုံး၊ အထူးချွန်ဆုံး”

ဟူသော ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးကျူးဂုဏ်ပြုတော်မူခဲ့ပေသည်။

ဤသည်တို့မှာ စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့၏ နတ် စစ်သေနာပတိကြီး ၃၇ ဦးတွင် တစ်ဦးအပါအဝင်ဖြစ်သော မာရ်နတ် မင်းကြီးနီးပါးလောက် အလွန်တရာ တန်ခိုးကြီးမားလှသည့် အာဠဝက နတ်စစ်သူကြီး၏ ကျမ်းဂန်လာ အကြောင်းအရာများ ဖြစ်ပါသည်။

ထို့ပြင် ဗုဒ္ဓရှင်တော်မြတ်ဘုရား၏ အပြင်အောင်ခြင်းရှစ်ပါးတွင် ဤအာဠဝကနတ်ဘီလူးကြီးကို အောင်မြင်တော်မူခြင်းသည် မြတ်စွာဘုရား ၁၅ ဝါအရတွင် လေးကြိမ်မြောက် အောင်မြင်တော်မူသည့် စတုတ္ထအောင်ပွဲ ကြီး ဖြစ်ပေသည်။

## အာဠဝကသုတ္တန်လာ မှတ်သားစရာ အဖြာဖြာ

ဤအာဠဝကသုတ္တန် ဒေသနာ၌ ဘာသာရေးဆိုင်ရာ မှတ်သား စရာအဖြာဖြာ များစွာ ပါရှိသည်ကို တွေ့ရ၏။

အာဠဝက နတ်ဘီလူးကြီး၏ ဘုံဗိမာန်ကြီးမှာ မြေပြင်တွင် တံတိုင်း၊ တံခါး၊ ပြအိုး၊ တံခါးမှန်များဖြင့် တည်ရှိ၍ အမြင့် ၂၄ မိုင်ခန့် ရှိသော်လည်း လူသားများ မတွေ့မြင်ရခြင်းမှာ လောကကြီး၏ ဆန်းကြယ်ပုံ အခြင်းအရာတစ်ခု ဖြစ်၏။

ဘုရားရှင်တို့သည် ကျွတ်ထိုက်သူ သတ္တဝါတစ်ဦးတစ်ယောက်ကို ဖြစ်စေ၊ အများကို ဖြစ်စေ ဗုဒ္ဓစက္ခုတော်ဖြင့်မြင်လျှင် မည်မျှလောက် ကြီးမားသည့် ဘေးအန္တရာယ်များနှင့် ရင်ဆိုင်ရစေကာမူ ထိုကျွတ်ထိုက်သူ တို့ကို မလွဲမသွေ သွား၍ ချွတ်တော်မူလေ့ရှိသည့် ဘုရားရှင်၏ သတ္တဝါ များအပေါ် လွန်စွာ သနားတော်မူသော မဟာကရုဏာတော်ကို တွေ့ရ၏။

ဗိမာန်တစ်ခုတည်းတွင် နေထိုင်ကြသော ဗိမာန်ရှင် အာဠဝက နတ်ဘီလူးကြီးမှာ အလွန် ခက်ထန်ကြမ်းတမ်း၍ ရတနာသုံးပါး၊ မိဘများ

ကို ဆည်းကပ် ရှိသေရမှန်း မသိစေကာမူ သူ၏ ခြွေရံ မောင်းမမိဿံ ဘီလူးမများနှင့် တံခါးစောင့်ဘီလူးတို့မှာ ဘုရားရှင်ကို ကြည်ညိုလေးစားသူတွေဖြစ်ကြောင်း တွေ့ရ၏။

ရှေးဘဝက ဒါန၊ သီလ ကုသိုလ်ကောင်းမှုများကြောင့် နတ်ဘီလူးစည်းစိမ်ကိုရ၍ တန်ခိုးကြီးနတ် ဖြစ်လာရသော်လည်း အာဠာဝက နတ်ဘီလူးကြီးမှာ ထိုတန်ခိုးအရှိန်အဝါကိုစွဲ၍ ဖြစ်ပေါ်လာသော ပုညမာန်တက်မှုကြောင့် ဘုရားမှန်း မသိ၊ တရားမှန်း မသိ ကြမ်းတမ်း ခက်ထန်နေခြင်းဖြစ်၏။

မိဘများက ကဿပဘုရားရှင်ကို ဆည်းကပ် ကိုးကွယ်သူများဖြစ်သော်လည်း ပုညမာန်က အာဠာဝကအား ဘုရားမှန်း မသိ၊ တရားမှန်းမသိ၊ နတ်ဘီလူးကြမ်းကြီးဘဝသို့ တွန်းပို့ပေးလိုက်ခြင်း ဖြစ်သည်။

ဤဒေသနာတော်၌ အာဠာဝက၏ကျေးဇူးကြောင့် တရားရေးရာဗဟုသုတအဖြာဖြာတို့ကို ရရှိသည့်အပြင် ဘုရားရှင်၏ လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်းကာလပတ်လုံး ဖြည့်ကျင့်ဆည်းပူးတော်မူခဲ့သည့် ခန္တီပါရမီစွမ်းအင်နှင့် မေတ္တာပါရမီစွမ်းအင်တို့ကို အံ့သြဖွယ်ရာ၊ ကြည်ညိုဖွယ်ရာ တွေ့မြင်ရပေသည်။

▢



# ပုဏ္ဏကနတ်စစ်သူကြီး

ပုဏ္ဏကနတ်စစ်သူကြီးသည် စတုမဟာရာဇ်နတ်မင်းကြီးလေးပါးတို့၏ နတ်စစ်သေနာပတိကြီးများတွင် တစ်ဦးအပါအဝင် ဖြစ်သည်။ ပုဏ္ဏက နတ်ဘီလူးကြီးကား အာဠာဝက နတ်စစ်သူကြီး ကဲ့သို့ပင် အလွန်ရဲရင့် ကြမ်းတမ်းသူတည်း။

ကုဝေရခေါ် ဝေဿဝဏ်နတ်မင်းကြီး၏တူတော် ဖြစ်၏။ ပုဏ္ဏက၏စီးတော်မြင်းမှာ မနောမယသိန္ဓောမြင်းပျံ ဖြစ်သည်။ စိတ်တို့၏ဖြစ်ခြင်းသည် အလွန် လျင်မြန်လှ၏။ လက်ဖျစ်တစ်ဖျောက်တီး ကာလအတွင်း စိတ်ပေါင်း ကုဋေတစ်သိန်း ဖြစ်ပျက်နိုင်ကြ၏။ စိတ်၏ လျင်မြန်ပုံမှာ ခိုင်းနှိုင်းစရာ ဥပမာ မရှိလောက်အောင်ပင် လျင်မြန်သည်ဟု ဘုရားဟောထားသည်။ ပုဏ္ဏက နတ်စစ်သူကြီး၏ မနောမယ သိန္ဓောမြင်းပျံကား ထိုစိတ်သွားခြင်း မြန်သည်ထက် လျင်မြန်အောင် သွားနိုင်စွမ်းရှိ၏။

ထိုနတ်စစ်သူကြီးသည် ကုမ္ဘဏ်တစ်သိန်းတို့ကို အမျက်ထွက်ကာမျက်စောင်းတစ်ချက် ထိုးလိုက်ရုံမျှဖြင့် ထိုကုမ္ဘဏ်ကြီးများ ကြောက်လန့်တကြား စကြဝဠာတံတိုင်းအနားသို့ အရောက် ထွက်ပြေးကြရ၏။

ပုဏ္ဏက နတ်စစ်သူကြီး၏ မနောမယ သိန္ဓောမြင်းပျံမှာ သွားသည့်အရာတွင် စိတ်ထက် လျင်မြန်သည်သာ မဟုတ်သေး။ ခန္ဓာကိုယ်မှာလည်း တစ်ဂါဝုတ် ပမာဏရှိ၍ နားရွက်နှစ်ဖက်ကို ရွှေစင်ပြားဖြင့်ကပ်ထား၏။ ခွာလေးဖက်ကို ပတ္တမြားတို့ဖြင့် စီခြယ်ထား၏။ ရင်လွှမ်းတန်ဆာမှာ ဦးသစ်သော ဇမ္ဗူရာဇ် ရွှေစင်ဖြင့် လုပ်ထား၏။

တစ်နေ့တွင် ပုဏ္ဏကက နတ်စစ်သူကြီးသည် ကာဠတောင်ထိပ်ရှိ ဆေးဒန်းမြင်းသီလာ ကျောက်အပြင်၌ ကျင်းပသည့် နတ်ဘီလူးများ အစည်းအဝေးသို့ တက်ရောက်ရန် မနောမယသိန္ဓောမြင်းပျံကို စီးနင်း သွားစဉ် ဣရန္ဒတီ နဂါးမင်းသမီးကလေး၏ သီချင်းသံကို အမှတ်မထင် ကြားလိုက်ရသတဲ့။ သီချင်း၏ အဓိပ္ပာယ်က –

“ဒီ ဟိမဝန္တာ၌ ရှိကြတဲ့ အို – နတ်အပေါင်းတို့။ ဂန္ဓဗ္ဗ, ဘီလူး, နဂါး, ကိန္နရာ, လူပညာရှိ အပေါင်းတို့။ အကျွန်ုပ် အလိုရှိတိုင်း ဝိဓုရသုခမိန် ၏နှလုံးကို တရားသဖြင့် ဆောင်ယူပေးနိုင်သူဟာ ကျွန်ုပ်၏ ခင်ပွန်း ယောကျ်ား ဖြစ်ရပါစေမယ်” ဟူ၍ ဖြစ်ပါသည်။

ပုဏ္ဏကဘီလူးသည် သီချင်းသံကိုကြားလျှင် သီချင်းရှင် နဂါး မင်းသမီးကလေးမှာ အတိတ်ဘဝဟောင်းတွင် ပုဏ္ဏက၏မယား ဖြစ်ခဲ့ ဖူး၍ ဘဝသံသရာက ချစ်စိတ်ဝါသနာအထုံ ပါလာခဲ့သောကြောင့် ပုဏ္ဏက ဘီလူးမှာ ရိုးတွင်းခြင်ဆီခိုက်အောင် နှစ်ခြိုက်သောပီတိဖြစ်ပြီး ဣရန္ဒတီ အား တပ်မက်သောစိတ်ဖြင့် သိန္ဓောမြင်းပျံပေါ်ကပင် –

“အို – ချစ်နှမ၊ အကျွန်ုပ်၏ ပညာအစွမ်းဖြင့် တရားနှင့်အညီ ဝိဓုရသုခမိန်၏ နှလုံးသားကို ဆောင်စွမ်းနိုင်ပါတယ်။ သင် မစိုးရိမ်လင့်။ သင်သည် အကျွန်ုပ်၏မယား ဖြစ်ရပါလိမ့်မယ်” ဟု ဆို၏။

ဣရန္ဒတီက –

“အို – အရှင့်သား၊ ဒီလိုဆိုရင် အကျွန်ုပ်၏ ခမည်းတော် ဝရုဏ နဂါးမင်းကြီးထံ သွားကြပြီး အကျွန်ုပ်နှင့် ထိမ်းမြားလက်ထပ်မင်္ဂလာ ပြုပါ မည့်အကြောင်းကို တောင်းပန် ပြောကြားပါ”

ဟု ဆိုပြီး ပုဏ္ဏကကို နဂါးမင်းကြီးထံ ခေါ်သွား၏။

## နဂါးတို့ပြည်မှ ဣန္ဒပတ္ထနဂိုရ်ပြည်သို့

ပုဏ္ဏကသည် ဝရုဏမည်သည့် နဂါးမင်းကြီးထံမှောက်သို့ ရောက်သည့်အခါ –

“နဂါးမင်းကြီး၊ အကျွန်ုပ်သည် မင်းကြီး၏သမီးတော် ဣရန္ဒတီကို သံသရာဟောင်းက အကြောင်းပါခဲ့လို့ ထိမ်းမြားလက်ထပ်လိုပါတယ်။





ဒီအတွက် ကျွန်ုပ်က ဆင်, မြင်း, ရထား တစ်ရာစီ၊ ရတနာခုနစ်ပါး ဆယ်ပါးပြည့်သော လှည်းရထားတစ်ရာ တင်ဆက်ပါမည်။ အကျွန်ုပ်ကို သမီးတော် ဣရန္ဒတီနှင့် လက်ထပ်ပေးပါ”

ဟု တောင်းဆိုသည်။

နဂါးမင်းကြီးက ကြင်ရာတော် ဝိမလာမိဖုရားကြီးနှင့် တိုင်ပင်ပြီး–

“ဘီလူးစစ်သူကြီး၊ ငါ့သမီးတော် ဣရန္ဒတီကို စည်းစိမ်ဥစ္စာ ပဏ္ဏာလက်ဆောင်တွေ ဆောင်ချီပြီး ပေးပေမယ့် မရပါ။ ဣန္ဒပတ္ထနဂိုရ် ပြည့်ရှင် ဓနဉ္စယကောရဗျမင်းရဲ့ အမတ်ကြီးဖြစ်တဲ့ ဝိဓုရသုခမိန်ရဲ့ နှလုံးကို ငါ့ထံသို့ တရားသဖြင့် ယူလာနိုင်လျှင် ငါ့ရဲ့သမီးတော်ကို သင်နဲ့ လက်ထပ် ပေးမည်” ဟု ဆိုလိုက်သည်။

ပုဏ္ဏကသည် “ကောင်းပါပြီ အရှင်မင်းကြီး” ဟု ဝန်ခံကာ ဆံမုတ်ဆိတ်တွေကို ကောင်းစွာသုတ်သင် ပြင်ဆင်ဝတ်ဆင်ပြီး မနောမယ မြင်းပျံကိုစီးလျက် ဦးရီးတော် ကုဝေရ နတ်မင်းကြီးရှိရာ စတုမဟာရာဇ် နတ်ပြည်သို့ သွားလေသည်။ ဦးရီးတော်ထံမှောက်သို့ ရောက်သည့်အခါ ဘောဂဝတီမည်သော နဂါးပြည်ကြီး၏ စည်ကားသာယာပုံ၊ ဝရုဏနဂါး မင်းကြီး၏ တောင်ညာစံဒေဝီ မဟေသီမိဖုရားကြီး ဝိမလာ၏ လှပချော မောပုံ၊ ထိုမိဖုရားကြီးက ဝိဓုရသုခမိန်၏ နှလုံးကို ဆောင်ယူပေးနိုင်ရင် သမီးတော်နဲ့ လက်ထပ်ပေးမည်ဟု ပြောပုံတို့ကို စုံလင်စွာ တင်ပြပြီး ဝိဓုရသုခမိန်၏နှလုံးကို ဆောင်ယူပါရစေဟု ခွင့်ပန်လျှောက်ထားသည်။

သို့ရာတွင် ကုဝေရနတ်မင်းကြီးမှာ နတ်နှစ်ပါးတို့၏ ဗိမာန်အလု အယက်တရားကို စီရင်ဆုံးဖြတ်နေဆဲဖြစ်၍ ပုဏ္ဏက လျှောက်သည့်စကား ကို ဂရုမစိုက်နိုင်ပေ။ ထိုအကြောင်းကို ပုဏ္ဏက ရိပ်မိ၍ တရားနိုင်သော နတ်အနီးတွင် ကပ်နေ၏။

ကုဝေရနတ်မင်းကြီးက တရားနိုင်သောနတ်ကို –

“သင် ယခုပဲ သွားတော့၊ ဗိမာန်ကို သိမ်းယူ၍နေလော့”

ဟု မိန့်ဆိုလိုက်၏။

ပုဏ္ဏကသည် ကုဝေရနတ်မင်းကြီးက တရားနိုင်သည့်နတ်အား မိန့်ကြားသည်ကို မိမိအား မိန့်ကြားယောင်ပြုကာ အနီးရှိ နတ်တို့ကို –

"ငါ့ဦးရီးတော်က ငါ့ကို သွားခွင့်ပြုသည်ကို သင်တို့ အသိပဲ" ဟု ဆိုကာ မြင်းပျံကြီးကိုစီး၍ ရာဇဂြိုဟ်ပြည်ကြီးသို့ ကောင်းကင်ခရီးဖြင့် သွားလေသည်။

ဝိဓုရသုခမိန်ကို ဓနဥ္စယကောရဗျမင်းကြီးက ပိုင်ဆိုင်သဖြင့် အဆောတလျင် ယူဆောင်၍မရနိုင်။ မင်းကြီးသည် အန်ကစားကြူး၏။ ထိုမင်းကြီးနှင့် အန်ကစား လောင်းတမ်းကစား၍ အနိုင်ရပြီးမှ ဆောင်ယူနိုင်မည်။ ထိုမင်းကြီးနှင့် အန်လောင်းတမ်းကစားရာ၌ အသုံးပြုရန် ရာဇဂြိုဟ်ပြည်အနီး ဝေပုလ္လတောင်အတွင်း၌ မနောမယ ပတ္တမြားကို သွားယူမည်ဟူသော အကြံအစည်ဖြင့် ရာဇဂြိုဟ်ပြည်ဘက်သို့ ပုဏ္ဏက ထွက်လာခြင်း ဖြစ်သည်။

ပုဏ္ဏကသည် ဝေပုလ္လတောင်ထိပ်သို့တက်၍ ပတ္တမြားကိုရှာရာ တောင်ထွတ်အတွင်း၌ မနောမယပတ္တမြားကို တွေ့၏။ ထိုပတ္တမြားသည် အလိုခပ်သိမ်းကို ပေးစွမ်းနိုင်၏။ ကြီးမြတ်သော တန်ခိုးအာနုဘော် ရှိ၏။

စကြာမင်းတို့၏ ရတနာခုနစ်ပါးကို စောင့်ရှောက်နေကြသည့် ကုမ္ဘဏ်တစ်သိန်းတို့ကို မျက်စောင်းထိုးကြည့်ခါမျှဖြင့် အဝေးသို့ ပြေးစေပြီး မနောမယပတ္တမြားကို ယူဆောင်ကာ ကောင်းကင်ခရီးဖြင့် ဣန္ဒပတ္ထနဂိုရ်ပြည်သို့ သွားလေသည်။

## ပုဏ္ဏကနတ်စစ်သူကြီး၏ ကြွေးကြော်သံ

ဣန္ဒပတ္ထနဂိုရ်ပြည်သို့ ရောက်သည့်အခါ လုလင်အသွင်ဖြင့် ထီးဆောင်းမင်းတစ်ရာနှင့်အတူ အန်ကစားနေသည့် ကောရဗျမင်းကြီးထံ သွား၍ အန်ကစားလောင်းခွင့်ပြုရန် တောင်းဆို၏။ သူ၏ လောင်းတမ်းဥစ္စာများမှာ အဖိုးများစွာထိုက်သည့် မနောမယပတ္တမြားနှင့် ရန်သူတို့ကို ပယ်ရှားစေနိုင်သည့် မနောမယမည်သော အာဇာနည် သိန္ဓောမြင်းပျံတို့ ဖြစ်ကြောင်း တင်ပြ၏။

မင်းကြီးက ကျွန်ုပ်တို့လို မင်းတို့မှာ ပတ္တမြားရတနာ ပေါများလှသလို လေကဲ့သို့ မြန်သော သိန္ဓောမြင်းတို့မှာလည်း မရေမတွက်နိုင်ပါ ဆိုသဖြင့် ကစ္စည်းလုလင်အသွင်ကို ယူထားသည့် ပုဏ္ဏကသည် သူ၏မြင်းနှင့် ပတ္တမြားတို့၏ အစွမ်းအာနုဘော်ကို အထင်အရှား ပြသရလေသည်။





ထိုအခါတွင်မှ မင်းကြီး ကျေနပ်သွား၍ ပုဏ္ဏကကိုရှုံးလျှင် မင်း၊ မိဖုရားနှင့် ထီးနန်းမှတစ်ပါး ပုဏ္ဏက လိုချင်တာပေးမယ်ဟု လောင်းတမ်းပြုကြသည်။ အန်ခတ်ရာ၌ ပဉ္စာလရာဇ်မင်းကြီးစသော တစ်ရာ့တစ်ပါးသောမင်းတို့ကို အသိသက်သေထားကြ၏။

လွန်ခဲ့သည့် သုံးဘဝမြောက်က အမိ ဖြစ်ခဲ့ဖူးသည့် နတ်သမီးသည် ကောရဗျမင်း၏ ကိုယ်စောင့်နတ် ဖြစ်နေ၏။ ထိုနတ်သမီး၏ တန်ခိုးကြောင့် အန်ခတ်တိုင်း နိုင်မြဲ ဖြစ်၏။

ယခု ပုဏ္ဏကနှင့် အန်ခတ်သည့်အခါ၌လည်း ထိုနတ်သမီး၏ တန်ခိုးကြောင့် မင်းကြီးပစ်တင်လိုက်သည့် အန်ရွဲများသည် ရှုံးသောအခြင်းအရာဖြင့် ပြန်ကျလာသော်လည်း မင်းကြီးသည် ထိုအန်ရွဲတို့ကို နှစ်ကြိမ်တိုင်တိုင် ဖမ်းမိ၏။

ထိုအခါ ပုဏ္ဏကက ဆင်ခြင်ကြည့်ရာ မင်း၏ ကိုယ်စောင့်နတ်သမီး၏ အစွမ်းသတ္တိဟု သိရ၍ နတ်သမီးကို မျက်စောင်းထိုးကြည့်လိုက်သဖြင့် နတ်သမီးလည်း ကြောက်လန့်တကြား စကြဝဠာတောင်အထိ ပြေးရလေ၏။

မင်းကြီး သုံးကြိမ်မြောက် အန်ရွဲကို ပစ်တင်သည့်အခါ ပုဏ္ဏက၏ တန်ခိုးကြောင့် မင်းကြီးသည် အန်ရွဲတို့ကို ဖမ်းမမိတော့ဘဲ ရှုံးသည့်သဘောဖြင့် ကျကုန်၏။

ပုဏ္ဏကအလှည့်တွင် အန်ရွဲတို့ကို ပစ်တင်သည့်အခါ၌မူ အန်ရွဲတို့သည် အောင်မြင်သည့်အနေအထားဖြင့် ကျလာကြ၏။

ထိုအခါ ပုဏ္ဏကသည် "ငါအောင်မြင်ပြီ၊ ငါအောင်ပြီ" ဟု ကျယ်လောင်စွာ သုံးကြိမ်ဟစ်ကြွေး၏။ ထိုပုဏ္ဏက၏အသံကို ယူဇနာတစ်သောင်းကျယ်သော ဇမ္ဗူဒိပ်ကျွန်း တစ်ကျွန်းလုံးအနှံ့ ကြားရလေသည်။

## ဝိဓုရသုခမိန်ကို ပေးရန်တောင်းဆိုပုံ

ပုဏ္ဏကသည် အန်လောင်းတမ်း ကစားပွဲကို နိုင်သည့်အခါ မူလက ကတိပြုထားသည့်အတိုင်း မင်းကြီးထံ ဝိဓုရသုခမိန်ကို ပေးရန် တောင်းဆို၏။ မင်းကြီးသည် ဝိဓုရသုခမိန်ကို ပုဏ္ဏက မယူနိုင်အောင်

အမျိုးမျိုးကြံဆောင်သော်လည်း ဘုရားလောင်း ဝိဓုရသုခမိန်၏ ဖြောင့်မတ် မှန်ကန်သည့် စိတ်သဘောထားကြောင့် မင်းကြီး၏အကြံ မအောင်မြင်ခဲ့ဘဲ နောက်ဆုံးတွင် အမတ်ကြီးဝိဓုရကို ပုဏ္ဏကထံသို့ အပ်နှံလိုက်ရ၏။

ဝိဓုရသုခမိန်သည် မင်းကြီးအား အိမ်ရာတည်ထောင် လူတို့ ဘောင်၌ လိုက်နာကျင့်သုံးရမည့် တရားတို့ကို ဆုံးမစကား ပြောကြား နိုင်ရန်အတွက် သုံးရက်မျှ စောင့်ဆိုင်းရန် ပုဏ္ဏကထံ ခွင့်ပန်၏။ ပုဏ္ဏကလည်း ခွင့်ပေးကာ ဝိဓုရသုခမိန်နေသော ပြာသာဒ်အထက် ဘုံသုံးဆင့်ရှိ အိပ်ရာ တိုက်ခန်း၌ လိုက်နေ၏။ ဝိဓုရသုခမိန်၏ နေအိမ်မှာ ဥတုသုံးပါးအလိုက် ပြာသာဒ်သုံးဆောင်ရှိ၏။

ဘုရားလောင်း ဝိဓုရသုခမိန်မှာ သားတစ်ထောင်၊ သမီးတစ်ထောင်၊ မယားတစ်ထောင်၊ ကိုယ်လုပ်အစေအပါး မိန်းမ ခုနစ်ရာရှိ၏။ ကျွန်မိန်းမ၊ ကျွန်ယောကျ်ား၊ အမှုလုပ်၊ အခြွေအရံ၊ အဆွေခင်ပွန်း၊ ဆွေမျိုးသားချင်း တို့လည်း များစွာရှိ၏။

ဝိဓုရသုခမိန်သည် သားသမီးများ ဝိုင်းကြွေးသံစဲသည့်အခါ သားသမီး တို့အား တရားစကား ပြောကြားဆုံးမခြင်းဖြင့် သက်သာရာရစေပြီး ကြီးပွား ချမ်းသာကြောင်းဖြစ်သည့် မင်းမှုထမ်းတို့ ထမ်းဆောင်ရမည့် ရာဇဝသတိ တရားကို ဟောကြား၏။ သားမယားတို့အားလည်း မှာကြားစရာ ရှိသမျှကို အားလုံး မှာကြားပြောဆို၏။ အိမ်၌ ပြုဖွယ်ရာကိစ္စ အားလုံးပြီးသည့်အခါ ပုဏ္ဏကအား "ငါ့ကိစ္စ အားလုံးပြီးပြီ။ သင်အလိုရှိတိုင်း ပြုလော့" ဟုဆို၏။

ပုဏ္ဏကက 'ယခုပင် သွားမည်။ ငါ၏မြင်းမြီးကို မြဲစွာဆွဲ၍ လိုက်လော့။ မကြောက်မရွံ့လေနှင့်။ ယခု လူ့ပြည်ကို မြင်ရခြင်းကား နောက်ဆုံး မြင်ရခြင်း ဖြစ်သည်' ဟု ဆို၏။

## ပုဏ္ဏကတ၏တန်ခိုးနှင့် ဘုရားလောင်း၏ ဘုန်းကံပါရမီ

ဘုရားလောင်း ဝိဓုရသုခမိန်သည် မကြောက်ကြောင်းပြောဆိုပြီး ဝတ်လဲတော်ပုဆိုးကို –

"ယခု ငါဝတ်သော ပုဆိုးသည် ငါ အလိုရှိသမျှ ကာလပတ်လုံး မကျွတ်စေသတည်း"





ဟု ဓိဋ္ဌာန်တော်မူ၍ ဝတ်ပြီး မြင်းမြီးထူးပေါ်သို့တက်ကာ လက် နှစ်ဖက်ဖြင့် အမြီးကို မြဲစွာကိုင်၍ ခြေနှစ်ဖက်တို့က မြင်း၏ ပေါင်နှစ်ဖက် တို့၌ ချိတ်ပြီးသော် –

"လုလင်၊ အလိုရှိရာ သွားလော့" ဟု ဆို၏။

ပုဏ္ဏကသည် တောင်စောင်း၊ ကျောက်ဆောင်၊ သစ်ခက်၊ ဆူး၊ ငြောင့်တို့နှင့် ထိခိုက်ပြီး ဝိဓုရသုခမိန် သေသွားအောင် ဟိမဝန္တာဝယ် တောသစ်ပင်၊ ချုံပိတ်ပေါင်း ထူထပ်ရာ တောင်ကြား၊ သစ်ပင်ကြားသို့ မြင်းကို စိုင်းနှင်၏။

သို့သော် ဘုရားလောင်း၏ မေတ္တာ၊ သီလ၊ သစ္စာနှင့် ဘဝ အဆက်ဆက်က ကုသိုလ် ပါရမီတော်တို့၏ အာနုဘော်အစွမ်းကြောင့် တောင်ကမ်းသစ်ပင်များမှာ ဘုရားလောင်း ကိုယ်တော်ဘေးနှစ်ဖက်တို့၌ တစ်တောင်လောက် ကွာဝေးအောင် ဖယ်ရှားကြသဖြင့် ဘုရားလောင်းမှာ ပုဏ္ဏကထင်သလို မသေဘဲ မျက်နှာတော် ရွှင်လန်းလျက်ရှိ၏။

ပုဏ္ဏကသည် ဤအခြင်းအရာကို တွေ့မြင်ရသည့်အခါ သုံးကြိမ် တိုင်တိုင် ဤနည်းအတိုင်း မြင်းကို စိုင်းနှင်သည့်အပြင် ကောင်းကင်၌ ပြင်းစွာတိုက်ခတ်သည့် လေအဟုန်သို့ လည်းကောင်း၊ လေသင်တုန်းရှိရာ သို့ ခုနစ်ကြိမ်အထိ လည်းကောင်း မြင်းကို စိုင်းနှင်လေသည်။

သို့သော် ဘုရားအလောင်းတော်၏ အာနုဘော်ကြောင့် ခန္ဓာကိုယ် ပင်ပန်းနွမ်းနယ်ရုံမှတစ်ပါး အခြား မည်သည့် အန္တရာယ်မျှ မရှိခဲ့ပေ။

ထို့ကြောင့် ပုဏ္ဏကသည် ဘုရားလောင်းကို အသေသတ်ရန် ယူဇနာခြောက်ဆယ်မြင့်သော ကာဠာဂီရိတောင်ထိပ်သို့ ခေါ်ဆောင်ကာ တောင်ထိပ်ပြင်၌ ချထား၏။

ထို့နောက် အလွန် ကြောက်မက်ဖွယ်ရာ ကောင်းသည့် ဘီလူး အသွင်, ခြင်္သေ့အသွင်, အမှန်ယစ်သော ဆင်ကြီးအသွင်, မြွေကြီးအသွင် ဖန်ဆင်း၍ လည်းကောင်း၊ ပြင်းထန်စွာသောလေဖြင့် တောင်ကိုလှုပ်ခြင်း, တောင်တွင်းဝင်၍ ပြင်းစွာသောအသံဖြင့်ဟစ်ခြင်းတို့ကို ပြုလုပ်၍လည်းကောင်း သေအောင် ခြောက်လှန့်သော်လည်း ဝိဓုရမှာ သေမည်ကိုထား၍ ကြောက် လန့်ရုံမျှပင် မဖြစ်ပေ။

ထိုအခါ ပုဏ္ဏကသည် ဘုရားလောင်းကို ခြေက ကိုင်၍ ကောင်းကင်ပြင်သို့ပစ်ရာ ဘုရားလောင်းသည် ဝါဂွမ်းဆိုင်ကြီးကျသကဲ့သို့ ၁၅ ယူဇနာ ကွာဝေးသောအရပ်၌ အသာအယာကျ၏။

ထို့အတူ ဒုတိယအကြိမ် ပစ်ရာ၌ ယူဇနာ ၃၀ ကွာဝေးသော အရပ်၌ လည်းကောင်း၊ တတိယအကြိမ် ပစ်ရာ၌ ယူဇနာ ၆၀ ကွာဝေးသောအရပ်၌ လည်းကောင်း ကျ၏။

ထိုအကြိမ်တွင် ဘုရားလောင်း သုခမိန်သည် –

'အခုလည်း ငါ့ကို တစ်ဖန် ပစ်ဦးမည်၊ ပစ်လို့ မသေရင် ဒီတောင်ထိပ်မှာ ငါ့ခြေကို ကိုင်ပြီး ရိုက်ရင် ငါသေရလိမ့်မယ်၊ ဒီလို မလုပ်မီ ငါ့ကို သတ်ရတဲ့အကြောင်းကို ငါမေးမှ တော်မယ်' ဟု စဉ်းစားပြီး –

"လုလင်၊ သင်ကား သူတော်ကောင်းအသွင်အပြင် ရှိ၏။ သူတော်ကောင်းကားမဟုတ်။ ကိုယ်နှုတ်နှလုံးကို သင်မစောင့်။ အကျိုးမရှိ ကြမ်းကြုတ်စွာသော မကောင်းမှုကို သင်ပြုဘိ၏။ သင့်ကိုယ်၌ ကုသိုလ် စိုးစဉ်းမျှမရှိ။

လုလင်၊ သင်သည် ဘာကြောင့် ငါ့ကို ချောက်၌ ချပါသလဲ။ ငါသေရင် သင့်မှာ ဘာအကျိုးများ ရှိသလဲ။ သင့်အဆင်းကား နတ်ဘီလူးအသွင်ရှိ၏။ လူဟုတ်မည် ငါမထင်။ နတ်ပြည်မှာ သင့်ကို ခေါ်ဝေါ်တဲ့ နတ်အမည်မှာ အဘယ်သို့ ဖြစ်ပါသလဲ"

ဟု ဘုရားလောင်းက မေး၏။

ထိုအခါ ပုဏ္ဏကက ဘုရားလောင်း၏မေးခွန်းတို့ကို အားလုံး ပြန်ဖြေကြားသည်။

ဘုရားလောင်းသည် သူ့ကိုသတ်သည့်အကြောင်းကို သိရသည့် အခါ ပညာရှိတို့ သဘောသည် အရေးမရှိလျှင် အရာမထင်၊ အရာရောက်က လွတ်မြောက်အောင် ဆောင်နိုင်ခြင်းသည်သာ ပညာရှိတို့သဘော ဖြစ်၏။

ငါသည်လည်း ပညာရှိပင်ဖြစ်လျက် ပုဏ္ဏကလက်တွင် သေရမည်ဆိုသော် အဘယ်မှာ ပညာရှိဟု နာမည်ခံရကျိုး နပ်မည်နည်း။ ယခုပင် ပုဏ္ဏကအား ငါ့အစွမ်းကို ပြမည်ဟု ကြံပြီး –

"လုလင်၊ သင်သည် သာဓုနရမည်သော တရားကို နာပါဦး၊ တရားနာပြီးမှ သင်ကြိုက်သလို ငါ့ကို လုပ်ပေတော့" ဟု ဆို၏။





ပုဏ္ဏကက သဘောတူပြီး ဘုရားလောင်းကို မွေ့ချီကာ တောင်ထိပ်၌ ချထား၏။

## ဘုရားလောင်း၏ သာဓုနရတရားလေးပါး

ထို့နောက် ဘုရားလောင်း ခိုင်းသည့်အတိုင်း ဘုရားလောင်းကို ရေချိုးပေး၊ နတ်ပုဆိုးနှင့်နတ်ပန်းနံ့သာတို့ကို ဝတ်ဆင်ပေးပြီး နတ်ဘောဇဉ်တို့ကို ကျွေးမွေး၏။

ဘုရားလောင်းသည် ဝတ်စားတန်ဆာ ဆင်ယင်ပြီးသည့်အခါ တန်ဆာဆင်ယင် ပြုပြင် ခင်းကျင်းထားသည့် တရားဟောနေရာ၌ ထက်ဝယ်ဖွဲ့ ခွေ ထိုင်နေလျက် သာဓုနရတရား လေးမျိုးကို ဟောကြား၏။

ထိုတရားလေးပါးမှာ –

(၁) မိမိနှင့် အတူမနေဘူး၊ မတွေ့မမြင်ဘူး၍ မသိမကျွမ်းစေကာမူ မိမိအား နေရာပေးခြင်း၊ ခဲဖွယ်ဘောဇဉ်တို့ကို ကျွေးမွေးခြင်း စသည်ဖြင့် ဧည့်ဝတ်ပြုသူကို ကျေးဇူးတုံ့ပြန်၍ ကျင့်ခြင်း ဟူသော ယာတာနုယာယီ တရားတစ်ပါး၊

(၂) မိမိ တစ်ညမျှ တည်းခိုဖူးသောအိမ်၊ နည်းနည်းများများ တစ်စုံတစ်ခုသောပစ္စည်းကို ရဖူးသော အိမ်တို့၌ နေသူတို့ကို စိတ်ဖြင့်ပင် ပြစ်မှားခြင်း မပြုရဆိုတဲ့ အလ္လဥ္ဇပါဏိ ပရိဝဇ္ဇယ–စိုသောလက်ကို မခြောက်သွေ့မပူလောင်စေရ တရားတစ်ပါး၊

(၃) တစ်နေ့ တစ်ခဏမျှ အရိပ်၌ ခိုနားဖူး၊ အိပ်ဖူးသည့် သစ်ပင်သည် မိမိခင်ပွန်းဖြစ်၍ ထိုသစ်ပင်၏ အကိုင်းအခက်တို့ကို မဖျက်ဆီး၊ မချိုးဖဲ့ရသကဲ့သို့ ထို့အတူ မိမိ အဆွေခင်ပွန်းတို့ကို မပြစ်မှားရခြင်းဟူသော မိတ္တာအဒုဗ္ဘိ တရားတစ်ပါး၊

(၄) မိန်းမတို့ အလိုရှိတိုင်း မိန်းမအလိုသို့လိုက်၍ မကောင်းမှုကို မပြုရခြင်း ဟူသော အသတီနံ့နာနိဂစ္ဆ တရားတစ်ပါး၊ ပေါင်း တရားလေးပါးဖြစ်သည်။

ဘုရားလောင်းသည် ဤသာဓုနရတရားလေးပါးကို ဟောကြားပြီး ထိုတရားလေးပါးနှင့်အညီ ပြုမူနေထိုင်ရန် တိုက်တွန်းလိုက်သည်။

ထိုအခါ ပုဏ္ဏကသည် နောက်ကြောင်းကို ပြန်လှန်စဉ်းစားပြီး သံဝေဂတရားရကာ –

"ပညာရှိ သုခမိန်၊ ငါသည် သင့်အိမ်၌ နှစ်ရက်၊ သုံးရက် နေဖူး၏။ သင်သည် ငါ့ကို ရှေ့က မမြင်ဘူး၊ မတွေ့ဘူးပါဘဲလျက် ကျွေးမွေး ပြုစုခဲ့၏။ သင်သည် မပြစ်မှားထိုက်သော အဆွေခင်ပွန်း ဖြစ်၏။

ငါသည် နဂါးမင်းသမီးကို ရလိုသည့်အတွက် ဤသို့သော မကောင်းမှုကို မပြုထိုက်၊ ယခုပင် သင့်ကို သတ်ခြင်းမှ လွှတ်ပါတယ်။ သင်သည် အိမ်သို့ ပြန်ပါတော့" ဟု ဆို၏။

သို့သော် ဘုရားလောင်းသုခမိန် တောင်းပန်သဖြင့် ပုဏ္ဏကသည် ဘုရားလောင်းအား ဝရုဏ နဂါးမင်းကြီးစံရာ ဘောဂဝတီ နဂါးပြည်သို့ ပို့ပေးလေသည်။

## ဝိဓုရသုခမိန်တရားနှင့် နဂါးမင်း၊ မိဖုရား နှစ်ပါး

နဂါးပြည်သို့ ရောက်သည့်အခါ ပုဏ္ဏကသည် ဘုရားလောင်းကို နောက်ကထား၍ နဂါးမင်းကြီးအား အလိုရှိသည့် ဝိဓုရသုခမိန်ကို တံရားသဖြင့် ရလာသည့်အကြောင်း ပြောကြား၏။

နဂါးမင်းကြီးက သူ့ကို ရှိမခိုးဘဲနေသည့် ဘုရားလောင်းကို မြင်လျှင် "သေရမှာ ကြောက်သဖြင့် ရှိမခိုးဘဲ နေသလား" ဟု မေး၏။

ဘုရားလောင်းက –

"သေရမှာ မကြောက်ပါ၊ သတ္တဝါမှန်သမျှ မိမိသတ်မည့်သူကို လည်း ရှိမခိုး၊ မိမိကို သတ်သူကိုလည်း ရှိမခိုးရပါ" ဟု ဖြေကြား၏။

ထို့နောက် ဘုရားလောင်းက –

"ဒီနဂါးစည်းစိမ်ကို အဘယ်ကြောင့် ရသနည်း" ဟု မေး၏။

နဂါးမင်းက –

"ဒီနဂါးမင်းစည်းစိမ်ကို ဥတုဖောက်ပြန်တဲ့ အကြောင်းကြောင့် လည်း မရ၊ နတ်တို့ကလည်း ပေးသည် မဟုတ်၊ ငါ ရှေးဘဝက ပြုခဲ့တဲ့ ဒါနကုသိုလ်ကြောင့်သာ ရခြင်းဖြစ်တယ်" ဟု ဖြေဆို၏။

ဘုရားလောင်းက –





"နဂါးမင်းကြီးဟာ ကုသိုလ်ကံနှင့် ကုသိုလ်ကံရဲ့အကျိုးကို သိပါတယ်၊ သိတဲ့အတိုင်း ကုသိုလ်ပြုနိုင်ပါမှ နောက် ဒီလို စည်းစိမ်မျိုးကို ရမှာ ဖြစ်ပါတယ်"

လို့ ဖြေရာ နဂါးမင်းကြီးက 'နဂါးပြည်မှာ လူ့ပြည်မှာလို အလှူခံ ပုဂ္ဂိုလ်မရှိတဲ့အတွက် မလှူဒါန်းရလို့ ဘယ်လိုကုသိုလ်မျိုးပြုရမလဲ' ဟုမေး၏။

"နဂါးမ အပေါင်းတို့ကို အမျက်ထွက်ရန်ကိစ္စ ပေါ်လာတဲ့အခါ အမျက်ဒေါသကို သတိပညာဖြင့် ထိန်းကွပ်ပြီး သည်းခံပါ။ ချစ်ခင်ကြင်နာမှု မေတ္တာကို ပွားပါ။ ဒီလို သူတစ်ပါးတို့အား မေတ္တာထားခြင်း၊ မေတ္တာ ပွားခြင်းဟာ 'မေတ္တာ စိတ္တံ ဟိ ဒါနတော အတိရေကတရံ ပုညံ' ဆိုတဲ့ အတိုင်း အလှူပေးခြင်းဒါနထက် သာလွန်မြင့်မြတ်ပါတယ်" ဟု ဘုရားလောင်း က တရားဟော၏။ နဂါးမင်းကြီးသည် ဘုရားလောင်းကို မိဖုရားကြီး ဝိမလာဒေဝီထံ ခေါ်သွား၏။

မိဖုရားကြီးသည် ဘုရားလောင်းကို နဂါးမင်း ကြည်ညိုသည့် အမူအရာနှင့် နလှသော လက်ဆယ်ချောင်းကို ဦးခေါင်းထက်တင်ထား လျက် နဂါးမင်းကြီးက ဘုရားလောင်းနှင့် တွေ့စဉ်က မေးသကဲ့သို့ မေးမြန်း၏။ ဘုရားလောင်းကလည်း ရှေးနည်းအတိုင်း ဖြေကြား၏။

နောက်ဆုံးတွင် ဘုရားလောင်းသည် နဂါးမင်းကြီးအား တရား ဟောသကဲ့သို့ မိဖုရားကြီးအား နောင်ဘဝတွင် နဂါးပြည်၏ အထက်ဖြစ် သော နတ်ပြည်၌ အတုမရှိသော နတ်မင်း၊ နတ်မိဖုရားစည်းစိမ်ကို ရရှိခံစား နိုင်ရန် မေတ္တာတရား ပွားများအားထုတ်ရန် တရားဟော၏။

## ပုဏ္ဏကအလိုပြည့်၍ သုခမိန်အား ကုရုပဉ္စာလပြည်သို့ ပြန်ပို့ပုံ

ဘုရားလောင်းဟောသည့် တရားစကားကို နာကြားရလျှင် ဝိမလာ ဒေဝီသည် ဝိဓုရ သုခမိန်၏ နှလုံးတည်းဟူသော တရားကို နာလိုခြင်း အာသာ ပြေငြိမ်းသွားပြီဖြစ်၍ ပုဏ္ဏကသည် ဘုရားလောင်းအား တရား သဖြင့် ရခဲ့၊ မရခဲ့ မေးမြန်း၏။

ဘုရားလောင်းက ပုဏ္ဏကသည် မိမိကို တရားသဖြင့် ရခဲ့ကြောင်း ဖြေကြား၏။

ထို့နောက် ဘုရားလောင်းက နဂါးမင်းကြီးသန္တာန်၌ နူးညံ့သော စိတ် ရှိ၊ မရှိ စုံစမ်းလိုသဖြင့် –

"နဂါးမင်းကြီး၊ သင် အလိုရှိရာကို ပြောပါ၊ နှလုံးကို အလိုရှိလျှင်လည်း ထုတ်ပေးမည်၊ အသားကို အလိုရှိလျှင်လည်း အသားကို လှီးဖြတ်ပေးမည်" ဟု ဆို၏။

ထိုအခါ နဂါးမင်းကြီးက –

"သုခမိန်၊ ပညာရှိတို့ရဲ့ နှလုံးမှာ ပညာသာ ဖြစ်ပါတယ်၊ သင်၏ သာယာနာပျော်ဖွယ်သော တရားဟောခြင်း ပညာ ဟူသော နှလုံးကို ငါတို့ ကြားနာရ၍ ဝမ်းမြောက်လှပါတယ်။ သင့်ထံမှ တရားပညာမှတစ်ပါး အခြားအရာကို ငါတို့ အလိုမရှိ။

ပုဏ္ဏက စစ်သူကြီးလည်း ဘုန်းပညာ ကြီးသည့်အလျောက် အလွန်ဆောင်နိုင်ခဲသော ဤသုခမိန်ကို တရားသဖြင့် ရယူ၍ နဂါးပြည်ကြီးသို့ ဆောင်ယူခဲ့တဲ့အတွက် ငါနှင့် မိဖုရားကြီးတို့ အလို အလုံးစုံ ပြည့်စုံသွားပေပြီ။

ဒါကြောင့် ပုဏ္ဏကဘီလူး စစ်သူကြီးကို ငါ့ရဲ့သမီးတော်ဣရန္ဒတီနဲ့ လက်ထပ်ပေးမယ်" ဟုဆိုကာ ချက်ချင်း လက်ထပ်ပေးလိုက်၏။

ယနေ့ပင် ဘုရားလောင်း သုခမိန်ကို ဣန္ဒပတ္ထနဂိုရ်ပြည်သို့ ပို့ပေးရန်လည်း ပုဏ္ဏက စစ်သူကြီးအား တာဝန်ပေးလိုက်ပါသည်။

ပုဏ္ဏက စစ်သူကြီးလည်း ဘုရားလောင်းကိုအကြောင်းပြု၍ နဂါးမင်းသမီးကလေး ဣရန္ဒတီကို ရသောကြောင့် ဝိဓုရသုခမိန်အား ကျေးဇူးများစွာတင်၍ စကြဝတေးမင်းတို့သာ သုံးဆောင်ထိုက်သည့် မနောမယပတ္တမြားကို ကျေးဇူးဆပ်သည့်အနေဖြင့် ဘုရားလောင်းအား ပေးလိုက်သည်။ ဘုရားလောင်းက –

"သင်တို့ ဇနီးမောင်နှံ ရာသက်ပန် ခိုင်ခံ့သော မေတ္တာအစုံဖြင့် နတ်ဗိမာန်၌ ပျော်စံနိုင်ကြပါစေ"

ဟု ဆုပေးပြီးသည့်အခါ ပုဏ္ဏကသည် ဘုရားလောင်းအား မြင်းပျံပေါ်သို့ ရှေ့ဆုံးက တင်ကာ နဂါးမင်းသမီးကလေးကို အလယ်ကထား၍ ဣန္ဒပတ္ထနဂိုရ်ပြည်သို့ ပြန်ပို့လိုက်သည်။





ထို့နောက် ပုဏ္ဏက နတ်စစ်သူကြီးသည် ဇနီးသစ်ကလေးဣရန္ဒတီကို ခေါ်ဆောင်ကာ စတုမဟာရာဇ်နတ်ပြည်သို့ သွားလေတော့သည်။

## ပုဏ္ဏကနတ်စစ်သူကြီးဘဝမှ အင်္ဂုလိမာလသို့

ဤသည်မှာ မဟာနိပါတ်၊ ဝိဓုရ ဇာတ်တော်လာ ပုဏ္ဏက နတ်စစ်သူကြီး၏ အကြောင်းအရာ အကျဉ်းချုပ် ဖြစ်ပါသည်။

ပုဏ္ဏက ဆိုသည့်နာမည်သည် အာဠာဝကကဲ့သို့ ဗုဒ္ဓဘာသာဝင်လူထုနှင့် အကျွမ်းဝင်ပြီးဖြစ်သောနာမည် ဖြစ်သည်။

ပုဏ္ဏကဆိုသည့် နာမည်ကို ကလေးက အစ သိကြသည်။ မိမိတို့ မှန်းသည့်အိမ်ကို ပုဏ္ဏက အင်းချုပြီး မြုပ်နှံထားခြင်းဖြင့် မကောင်းကြံလေ့ရှိကြ၏။ ဤကဲ့သို့ ပြုလုပ်သည်ကို ပုဏ္ဏကတိုက်သည်ဟု ခေါ်ကြသည်။

ရက္ခဓမ္မဇာတ်တော်တွင် –

"ရှေးအခါက ဗာရာဏသီပြည်တွင် ဗြဟ္မဒတ်မင်း မင်းပြုစဉ် ရှေးဦးစွာဖြစ်သော ဝေဿဝဏ်နတ်မင်းသည် နတ်သက်ကြွေကာ စုတေ၏။ သိကြားမင်းသည် အခြား နတ်တစ်ဦးကို ဝေဿဝဏ်နတ်မင်း ရာထူးပေးအပ်ခန့်ထား၏" ဟု ဘုရားဟောတော်မူရာ ဝေဿဝဏ်နတ်မင်း အပြောင်းအလဲရှိကြောင်း သိသာပေသည်။ ထို့အတူ ပုဏ္ဏက နတ်စစ်သူကြီးသည်လည်း အပြောင်းအလဲ ရှိပါသည်။

ယခုတင်ပြခဲ့သော ပုဏ္ဏကနတ်စစ်သူကြီးမှာ ဝိဓုရဇာတ်တော်ကြီး ဇာတ်ပေါင်းခန်း၌ –

"ပုဏ္ဏက နတ်စစ်သူကြီးသည် ဘုရားလောင်းလက်ထက်တော်တွင် သာဝတ္ထိပြည် ကောသလမင်းကြီး၏ ပုရောဟိတ် ဘဂ္ဂဝပုဏ္ဏား၏သား အင်္ဂုလိမာလမထေရ် ဖြစ်လာ၏"

ဟု ဟောတော်မူသောကြောင့် ထိုစဉ်က ပုဏ္ဏက နတ်စစ်သူကြီးသည် ဘုရားလက်ထက်တွင် အင်္ဂုလိမာလမထေရ် ဖြစ်လာပြီး ပရိနိဗ္ဗာန်ဝင်စံသွားပြီး ဖြစ်သောကြောင့် ယခု ရှိနေသော ပုဏ္ဏကနတ်စစ်သူကြီးမှာ နောက်ထပ် ပြောင်းလဲခန့်ထားသည့် အသစ် နတ်စစ်သူကြီးဖြစ်ကြောင်း မှတ်သားရန် ဖြစ်ပါသည်။

### မှတ်သားဖွယ်ရာ အဖြာဖြာ

ဤပုဏ္ဏက နတ်စစ်သူကြီး၏အကြောင်း၌ ဣရန္ဒတီ၏ သီချင်းသံကို ကြားရသည့်အခါ ပုဏ္ဏကဘီလူးမှာ ရိုးတွင်းခြင်ဆီခိုက်အောင် နှစ်ခြိုက်သောပီတိဖြစ်ပြီး ချစ်ကြိုက်သွားခြင်းမှာ ရှေးဘဝများက ဇနီးမယားအဖြစ် ချစ်ခင်စုံမက် ပေါင်းဖက်ခဲ့ဖူးခြင်း ဟူသော အကြောင်းတရားကြောင့် ဖြစ်သည်ဟူသော အချက်ကား မှတ်သားစရာအချက် ဖြစ်သည်။

ဤသို့ တစ်ဦးနှင့်တစ်ဦး ကြည်နူးစွာ တွေ့ဆုံ ပေါင်းဖက်ကြရခြင်းမှာ ရှေးဘဝများက အတူတကွ ပေါင်းသင်းနေထိုင်ခဲ့ဖူးခြင်းဟူသော ပုဗ္ဗေဝသန္နိဝါသ အချက်သည် အကြောင်းတစ်ခု ဖြစ်သည်ဟု မြတ်စွာဘုရား ဟောကြားထားသည်။

နတ်များလည်း လူများကဲ့သို့ အချင်းချင်း တရားဖြစ်ကြပုံ၊ စတုမဟာရာဇ်နတ်ပြည်၌ ဝေဿဝဏ် စသော နတ်မင်းကြီး လေးပါးတို့က တရားဆုံးဖြတ်ပေးရပုံတို့မှာလည်း မှတ်သားစရာ ဖြစ်သည်။

ကိုယ်စောင့်နတ်ရှိခြင်းနှင့်ပတ်သက်၍ 'ရှေ့သုံးခုမြောက်ဘဝက အမိဖြစ်ခဲ့ဖူးသည့် နတ်သမီးသည် ကောရဗျမင်းကြီး၏ ကိုယ်စောင့်နတ်ဖြစ်သည်' ဆိုသော ဇာတ်တော်လာ အကြောင်းအရာသည် ထောက်ထားစရာ အချက်တစ်ခု ဖြစ်သည်။

ယူဇနာ တစ်သောင်းကျယ်သော ဇမ္ဗူဒိပ်ကျွန်းတစ်ကျွန်းလုံးအနှံ့ ကြားရသည့် အသံကြီးလေးမျိုးအနက် ပုဏ္ဏက၏ "ငါအောင်ပြီ" ဆိုသည့် ဟစ်ကြွေးသံမှာ အသံတစ်ခုဖြစ်ကြောင်း မှတ်သားနိုင်သည်။

ဝိဓုရသုခမိန် ဟောကြားသည့် သာဓုနရတရားလေးပါးနှင့် နဂါးတို့မှာ ကုသိုလ်ကံကြောင့် နဂါးစည်းစိမ်ကိုရကြောင်း သိကြပုံ၊ နဂါးပြည်၌ ဒါန, သီလ ကုသိုလ်တို့ကို အပြုရခက်ပုံ၊ မေတ္တာ စသော ဘာဝနာကုသိုလ်ကိုသာ ပြုရန်လွယ်ပုံ၊ မေတ္တာဘာဝနာ ကုသိုလ်က ဒါန ကုသိုလ်ထက် အဆပေါင်းများစွာ သာလွန်ပုံတို့သည်ကား မှတ်သားစရာ အချက်များ ဖြစ်ပေသည်။

❑



## စတုမဟာရာဇ်နတ်များ

ဓတရဋ္ဌ စသော စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့၏ လက်အောက်ခံနတ်များကို စတုမဟာရာဇ်နတ်များဟု ခေါ်သည်။

ထိုစတုမဟာရာဇ်နတ်တို့သည် အချို့က မြင့်မိုရ်တောင်၌တည်၍ အချို့က ကောင်းကင်၌ တည်ရှိကြသည်။ ကောင်းကင်၌ တည်ကြသော အာကာသဋ္ဌ နတ်တို့သည် မြင့်မိုရ်တောင်အလယ်နှင့် ညီမျှသော ကောင်းကင်ပြင်တွင် စကြဝဠာတံတိုင်းအထိ ဗိမာန်များနှင့် အသီးသီး တည်ရှိကြသည်။

အပျော်အပါးလွန်သဖြင့် ပျက်စီးရသော ခိဍ္ဍာပဒေါသိကနတ်၊ ဒေါသစိတ်ကြောင့် ပျက်စီးရသော မနောပဒေါသိကနတ်၊ 'အေးသောတိမ်နတ်သား (သီတဝလာဟကနတ်)၊ ပူသောတိမ်နတ်သား (ဥဏှဝလာဟကနတ်)၊ မိုးနတ်သား၊ လေနတ်သား၊ လနတ်သား၊ နေနတ်သား စသော နတ်တို့သည် စတုမဟာရာဇ်နတ်များပင် ဖြစ်ကြသည်။

နတ်မင်းကြီးများ၏ လက်အောက်ခံ တပည့်များ ဖြစ်ကြသော ဂန္ဓဗ္ဗနတ်, ကုမ္ဘဏ်နတ်, နတ်နဂါး, နတ်ဘီလူးတို့သည် လည်းကောင်း၊ ဘုမ္မစိုးနတ်, ရုက္ခစိုးနတ်များနှင့် တောစောင့်နတ်, တောင်စောင့်နတ်, မြို့စောင့်နတ်, ရွာစောင့်နတ်, အိမ်စောင့်နတ်, အရံစောင့်နတ်, ကိုယ်စောင့်နတ် စသော နတ်များသည် လည်းကောင်း၊ ဘုမ္မစိုးနတ်တို့ကို မှီခိုနေကြရသော ဝိနိပါတိက အသုရာ နတ်ငယ်များသည် လည်းကောင်း စတုမဟာရာဇ်နတ်မျိုးတွင် ပါဝင်ကြပေသည်။

## ဂန္ဓဗ္ဗနတ်များ

စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတွင် ဓတရဋ္ဌ နတ်မင်းကြီးသည် ဂန္ဓဗ္ဗ နတ်အပေါင်းကို စိုးမိုးအုပ်ချုပ်၍ မင်းလုပ်နေသည်။

ဂန္ဓဗ္ဗနတ် ဆိုသည်မှာ မွှေးနံ့ကြိုင်ရှင် နံ့သာပင်တို့၌ ပဋိသန္ဓေတွယ်၍ နံ့သာပင်များ၌နေသောနတ်များ သို့မဟုတ် အနံ့ကို ရှူရှိုက်စားသုံးကြသောနတ်များ ဖြစ်ကြသည်။

ထိုဂန္ဓဗ္ဗနတ်များသည် အမြစ်နံ့သာကိုစောင့်သော မူလဂန္ဓဗ္ဗနတ်၊ အနှစ်နံ့သာကိုစောင့်သော သာရဂန္ဓဗ္ဗနတ်၊ အကာနံ့သာကိုစောင့်သော ဖဂ္ဂုဂန္ဓဗ္ဗနတ် စသည်ဖြင့် ဆယ်မျိုးရှိ၏။

သစ်ပင်တွင်း၊ သစ်ခေါင်းတွင်း၌ဖြစ်သော နတ်မျိုးကိုလည်း ဂန္ဓဗ္ဗနတ်ဟု ခေါ်ပါသည်။ ထိုနတ်မျိုးကို သစ်ဘီလူးဟု လည်းကောင်း၊ သစ်ချောက်ကောင် ဟုလည်းကောင်း ခေါ်ကြသည်။

ရုက္ခစိုးနတ်တို့သည် မိမိ မှီခိုရာ သစ်ပင်သေလျှင် အခြားသို့ ပြောင်းရွှေ့နေကြ၏။ သစ်တုံးတွင် နေရိုး မရှိကြချေ။ သစ်ချောက်ကောင်ခေါ် ဂန္ဓဗ္ဗနတ်တို့မှာကား သစ်တုံးဆွေးသည့်တိုင်အောင် မှီ၍ နေနိုင်ကြ၏။

အိမ်တိုင်၊ ကျောင်းတိုင် စသည်တို့၌ အမျက်ဆိုးပါသည်၊ သစ်ချောက်ပါသည်ဟု ပြောခြင်းကား ထိုဂန္ဓဗ္ဗနတ်များကိုပင် ပြောဆိုခြင်းဖြစ်သည်ဟု ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊ ဂန္ဓဗ္ဗကာယသံယုတ်နှင့် ပရမတ္ထဒီပနီဋီကာသစ်တို့၌ ဟောကြားမိန့်ဆိုထားပေသည်။

ရထားထိန်းဟု လူသိများသော မာတလိနတ်သား၊ စောင်းတီးကောင်းသည့် ပဉ္စသိခနတ်သား၊ တိမ္ဗရုနတ်သားတို့သည် ဂန္ဓဗ္ဗနတ်မင်းကြီးများ ဖြစ်ကြသည်။

ပဉ္စသိခ၏ အချစ်တော် သူရိယဝစ္ဆသာ နတ်သမီးကား ဂန္ဓဗ္ဗနတ်သမီးပင်တည်းဟု မဟာဝဂ္ဂသံယုတ်၌ ဟောတော်မူပေ၏။

ရှေးရှေးသောဘဝတို့၌ ယုတ်ညံ့သော မကောင်းမှုကို ပြုခဲ့ဖူးကုန်သော ဂန္ဓဗ္ဗနတ် အချို့သည် လူမိန်းမတို့၏ကိုယ်တွင်း၊ ဝမ်းတွင်း၌လည်း ဖြစ်လာတတ်ကြ၏။ သူတို့သည် လူမိန်းမတို့ ခိုင်းစေရာကို ပြုတတ်ကြသည်။





ထိုဂန္ဓဗ္ဗနတ်မတို့ကို ပေဒင်ကျမ်း၊ ဆေးကျမ်း၊ မော်ကျမ်းတို့၌ ယောဂိနီနတ် ဟူ၍ လည်းကောင်း၊ ယ ကို ဇ ပြုပြီး ဇောဂိနီနတ် ဟူ၍ လည်းကောင်း ခေါ်ဝေါ်ကြသည်။ ထို ဇောဂိနီ နတ်မတို့သည် မိမိတို့ အမှတ်အသားထားကြသည့်အတိုင်း ညအခါမျိုး၌ မိမိတို့၏ တန်ခိုးအမျိုးမျိုးတို့ဖြင့် ကျက်စားလေ့ ရှိကြ၏။

ထိုသို့ ကျက်စားသည့်အခါည၏အမှောင်တွင် အရောင်အဝါ ထွန်းပလေ့ ရှိကြသည့်အတွက် ထိုဂန္ဓဗ္ဗနတ်မတို့ကို ပါဠိလို ဇုဏှာ၊ မြန်မာလို ဇုဏ်ဟု ခေါ်ကြ၏။ ယခုကာလ၌ကား 'စုန်း' ဟု ခေါ်ဝေါ်ကြ၏။

ယောဂိနီ၊ ဇောဂိနီ၊ ဇုဏှာ၊ စုန်း ဟု အမျိုးမျိုး အမည်ရသော ဂန္ဓဗ္ဗနတ်မ၏ တည်နေရာမိန်းမကို 'စုန်းမ' ဟု ခေါ်ဝေါ်ကြ၏။

ထိုစုန်းမတို့သည် မိမိတို့ကိုယ်တွင်း ကိန်းအောင်းနေသော ဂန္ဓဗ္ဗနတ်မ၏အစွမ်းသတ္တိကြောင့် အခြားသောသူတို့ကိုနှိပ်စက်ခြင်း၊ ဖမ်းစားခြင်း စသည့် မကောင်းမှု အမျိုးမျိုးကို ပြုလုပ်နိုင်ကြ၏။

ပဋိသန္ဓေ တည်နေစဉ်မှစ၍ ဂန္ဓဗ္ဗနတ် ထက်ကြပ်ပါလာသော မိန်းမကို 'ဝမ်းတွင်းစုန်းမ' ဟူ၍ ခေါ်ဝေါ်ကြ၏။

ဗူးရှိသည်၊ ဗူးသွင်းသည်ဟု ပြောဆိုကြသည်မှာ တိုဂန္ဓဗ္ဗနတ်ကိုပင် ရည်ညွှန်းပြောဆိုခြင်း ဖြစ်သည်။ အမှန်စင်စစ် ဗူးဟူ၍ မရှိချေဟု လယ်တီဆရာတော်ဘုရားကြီး မိန့်တော်မူ၏။

ထိုဂန္ဓဗ္ဗနတ်မ ရှိသော မိန်းမတို့သည် သူတစ်ပါးတို့၏ အသားအသွေးကို စုပ်ယူတတ်ရကား စုပ်ယူခြင်းအနက်ဟော စုမ္ဗိတ သဒ္ဒါအရ 'စုန်း' ဟု ခေါ်သည်ဟု ဆရာတော်ကြီးအချို့ ယူဆကြ၏။

## ကုမ္ဘဏ်နတ်များ

ကုမ္ဘဏ်နတ်တို့မှာ ဝိရူဠှက နတ်မင်းကြီး၏ လက်အောက်ခံနတ်များ ဖြစ်ကြသည်။ ဝိရူဠှက နတ်မင်းကြီးသည် မြင့်မိုရ်တောင်၏ တောင်ဘက် အလယ်ချက်အာလိန်၌တည်သော နတ်မြို့တွင် ကုမ္ဘဏ်နတ်အပေါင်းကို အုပ်ချုပ် မင်းလုပ်သည်။ ကုမ္ဘဏ်နတ်တို့မှာ ကြီးမားသော ဝမ်းဗိုက်နှင့် ပြူးကျယ်နီမြန်းသော မျက်စိကြီးများ ရှိကြသည်။

ထိုကုမ္ဘဏ်နတ်တို့၏ ဝှေးစေ့ကား အိုးစရည်းကြီးတမျှ ကြီးမား ကြသတဲ့။

(ကုမ္ဘ=အိုးစရည်းလောက်ကြီးသော+အဏ္ဍ=ဝှေးစေ့ရှိသူ၊ ကုမ္ဘ+အဏ္ဍ=ကုမ္ဘဏ္ဍ=ကုမ္ဘဏ်)

ပစ္စည်းဥစ္စာ ရတနာများနှင့် ရေကန် စသည်တို့ကို စောင့်ရှောက်နေ၍ ထိုနေရာသို့ လာရောက်သူတို့ကို ဖမ်းစားတတ်သည့် နတ်မျိုးကို ရက္ခိုသ်(ရက္ခသ) ဟုခေါ်၏။

ထိုရက္ခိုသ်တို့သည် ကုမ္ဘဏ်နတ်မျိုး၌ ပါဝင်၏။

ယခုကာလ 'ဥစ္စာစောင့်' ဟု ခေါ်နေကြသည့် ရက္ခိုသ်တို့သည်လည်း ကုမ္ဘဏ်မျိုးပင် ဖြစ်၏။ ဤကုမ္ဘဏ် ရက္ခိုသ် ဘီလူးတို့သည် ပျော်ရွှင်လိုခြင်း၊ သက်သက်နှိပ်စက်လိုခြင်း၊ စားသောက်လိုခြင်းတို့ကြောင့် ငရဲထိန်းဟန် ခွေးကြီးသဏ္ဌာန် ဖန်ဆင်းကြလျက် ငရဲဘုံတို့၌လည်း ကျက်စားတတ်ကြသည်။

ထိုရက္ခိုသ်တို့သည် ဝေပုလ္လတောင်ယံ မဏိဓောတရည် ပတ္တမြားရတနာကို စောင့်ရှောက်ကြကုန်၏။

ဟိမဝန္တာအတွင်း၌ရှိသော အဇ္ဇုန္နရ သရက်ပင်ကြီးကိုလည်း စောင့်ရှောက်ကြ၏။

ထို့ပြင် တောထဲတောင်ထဲ၌ ရှိသော ရတနာအမျိုးမျိုးတို့ကိုလည်း စောင့်ရှောက်ကြကုန်၏။

တောစိုး သစ်ပင်ကြီးများနှင့် ထူးမြတ်သော ဆေးပင်အမျိုးမျိုး၊ ပန်းပင်အမျိုးမျိုး၊ နံ့သာပင် အမျိုးမျိုးတို့ကိုလည်း စောင့်ရှောက်ကြ၏။ မြစ်ကြီး၊ အိုင်ကြီး စသည်များကိုလည်း စောင့်ရှောက်ကြ၏။

မိမိတို့ စောင့်ရှောက်နေသည့် ပစ္စည်းဝတ္ထုများကို တစ်စုံတစ်ရာ ကျူးလွန်လာသူတို့အား တန်ခိုးဖြင့် သတ်ဖြတ်၍ စားကြ၏။

စတုမဟာရာဇ်နတ်မင်းကြီးတို့ကလည်း နယ်စားပယ်စားအဖြစ် စားသောက်ခွင့်ကို ပေးထားကြ၏။

ဤအကြောင်းအရာများကို ဇာတ်အဋ္ဌကထာ စသည်တို့၌ တွေ့ရပေသည်။





## နတ်နဂါးများ

နတ်နဂါးတို့မှာ ဝိရူပက္ခ နတ်မင်းကြီး၏ လက်အောက်ခံများ ဖြစ်ကြသည်။ ဝိရူပက္ခနတ်မင်းကြီးသည် မြင့်မိုရ်တောင်၏ အနောက်ဘက် အာလိန်၌တည်နေသော နတ်မြို့တွင် နတ်နဂါးအပေါင်းတို့ကို အုပ်ချုပ်၍ မင်းလုပ်သည်။ တောင်၏အတွင်း၌သော် လည်းကောင်း၊ မြေ၏အတွင်း၌သော် လည်းကောင်း ဖြစ်ကုန်ရသော ဝသုန္ဓရနတ်မျိုး၊ ဘုမ္မဒေဝ နတ်မျိုးများကို နတ်နဂါးဟု ခေါ်သည်။

ထိုနတ်နဂါးမျိုးတို့ကိုပင် မဟာပရိနိဗ္ဗာနသုတ်၌ ပထဝီဒေဝဟု ဟောထား၏။ ထိုနဂါးမျိုးတို့ ကစားမြူးထူးခြင်း အားကြီးသောကြောင့် တစ်ခါတစ်ရံ မြေကြီးတုန်လှုပ်တတ်၏။ ထိုနတ်နဂါးတို့၏ မန္တန်များကို ဗြဟ္မဇာလသုတ်၌ ဝတ္ထုဝိဇ္ဇာ ဟုလည်းကောင်း၊ ဘူမိဝိဇ္ဇာ ဟုလည်းကောင်း ခေါ်ဝေါ်၏။

ထိုနတ်နဂါးတို့တွင် အချို့သော နတ်နဂါးတို့သည် တန်ခိုးလည်း ကြီးကုန်၏။ သူတစ်ပါးတို့ကို ဖမ်းစားနှောင့်ယှက်နိုင်သော သတ္တိလည်း ရှိကြကုန်၏။ မကောင်းမှုကိုပြုရန် ဝန်မလေးကြ။ အလွန် နှစ်သက် ပျော်ပါးကြ၏။ ရက်စက်ကြမ်းကြုတ်မှုပြုရန် ဝါသနာပါကြ၏။

ထိုနတ်နဂါးတို့သည် အပျော်ကြူးလို၊ အစားအသောက်ကြူးလို ကြသဖြင့် ငရဲဘုံ၊ ပြိတ္တာဘုံများသို့ လှည့်လည်သွားလာလေ့ ရှိကြ၏။

သူတို့သည် တစ်ခါတစ်ရံ မိမိတို့ ပကတိ အသွင်အပြင်အတိုင်း သွားလာသကဲ့သို့ တစ်ခါတစ်ရံ ခွေး၊ လင်းတ၊ ကျား၊ ခြင်္သေ့တို့ယောင် ဆောင်ကာ သွားလာတတ်ကြ၏။ ငရဲသူ၊ ငရဲသား၊ ပြိတ္တာ သတ္တဝါများကို အမျိုးမျိုးသော နည်းတို့ဖြင့် ညှဉ်းဆဲကြ၏။ တစ်ခါတစ်ရံ ထိုငရဲ၊ ပြိတ္တာ သတ္တဝါများကို စားတတ်ကြ၏။ ထို နတ်နဂါးတို့သည် စတုမဟာရာဇ် နတ်မျိုး၌ ပါဝင်၏ဟု ထိုထို သုတ္တန်၊ ဇာတ်အဋ္ဌကထာ စသည်တို့၌ လာသည်ဟု လယ်တီဆရာတော်ဘုရားကြီး မိန့်တော်မူ၏။

ဝေဘာရတောင်၏အောက်၌ မြေနေ နဂါးတို့၏ ယူဇနာ ၅၀၀ ရှိသော နဂါးပြည်သည် နတ်ပြည်နှင့်တူ၏။ မွေ့လျော်ဖွယ် မြေအပြင်နှင့် အရံဥယျာဉ်တို့ဖြင့် ပြည့်စုံ၏။

ထိုနဂါးတို့ ပျော်ပါးရာ ရေအိုင်ရှိရေသည် ကြည်လင်အေးမြ၏။ စင်ကြယ်သန့်ရှင်း၏။ မြိန်မြတ်သောအရသာ ရှိ၏။ မော်သေး၊ မော်ညှိမရှိ။ ကောင်းမြတ်သောရေဆိပ် ရှိ၏။ မွေ့လျော်ဖွယ် ကောင်း၏။ လှည်းဘီးဝန်း ပမာဏရှိသည့် ပဒုမ္မာကြာတို့ ပွင့်ကုန်၏။ များစွာသော ငါးလိပ်တို့ ရှိကြ၏။ ထိုအိုင်မှ ထွက်သော တပေါဒါမြစ်သည် ငရဲနှစ်ခုတို့ အကြားမှ စီး၍ ရာဇဂြိုဟ်ပြည်ကို လှည့်လည်စီး၏ဟု ပါရာဇိကဏ် အဋ္ဌကထာ၊ စတုတ္ထ ပါရာဇိက၊ တပေါဒဝတ္ထု၌ ဆိုပါသည်။

စတုက္ကနိပါတ် ဒဒ္ဒရဇာတ်၌ ဟိမဝန္တာတော၊ ဒဒ္ဒရတောင်ခြေရင်း၌ မြေနဂါးတို့ပြည်ရှိကြောင်း လာရှိသည်။

ပရိတ်ကြီးလာ အာဋာနာဋိယသုတ်၌ ဒေဝါနာဂါ မဟိဒ္ဓိကာ စသည်ဖြင့် နဂါးတို့ ဘုန်းတန်ခိုးအာနုဘော်ကြီးကြောင်း ပြဆိုထားသည်။

ဝိဓုရဇာတ်တော်ကြီး၌ ဝိဓုရသုခမိန်သည် ဝရုဏနဂါးပြည်သို့ ရောက်၍ နဂါးမင်းကြီး၏ တန်ခိုးကြီးပုံ၊ ယူဇနာငါးရာကျယ်သော နဂါးပြည်ကြီး၌ ဘုံဗိမာန်စည်းစိမ်ချမ်းသာကြီးမားပုံကို တွေ့မြင်ရသည့် အခါ -

"ဒီဘုန်းတန်ခိုး အရောင်အဝါနဲ့ ဗိမာန်စည်းစိမ်ချမ်းသာတွေကို အဘယ်ကောင်းမှုကြောင့် ရပါသလဲ"

လို့ ဝရုဏနဂါးမင်းကြီးနဲ့မိဖုရားဝိမလာဒေဝီတို့ကို မေးသတဲ့။

နဂါးမင်း၊ မိဖုရား နှစ်ဦးလုံးက -

"အင်္ဂတိုင်း ကာလစမ္ပာနဂိုရ်မြို့၌ လူဖြစ်စဉ်က ဇနီးမောင်နှံ နှစ်ဦးလုံးက စိတ်တူကိုယ်မျှ ဒါနကောင်းမှုကို ပြုခဲ့တဲ့အတွက်ကြောင့် ဒီလို တန်ခိုးအရောင်အဝါနဲ့ ဗိမာန်စည်းစိမ် ချမ်းသာတွေကိုရကြောင်း" ပြန်ပြောကြသည်။

ထို့ပြင် နဂါးမင်း၊ မိဖုရား နှစ်ဦးလုံးက -

"နဂါးပြည်မှာ လူ့ပြည်မှာလို အလှူခံပုဂ္ဂိုလ် မရှိတဲ့အတွက် မလှူရဒါန်းရပါ။ နောက်ဘဝမှာ ဒီလို ဗိမာန်စည်းစိမ်တွေကိုရဖို့ နဂါးပြည်မှာ ဘယ်လို ကုသိုလ်မျိုး ပြုရမလဲ"

ဟု ဝိဓုရ သုခမိန်ကို မေးကြ၏။





ဘုရားလောင်းက -

"မိမိတို့စိတ်က မနှစ်သက်လို့ အမျက်ထွက်ဖို့ ဖြစ်လာတဲ့အခါ အမျက်မထွက်ရအောင် သတိပညာဖြင့် ဟန့်တားပြီး သည်းခံပါ။ အဲဒီလို သည်းခံခြင်း ခန္တီ၊ ချစ်ခြင်း မေတ္တာကို ပွားများပါ။ နောင်ဘဝမှာ အထက် နတ်ပြည်ရောက်ပြီး အတုမရှိတဲ့ နတ်စည်းစိမ်ကို ခံစားရမယ်"

ဟု ညွှန်ကြားသည်တို့ကို လေ့လာတွေ့ရှိရပေသည်။

ဤအကြောင်းအရာများကို ထောက်ရှုက နဂါးများသည် အတိတ် ဘဝကို ပြန်သိနိုင်ကြသည်။ အကုသိုလ်ကံကြောင့် တိရစ္ဆာန်ဖြစ်ရသော်လည်း တန်ခိုးအရောင်အဝါ၊ ဘုံဗိမာန် စည်းစိမ်ချမ်းသာ စသည့် ဘောဂ သမ္ပတ္တိများ ရှိကြသူများ ဖြစ်သည်။ အဟိတ်ပုဂ္ဂိုလ်မျိုး ဖြစ်ရသော်လည်း ဒါန၊ သီလ၊ ဘာဝနာ စသည့် ကုသိုလ်ကောင်းမှုများကို ပြုလုပ်နိုင်သော ပုဂ္ဂိုလ်ထူးများ ဖြစ်ကြသည်ဟု သိရှိရပေသည်။

နဂါးသည် တိရစ္ဆာန်မျိုးတွင် ပါဝင်သောကြောင့် တိရစ္ဆာန် အကြောင်းကို ရေးသည့်အခါမှ နဂါးအကြောင်း အကျယ်ရေးသားပါမည်။

## နတ်ဘီလူးများ

နတ်ဘီလူးတို့မှာ ကုဝေရ ခေါ် ဝေဿဝဏ် နတ်မင်းကြီး၏ လက်အောက်ခံများ ဖြစ်ကြသည်။ ကုဝေရ နတ်မင်းကြီးသည် မြင်းမိုရ် တောင်၏ မြောက်ဘက်၊ အလယ်ချက်အာလိန္ဒ၌တည်သော နတ်မြို့တွင် နတ်ဘီလူးအပေါင်းကို အုပ်ချုပ်၍ မင်းလုပ်သည်။

ဘုံဗိမာန်ရှိ၍ ကိုယ်ရောင်ကိုယ်ဝါ ကျက်သရေမင်္ဂလာနှင့် ပြည့်စုံသည့် ဘီလူးတို့ကို နတ်ဘီလူးဟု ခေါ်သည်။ ကိုယ်ရောင်ကိုယ်ဝါ ကင်း၍ ကျက်သရေမဲ့၊ အရုပ်အဆင်း မလှ၊ ဆိုးဆိုးရွားရွား ဘီလူးတို့ကို ယက္ခဟု ခေါ်သည်။

မဟာသမယသုတ်၌ မြတ်စွာဘုရား ဟောကြားတော်မူထားသည့် ကပိလဝတ်နတ်မင်း၊ ဟေမဝတနတ်မင်း၊ သာတာဂိရနတ်မင်း၊ ဝေဿ မိတ္တနတ်မင်း၊ ကုမ္ဘီရနတ်မင်းကြီးတို့သည် တန်ခိုးကြီးသော နတ်ဘီလူးကြီး များ ဖြစ်ကြသည်။

သက္ကတိုင်း ကပိလဝတ်ပြည်၏ ပတ်ဝန်းကျင်ရှိ တောတောင်သစ်ပင်တို့မှာ ကပိလဝတ် နတ်ဘီလူးကြီးသည် နတ်ဘီလူး ခုနစ်ထောင် ခြံရံလျက် နေထိုင်သည်။

ထို့အတူ ဟေမဝတတောင်၌ ဟေမဝတ နတ်ဘီလူးကြီးသည် နတ်ဘီလူးပေါင်း ခြောက်ထောင်ခြံရံလျက် နေထိုင်၍ သာတာဂိရတောင်တွင် သာတာဂိရနတ်ဘီလူးကြီးသည် နတ်ဘီလူးပေါင်း သုံးထောင်ခြံရံလျက် နေထိုင်သည်။

ဝေသာမိတ္တတောင်၌ ဝေသာမိတ္တနတ်ဘီလူးကြီးသည် နတ်ဘီလူးပေါင်းငါးရာ ခြံရံ၍ လည်းကောင်း၊ ရာဇဂြိုဟ်ပြည်အနီး ဝေပုလ္လတောင်၌ ကုမ္ဘိရနတ်ဘီလူးကြီးသည် နတ်ဘီလူးတစ်သိန်းကျော် ခြံရံ၍ လည်းကောင်း နေထိုင်ကြသည်။

ထိုနတ်ဘီလူးတို့သည် ညို၊ ဝါ၊ ဖြူ၊ နီ စသည်ဖြင့် ကိုယ်ရောင်အဆင်း အမျိုးမျိုး ရှိကြသည်။ ဘုန်းတန်ခိုးကြီးကြ၏။ ကိုယ်ရောင်အဆင်း ထွန်းလင်းတောက်ပကြ၏။ ရှုချင်စဖွယ် တင့်တယ်သောအဆင်း ရှိကြ၏။

အကျယ် တင်ပြပြီးခဲ့သည့် အာဠဝက၊ ဟေမဝတ၊ သာတာဂိရ နတ်စစ်သူကြီးတို့မှာလည်း နတ်ဘီလူးကြီးများပင် ဖြစ်ကြသည်။

မဟာဗောဓိပင်အနီး ဂယာရွာ (ယခု ဗုဒ္ဓဂယာ) ကြီး၏ တံခါးဝတံမြက်ချေးစွန့်ရာအရပ်မှာနေကြသည့် သုစိလောမဘီလူးနှင့် ခရလောမဘီလူးတို့မှာ မြတ်စွာဘုရား၏တရားကို နာကြရ၍ သောတာပန်အရိယာအဖြစ်သို့ ရောက်ကာ ဘုမ္မစိုးနတ်တို့၏ စည်းစိမ်ကို ခံစားကြရသည်ဟု ကျမ်းဂန်၌လာ၏။

ဘီလူးအကြောင်းကား အလွန် ကျယ်ဝန်းပါသည်။ ဤနေရာ၌ ဗဟုသုတအဖြစ် ဇာတ်နိပါတ်တော်လာ ဘီလူးများအကြောင်း အနည်းငယ် တင်ပြပါမည်။

အပဏ္ဏကဇာတ်တွင် ရေမရှိသော ကန္တာရခရီး၌နေသော ဘီလူးတို့သည် ခရီးသည်တို့ကို လှည့်ပတ်ကာ ဖမ်းစားကြသည်။

သုသာန်၌ လူသေကောင်ကို လုနေသော ဘီလူးနှစ်ကောင်အား မဟာသီလဝမင်းကြီးက ခွဲဝေပေးရသည်ကို မဟာသီလဝဇာတ်၌ တွေ့ရ၏။





ပဋ္ဌာဝုဓဇာတ်တွင် တောအလယ်၌နေသော ကပ်စေးနှဲဘီလူးသည် တောထဲသို့ ဝင်လာသူတို့ကို ဖမ်းစားသည်ဟုဆိုသည်။

သီဟိုဠ်ကျွန်း(သီရိလင်္ကာ) သိရိသဝတ္ထုမြို့၌နေသော ဘီလူးတို့သည် ကျွန်းသို့လာသူတို့ကို ဖမ်း၍စားသည်ဟု ဝလာဟကဇာတ်၌လာ၏။

တေလပတ္တဇာတ်တွင် ဗာရာဏသီပြည်နှင့် တက္ကသိုလ်ပြည်အကြား တောအုပ်ကြီး၌နေသော ဘီလူးတို့သည် တောအုပ်သို့လာသူတို့ကို ဖမ်းစားကြသည်ဟုဆို၏။

ဗာရာဏသီမြို့တော် တံခါးပြင်ဘက်ရှိ ဇရပ်၌နေသောဘီလူးသည် ဇရပ်တွင်းသို့ဝင်သောသူတို့အနက် ချေသည့်အခါ "အသက်ရှည်စေသော်" ဟု ဆိုသူနှင့် တုံ့ပြန်၍ "အသက်ရှည်စေသော်" ဟုဆိုသော သူတို့မှတစ်ပါး အခြားသူတို့ကို စားစေဟု နတ်မင်းကြီးတို့ထံမှ အပိုင်စားရသဖြင့် ဇရပ်တွင်း ဝင်လာသူတို့ကို စိစစ်ပြီး စားသည်ဟု ဘဂ္ဂဝဇာတ်၌ လာရှိသည်။

ထို့ပြင် ဂုမ္ဗိယဇာတ်တွင် ဂုမ္ဗိယဘီလူးသည် ဗာရာဏသီပြည်အနီး တောလမ်းခရီး၌ အဆိပ်ထည့်ထားသော မုျားလမို့တို့ကို ကသိုလ်ပြုသည်ဟု ထင်မှတ်အောင် လှည့်ပတ်ထား၍ စားမိသဖြင့် သေသူတို့ကို စားသည်ဟုဆို၏။

ဗာရာဏသီပြည်အနီး ညောင်ပင်ကြီးတစ်ပင်၌နေသော မဃဒေဝိဘီလူးသည် ညောင်ပင်အောက်သို့ ဝင်လာသူတို့ကို စားသည်ဟု သုခနဇာတ်၌လာ၏။

ကာကဝလိယသူဌေးဝတ္ထုတွင် ရာဇဂြိုဟ်မြို့တံခါးအနီးရှိ ထန်းပင်နှစ်ပင်၌နေသော ဒီဃတာလဘီလူးသည် 'နေဝင်သည်မှ အရုဏ်တက်သည်အထိ မြို့တံခါးမှ ဝင်ထွက်သူတို့ကို စားစေ' ဟု ဘုရင်မင်းမြတ်ထံမှ အပိုင်စားရသဖြင့် မြို့တံခါးမှ ဝင်ထွက်သူတို့ကို စားသည်။

ဘီလူးစစ်များအပြင် လူစပ်ဘီလူးများလည်း ရှိကြသေး၏။ ပဒကုသလမာဏဝဇာတ်တွင် တောင်ခြေရင်းရှိ လိုဏ်ဂူတစ်ခု၌နေသော အဿမုခီ ဘီလူးမသည် တောအုပ်အတွင်းသို့ လာသူများကို ဖမ်းစားသတဲ့။ တစ်နေ့တွင် ပုဏ္ဏားလုလင်တစ်ယောက်ကို ဖမ်းမိရာ မစားဘဲ ခင်ပွန်းယောကျ်ားပြုထားရာ ပဒကုသလလုလင်ကို မွေးဖွားသည်။

ထိုပဒကုသလ လုလင်ကား လူယောကျာ်းနှင့် ဘီလူးမတို့စပ်သောကြောင့် လူစပ်ဘီလူး ဖြစ်၏။

မဟာဝင်ဝတ္ထု၌လည်း သီဟိုဠ်ကျွန်း (သီရိလင်္ကာ) တွင် ဝိဇယမင်းကြီးသည် ကုဝဏ္ဏမည်သော ဘီလူးမကို မိဖုရားမြှောက်ရာ ဇီဝဟတ္ထသားတော်နှင့် ဒီပေလ္လာသမီးတော်တို့ကို မွေးဖွားသည်။ ထို သားတော်၊ သမီးတော်တို့သည်လည်း လူယောကျာ်းနှင့် ဘီလူးမတို့ စပ်သောကြောင့် လူစပ်ဘီလူးများ ဖြစ်ကြသည်။

မြန်မာနိုင်ငံသမိုင်းတွင် အနော်ရထာမင်းလက်ထက်က သူရဲကောင်းများဖြစ်ကြသည့် ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ် ညီနောင်နှစ်ယောက်တို့သည်လည်း လူစပ်ဘီလူးများပင် ဖြစ်ကြသည်။

ထို့ပြင် ဗာဟိယဒါရုစီရိယ မထေရ်၊ ပဋ္ဋာသာတိမင်း၊ တမ္ဗဒါဌိကခိုးသူကြီးနှင့် သုပ္ပဗုဒ္ဓလူနုကြီးတို့ကို ရန်သူဖြစ်ခဲ့ဖူးသည့် ဘီလူးမက နွားမယောင်ဆောင်၍ ဝှေ့သတ်သည်ကိုလည်း တွေ့ရသေး၏။

ဓမ္မပဒလာ ဒါရုသာကဋိက (ထင်းခွေသားအဖ) ဝတ္ထုတွင် တစ်ချိန်တွင် ရာဇဂြိုဟ်မြို့ပြင်ရှိ ထင်းလှည်းအောက်တွင် ညအခါ တစ်ယောက်တည်း အိပ်ပျော်နေသည့် သူငယ်လေးထံသို့ မိစ္ဆာဒိဋ္ဌိဘီလူးနှင့် သမ္မာဒိဋ္ဌိဘီလူး နှစ်ယောက်တို့ ရောက်လာကြသည်ဟုဆိုရာ ဘီလူးများ၌လည်း အယူမှားသည့် မိစ္ဆာဒိဋ္ဌိဘီလူးနှင့် အယူမှန်သည့် သမ္မာဒိဋ္ဌိဘီလူးဟု ဘီလူးအမျိုးမျိုးရှိကြောင်း သိရသည်။

အထူးသဖြင့် ဘီလူးတို့သည် လူယောင်ဖန်ဆင်းနေသော်လည်း လူစင်စစ်နှင့်မတူ တစ်မူ ထူးခြားနေ၏။

ထူးခြားသည့်အရာတို့မှာ –

(၁) မျက်စိနီခြင်း၊

(၂) မျက်တောင်မခတ်ခြင်း၊

(၃) မျက်စိမမှိတ်ခြင်း၊

(၄) အရိပ်မထွက်ခြင်း၊

(၅) မကြောက်ရွံ့ခြင်း၊

(၆) မသနားတတ်ခြင်းတို့ ဖြစ်ပါသည်။





ယခု တင်ပြပြီးခဲ့သည့် ဂန္ဓဗ္ဗနတ်၊ ကုမ္ဘဏ်နတ်၊ နတ်နဂါး၊ နတ်ဘီလူးတို့သည် စတုမဟာရာဇ်နတ်မျိုးတွင် ပါဝင်သည့်နတ်များ ဖြစ်ကြပါသည်။

## ဘုမ္မဒေဝ ခေါ် ဘုမ္မစိုးနတ်များ

ပါဠိလို ဘုမ္မဒေဝ၊ ဘုမ္မဒေဝတာတို့ကို မြန်မာလို ဘုမ္မစိုးဟု ခေါ်သည်။ မြေကြီး၌ မှီနေသော၊ မြေကြီး၌ တည်နေသော နတ်များဟု အဓိပ္ပာယ်ရသည်။ မဂ္ဂစိုး ဆိုသကဲ့သို့ ဘုမ္မဒေဝကို ဘုမ္မစိုးဟု ဆိုခြင်း ဖြစ်၏။ ဘုမ္မဇိုဝ်းဟုလည်း ရေးကြ၏။

ဤအဓိပ္ပာယ်ဖြင့် မြေကြီးနှင့် ဆက်သွယ် တည်ရှိနေကြကန်သော သစ်ပင်ဗိမာန်၊ တောဗိမာန်၊ တောင်ဗိမာန်၊ မြို့၊ ရွာ၊ အိမ် စသည်တို့၌ နေကြသည့် သစ်ပင်စောင့်နတ်၊ တောင်စောင့်နတ်၊ မြို့စောင့်နတ်၊ ရွာစောင့်နတ်၊ အရံစောင့်နတ်၊ ကိုယ်စောင့်နတ် စသည်တို့ကို ဗလိနတ်စာပေး၍ ရှိရိုသေသေ လေးလေးမြတ်မြတ် ပူဇော်ရသောကြောင့် နတ်ဘီလူး (ယက္ခ) ဟူ၍လည်း ခေါ်ကြ၏။

ထို့ကြောင့် အကျယ်ဖော်ပြခဲ့ပြီးဖြစ်သော ဘုရားရှင် လက်ထက်တော်က ရှိခဲ့ကြသည့် အာဠဝကနတ်၊ ဟေမဝတနတ်၊ သာတာဂိရနတ်စသော တန်ခိုးကြီးနတ်တို့သည်လည်း ဘုမ္မစိုးနတ်ကြီးများပင် ဖြစ်ပါသည်။ ထိုဘုမ္မစိုးနတ်တို့သည် လူများကဲ့သို့ပင် တစ်ခါတစ်ရံ ချမ်းသာကြ၍ တစ်ခါတစ်ရံ ဆင်းရဲဒုက္ခရောက်ကြသည်ဟု မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ၌ ဖွင့်ဆိုထား၏။

ဘုမ္မစိုးနတ်တို့ကား စတုမဟာရာဇ် နတ်မျိုးနတ်နွယ်များပင်တည်း။ သို့ရာတွင် ထိုဘုမ္မစိုးနတ်တို့မှာ အထက်စတုမဟာရာဇ်နတ်ကြီးများကဲ့သို့ သက်တမ်းပိုင်းခြား သတ်မှတ်ချက် မရှိပေ။

အပါယ်ဘုံသားများကဲ့သို့ ကံသာ လိုရင်းပဓာန ဖြစ်ကြသည်။ အသက်ရှည်စေနိုင်သော ကုသိုလ်ကံ အားကောင်းသည့် နတ်များမှာ အသက်ရှည်ကြ၍ ကုသိုလ်ကံ အားနည်းသောနတ်များမှာ အသက်တိုကြသည်။

မှန်ပါသည်။ ထိုဘုမ္မစိုးနတ်များတွင် အချို့ နတ်တို့သည် ၇ ရက်၊ ၁၅ ရက်၊ ၁ လမျှသာ အသက်ရှည်ကြသော်လည်း အာဠာဝက၊ ဟေမဝတ၊ သာတာဂိရ၊ သုစိလောမ၊ ခရလောမ စသော ဘုမ္မစိုး နတ်ဘီလူးတို့မှာ အန္တရကပ် တစ်ကပ်လုံးပင် အသက်ရှည်ကြ၏။

အန္တရကပ် ဆိုသည်မှာ အသင်္ချေယျတမ်းမှ ဆယ်နှစ်တမ်းအထိ ဆုတ်ကပ်နှင့် ဆယ်နှစ်တမ်းမှ အသင်္ချေယျတမ်းအထိ တက်ကပ်တစ်စုံ ဖြစ်၏။

လူသားတို့သည် သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်အဖြစ်ဖြင့် အသက်ထက်ဆုံး တည်နိုင်ကြ၏။

သို့သော် ရဟန္တာဖြစ်သည်နှင့် တစ်ပြိုင်နက် ရဟန်းပြုကြရသည်။ ရဟန်းမပြုရပါက သန္တတိအမတ်ကြီး၊ သုဒ္ဓေါဒန မင်းကြီးတို့ကဲ့သို့ ပရိနိဗ္ဗာန် စံကြရသည်။

ဘုမ္မစိုးနတ်တို့မှာကား ဤသို့ မဟုတ်ပေ။ ရဟန္တာဖြစ်သွားသော်လည်း ဘုမ္မစိုးနတ်အဖြစ်ဖြင့် အသက်ထက်ဆုံး တည်နေနိုင်ကြပေသည်ဟု ကျမ်းဂန်များ၌ ပြဆိုကြ၏။

## ရုက္ခစိုးနတ်များ

ပါဠိလို ရုက္ခဒေဝ၊ ရုက္ခဒေဝတာတို့ကို မြန်မာလို ရုက္ခစိုးဟု ခေါ်သည်။ သစ်ပင်၌ မှီနေ၊ တည်နေသော နတ်များဟု အဓိပ္ပာယ်ရသည်။

ဤနတ်များသည် ဘုမ္မစိုးနတ်များပင်ဖြစ်ကြောင်း တင်ပြခဲ့ပြီး ဖြစ်ပါသည်။

နတ်တို့သည် သစ်ပင်၊ နွယ်ပင်၊ ချုံပင်၊ ဆေးဖက်ဝင် သစ်ပင်ငယ်ကလေးမှစပြီး သစ်ပင်ကြီးများအထိ သစ်ပင်များ၌ အထက်နတ်မင်းကြီးများ၏ အမိန့်အရ မှီခို နေထိုင်ကြသည်။

စိုက်ပင် ဖြစ်စေ၊ အလိုအလျောက်ပေါက်လာသည့် အပင် ဖြစ်စေ မြေမှာတည်ပြီး အညွန့်အရွက်စိမ်းစိမ်း ထွက်ချိန်မှစ၍ နတ်များ သိမ်းပိုက်ကာ မှီခိုနေထိုင်ကြသည်ဟု ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ စသော ကျမ်းဂန်များ၌ မိန့်ဆိုထား၏။





သစ်ပင်များတွင် နတ်တို့ မှီခိုနေထိုင်ကြသည့် ဗိမာန်များမှာ ပင်စည်၌ တည်ရှိသော ရုက္ခဋ္ဌဗိမာန်၊ အခက်၌ တည်ရှိသော သာခဋ္ဌဗိမာန်၊ အမြစ်၌တည်ရှိသော မူလဋ္ဌဗိမာန် ဟူ၍ သုံးမျိုးရှိ၏။

ထို့ကြောင့် အခက်ကျိုးရုံမျှဖြင့် အပင်ဗိမာန် မပျက်ပါ။ အပင်ခုတ်ရုံမျှဖြင့် အမြစ်ဗိမာန် မပျက်ပါ။ အမြစ်ကကို ဖျက်ဆီးပစ်လိုက်မှ အမြစ်ဗိမာန် ပျက်စီးသွားသည်။

ရုက္ခစိုးနတ်တို့သည် ရုက္ခဓမ္မ၌ တည်ရသည်။

ရုက္ခဓမ္မ ဆိုသည်မှာ သစ်ပင်ကို လူတို့ အလိုရှိတိုင်း ယူခြင်း၊ စားခြင်း၊ ခုတ်ခြင်း၊ ဖြတ်ခြင်း စသည်တို့ကို ပြုကြသည့်အခါ စိတ်မဆိုးရ၊ မနှစ်သက်ခြင်း မပြုရ၊ ဝမ်းမနည်းရခြင်းတို့ ဖြစ်၏။

အကယ်၍ ဤရုက္ခဓမ္မ၌ မတည်လျှင် မတည်သော ရုက္ခစိုးနတ်သည် ဟိမဝန္တာနတ်အစည်းအဝေးသို့ မဝင်ရဟု နတ်တို့စည်းမျဉ်းဥပဒေ ရှိကြောင်း အင်္ဂုတ္တိုရ်(ဆက္က) ပါဠိတော်၊ ပါစိတ်အဋ္ဌကထာ၊ ပါရာဇိကဏ် အဋ္ဌကထာတို့၌ ဟောကြားမိန့်ဆိုထား၏။

## ရုက္ခဓမ္မနှင့် ရုက္ခစိုးနတ်သမီး

ဘုရားရှင် သက်တော်ထင်ရှား ရှိတော်မူစဉ်က အာဠဝီပြည်သား ရဟန်းတော်များသည် ကျောင်းဆောက်လုပ်ခြင်း စသော အမှုကိစ္စသစ်အတွက် သစ်ပင်များကို ကိုယ်တိုင်လည်း ခုတ်ဖြတ်လေ့ ရှိကြ၏။ သူများကိုလည်း ဖြတ်ခိုင်းလေ့ ရှိကြ၏။

တစ်နေ့တွင် အာဠဝီပြည်သား ရဟန်းတစ်ပါးသည် ကျောင်းဆောက်လုပ်လိုသဖြင့် နှစ်သက်ဖွယ်ကောင်းသည့် သစ်ပင်တစ်ပင်ကို ကိုယ်တိုင် ခုတ်ဖြတ်နေသတဲ့။

ထိုအခါ သစ်ပင်စောင့် ရုက္ခစိုးနတ်သမီးသည် သားငယ်ကလေးကို ရင်ခွင်မှာ ပိုက်ချီကာ ရဟန်းတော်ရှေ့မှာ လာရပ်ပြီး –

"အရှင်ဘုရား၊ မိမိ ဗိမာန်ဆောက်လိုတဲ့အတွက် တပည့်တော်မရဲ့ ဗိမာန်ကို မဖျက်ဆီးပါနဲ့။ တပည့်တော်မဟာ သားကလေးတစ်ဖက်နဲ့ ဗိမာန်မရှိဘဲ ဟိုသွား၊ ဒီသွား မနေနိုင်ပါ"

ဟု လျှောက်ထား၏။

ရဟန်းတော်က တခြားနေရာမှာ ဤကဲ့သို့ ကောင်းမွန်သည့် သစ်ပင်မျိုး ရမှာမဟုတ် ဟူသောစိတ်ဖြင့် နတ်သမီးစကားကို နားမထောင်ဘဲ ဆက်လက် ခုတ်ဖြတ်၏။ နတ်သမီးသည် ကလေးကို မြင်လျှင်ရောင်ဖယ်ပြီး ခုတ်မှာပဲဟု စဉ်းစားကာ ကလေးငယ်ကို သစ်ကိုင်းပေါ်၌ ထားလိုက်၏။

မကြာမီပင် ရဟန်းတော် ဓွဲကိုင် ခုတ်ဖြတ်နေသော ပုဆိန်မှာ အရှိန်လွန်ပြီး နတ်သားကလေး၏ လက်မောင်းရင်းကို ဖြတ်မိသွား၏။

ထိုအခါ နတ်သမီးမှာ အလွန် စိတ်ဆိုးသွားပြီး –

"ငါ ဒီရဟန်းကို ဒီနေရာမှာပဲ သတ်ပစ်လိုက်ရရင် ကောင်းမှာပဲ"

ဟု ကြံစည်လိုက်၏။ ထို့နောက် –

'ဒီလို သီလရှိတဲ့ရဟန်းကို သတ်လိုက်ရင် ငါငရဲကျမှာ ဧကန်ပဲ။ သည့်ပြင် နတ်တွေကလည်း ငါ့ကို အတုလိုက်ပြီး ရဟန်းတွေကို သတ်ကြလိမ့်မယ်။ ပြီးတော့ ရက္ခစိုးနတ်တွေ လိုက်နာရမယ့် ရက္ခဓမ္မကလည်း ရှိသေးတယ်'

ဟု စဉ်းစားမိသွားပြီး

'ရဟန်းတို့အရှင် ဘုရားသခင်ထံ သွားလျှောက်ထားတာ အကောင်းဆုံးပဲ'

ဟု ဆုံးဖြတ်လိုက်၏။

ထိုဆုံးဖြတ်ချက်အတိုင်း ဘုရားရှင်ထံမှောက်သို့ အရောက်သွားပြီး ဘုရားရှင်အား ဖြစ်ကြောင်းကုန်စင် လျှောက်တင်၏။

မြတ်စွာဘုရားက –

"နတ်သမီး၊ သင် ရဟန်းတော်ကို မသတ်မိတာ အလွန် ကံကောင်းတယ်၊ ရဟန်းတော်ကို သတ်မိလိုက်ရင် သင့်မှာ အကုသိုလ်တွေ အများကြီး ဖြစ်သွားမယ်"

ဟု မိန့်တော်မူပြီး –

'ယော ဝေ ဥပ္ပတိတံ ကောဓံ' စသော ဂါထာကို ဟောကြားတော်မူပါသည်။





ဂါထာ၏အဓိပ္ပာယ်မှာ –

'ကျွမ်းကျင်သော ရထားထိန်းသည် အရှိန်အဟုန်ဖြင့် ပြေးဆွဲနေသော ရထားကို ထိန်းချုပ်၍ အလိုရှိသလို ရပ်တန့်ထားနိုင် သကဲ့သို့ အရှိန်ပြင်းစွာ ထွက်ပေါ်လာသည့် အမျက်ဒေါသကို တားဆီးထိန်းချုပ်ခြင်းငှာ စွမ်းနိုင်သူကိုသာ ရထားထိန်းဟု ငါဘုရားဆိုတော်မူ၏။ ဤကဲ့သို့ မချုပ်ကိုင်နိုင်သော ရထားမောင်းသူများကိုကား ဇက်ကြိုးကိုင်သူများဟု ဆိုသင့်၏'

ဟူ၍ ဖြစ်သည်။

ထိုတရားဒေသနာတော်အဆုံး၌ နတ်သမီးမှာ သောတာပန်ဖြစ်သွားသည်။ သောတာပန် ဖြစ်သွားသော်လည်း နတ်သမီးသည် နေရေးထိုင်ရေးကို တွေးတောကာ ငိုပြီး ရပ်နေ၏။

မြတ်စွာဘုရားက ငိုသည့်အကြောင်းကို မေးမြန်းသည့်အခါ –

"အခု တပည့်တော်မမှာ ဗိမာန် မရှိတော့ပါ။ တပည့်တော်မ ဘာလုပ်ရမလဲ ဘုရား"

ဟု နတ်သမီးက ပြန်လျှောက်ထား၏။

"နတ်သမီး ဘာမှ မစိုးရိမ်နဲ့။ သင်နေဖို့ ဗိမာန်ကို ငါ ဘုရားပေးမယ်" ဟု မိန့်တော်မူပြီး ဂန္ဓကုဋီကျောင်းတော်အနီးရှိ သစ်ပင်ကြီးတစ်ပင်ကို ညွှန်ပြကာ –

"ဟောဟိုနေရာက သစ်ပင်မှာ ရက္ခစိုးနတ် မရှိဘူး။ အဲဒီသစ်ပင်မှာ နေထိုင်တော့" ဟု မိန့်တော်မူ၏။

ထိုအချိန်မှစ၍ နတ်သမီးနေသောဗိမာန်ကား မြတ်စွာဘုရားပေးသနားတော်မူသည့်ဗိမာန် ဖြစ်သောကြောင့် တန်ခိုးကြီးနတ်များပင် လာရောက်ပြီး တုန်လှုပ်ခြင်းငှာ မတတ်နိုင်ကြပေ။

ထိုအချိန်မှစ၍ ရက္ခစိုးနတ်သမီးသည် ဘုရားရှင်၏ အလုပ်အကျွေးဖြစ်သွား၏။ တန်ခိုးကြီးနတ်များ ဘုရားရှင်ထံ တရားနာလာကြသည့်အခါ အခြား တန်ခိုးငယ်သောနတ်များ မဟာသမုဒ္ဒရာ၊ စကြဝဠာတံတိုင်းအထိ နောက်ဆုတ်ပေးကြရသော်လည်း ထိုရက္ခစိုးနတ်သမီးမှာမူ ဆုတ်မပေးရဘဲ မိမိနေရာ ဗိမာန်ကပင် ထိုင်၍ တရားနာနိုင်၏။

ည၌၏ ပထမယံမှာ ရဟန်းများက မသိသည့် အရာများကို မေးမြန်းသည့်အခါ၊ မဇ္ဈိမယံတွင် နတ်များက မေးမြန်းလျှောက်ကြသည့် အခါများမှာလည်း နတ်သမီးသည် မိမိနေရာ ဘုံဗိမာန်မှာပင် ထိုင်၍ တရားနာနိုင်၏။

စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့သည် မြတ်စွာဘုရားထံ ဆည်းကပ်ရန် လာကြသည့်အခါမှာလည်း ထို ရုက္ခစိုး နတ်သမီးကို နှုတ်ဆက်ပြီးမှ သွားကြရသည်။

ဤအကြောင်းအရာ အတ္ထုပ္ပတ္တိကို အကြောင်းပြုပြီး မြတ်စွာဘုရားက -

"ငါ၏ တပည့်သား ရဟန်းတော်များသည် စိမ်းလန်းရှင်သန်နေသော မြက်ပင်၊ သစ်ပင် စသည်တို့ကို မခုတ်ဖြတ်၊ မဖျက်ဆီးရ။ ခုတ်ဖြတ်ဖျက်ဆီးလျှင် ပါစိတ်အာပတ်သင့်စေ"

ဟု သိက္ခာပုဒ် ပညတ်တော်မူသည်။

ဤအကြောင်းအရာကို ဖတ်ရှုရသောအားဖြင့် မြတ်စွာဘုရားသက်တော်ထင်ရှားရှိစဉ်က ရဟန်းတော်များသည် မိမိတို့ နေထိုင်သီတင်းသုံးရန် ကျောင်းကန် ဗိမာန် စသည်တို့ကို မိမိတို့ကိုယ်တိုင် ဆောက်လုပ်ကြရသည်ဟုလည်း သိရသည်။

ရုက္ခစိုးနတ်သမီး၌ သားငယ်လေးရှိသည်ကို ထောက်ရှု၍ ဘုမ္မစိုးနတ်သည် -

'ဘုမ္မစိုးပယ်၊ ကြွင်းဝယ်များစွာ၊ နတ်တကာနှင့်၊ နိရ္မှ တဏှက၊ နိရယတို့၊ နေကြလေရာ ယောနိမှာ၊ တစ်ခုသာမှတ်၊ ဥပပတ်'

ဆိုသည်နှင့် အညီ အခြား နတ်များကဲ့သို့ တစ်စုံတစ်ရာ စွဲရာမှီရာမရှိဘဲ ကိုယ်အထင်အရှား ပေါ်လာခြင်းဆိုသည့် ဥပပတ်ပဋိသန္ဓေ တစ်ခုဖြင့်သာ ပဋိသန္ဓေနေပြီး ဖြစ်ပေါ်လာကြသည် မဟုတ်။ အမိဝမ်း၌ ပဋိသန္ဓေနေ၍လည်း ဖြစ်ပေါ်လာသည့် နတ်မျိုး ဖြစ်သည်ဟုလည်း သိရသည်။

ဘုမ္မစိုးနတ်များမှာ တိဟိတ်ပုထုဇဉ်နတ်မျိုး၌ အကြောင်းသင့်ပါက ပါရမီ အားလျော်စွာ သောတာပန် စသော အရိယာအဆင့်သို့





ရောက်နိုင်ကြသည်ဟုလည်း သိရသည်။ သောတာပန်အရိယာ ဖြစ်သွားသော်လည်း ဒေါသ၊ သောက စသော အကုသိုလ်တို့ကို အကြွင်းမဲ့ မပယ်နိုင်သောကြောင့် အနိဋ္ဌာရုံနှင့် တွေ့ကြုံရသည့်အခါ ငိုကြွေး မြည်တမ်းကြသေးသည်ဟုလည်း သိရပေသည်။

## ရုက္ခဓမ္မဇာတ်လာ ရုက္ခစိုးနတ်များ

ဗာရာဏသီပြည်ကို ဗြဟ္မဒတ်မင်း အုပ်စိုးစဉ်အခါက တည်ရှိဆဲဖြစ်သော ဝေဿဝဏ်နတ်မင်းကြီး နတ်သက်ကြွေ၍ စုတေသွားရာ ထိုဝေဿဝဏ် နတ်မင်းကြီး၏နေရာ လစ်လပ်သွား၏။ ထိုအခါ သိကြားမင်းသည် အခြားနတ်သားတစ်ဦးအား ထိုဝေဿဝဏ်နတ်မင်းကြီး ရာထူး၌ ခန့်ထားလိုက်၏။

ဝေဿဝဏ်နတ်မင်းကြီးအသစ်က -

'သစ်ပင်ကြီးငယ် ချုံနွယ်ပိတ်ပေါင်း စသည်တို့တွင် မိမိတို့နှစ်သက်ရာဌာန၌ ဘုံဗိမာန်အဖြစ် အသုံးပြုနေနိုင်ကြောင်း' အမိန့်သစ်ထုတ်လိုက်၏။

ထိုအခါ ဘုရားလောင်းသည် ဟိမဝန္တာရှိ အင်ကြင်းတောတစ်တောဝယ် ရုက္ခစိုးနတ် ဖြစ်ပါသည်။

ဘုရားလောင်း ရုက္ခစိုးနတ်က မိမိ၏ ဆွေမျိုးနတ်များကို ဗိမာန်ယူလျှင် မိမိဗိမာန်ကို ရံ၍နေသည့် ဗိမာန်ကိုသာယူရန်၊ လွင်ပြင်၌ အထီးတည်း ပေါက်ရောက်သည့်သစ်ပင်ကို မယူကြရန် တိုက်တွန်း၏။

ပညာရှိနတ်များသည် ဘုရားလောင်းစကားအတိုင်း လိုက်နာကြသော်လည်း ပညာမဲ့နတ်များက လူများထံမှရရှိမည့်လာဘ်ကို မျှော်ကိုးကာ လူများနှင့်နီးကပ်စွာတည်ရှိသည့် လွင်ပြင်ရှိသစ်ပင်များကို ယူကြလေသည်။

တစ်နေ့တွင် မိုးသက်လေပြင်းကြီးမားစွာ တိုက်ခတ်ရွာသွန်းရာလေအဟုန် ပြင်းထန်လှသောကြောင့် လွင်ပြင်အရပ်မှာ ရှိကြသည့် တောစိုးသစ်ပင်ကြီးများမှစ၍ သစ်ပင်အားလုံး အမြစ်ပါကျွတ်ပြီး လဲပြိုသွားကြသည်။ အကိုင်းချင်းယှက်၍ တည်ရှိနေကြသည့် အင်ကြင်းတောရှိ သစ်ပင်တို့မှာမူ လေပြင်းမုန်တိုင်းဒဏ်ကိုခံနိုင်၍ ပကတိအတိုင်းတည်ရှိကြသည်။

ဗိမာန်များပျက်စီးသွားသော နတ်တို့သည် ကိုးကွယ်ရာမဲ့ ဖြစ်ကြ ကုန်လျက် သားငယ်၊ သမီးငယ်တို့ကို လက်ဆွဲကြပြီး ဟိမဝန္တာသို့ သွားရောက်၍ မိမိတို့၏ ကိုးကွယ်ရာမဲ့ဖြစ်ပုံကို အင်ကြင်းတောနေ မိတ်ဆွေ နတ်တို့အား ပြောကြားကြ၏။ အင်ကြင်းတောနေနတ်များက ထိုနတ်များ အကြောင်းကို ဘုရားလောင်းထံ သတင်းပို့ကြသည်။

ဘုရားလောင်းနတ်က –

"ပညာရှိစကားကို မနာယူပါက ဤသို့ ဆင်းရဲဒုက္ခရောက်ကြရ သည်မှာ ဓမ္မတာပ" ဟု မိန့်ကြားပြီး –

"သာဓု သမ္ဗဟုလာ ဉာတီ" စသည့် ဂါထာကို မိန့်ဆိုတော်မူ၏။

ဂါထာ၏အဓိပ္ပာယ်မှာ –

"ဆွေမျိုးများမှု ကောင်း၏။ တော၌ပေါက်ရောက်သည့် သစ်ပင် ထီးတည်း တည်နေလျှင် ကြီးမားသည့် တောစိုးသစ်ပင် ဖြစ်သော်လည်း လေသည် တိုက်လှဲနိုင်၏"

ဟု ဖြစ်သည်။

ဤဇာတ်ဝတ္ထုအရ ဝေဿဝဏ်စသော နတ်မင်းကြီးလေးပါးတို့ အပြောင်းအလဲရှိကြောင်း သိရသည်။

ရုက္ခစိုးနတ်များတွင်လည်း ပညာရှိနတ်များ၊ ပညာမဲ့ပြီး လာဘ် လာဘ မက်မောသည့် နတ်များရှိကြောင်း သိရသည်။

တစ်ယောက်တည်းမနေဘဲ အများနှင့်ပေါင်းသင်းနေမှ ဘေးကင်း ကြောင်း၊ ပညာရှိစကားကို နားမထောင်က ဆင်းရဲဒုက္ခ ရောက်တတ် ကြောင်း မှတ်သားနိုင်ပါသည်။

## မေတ္တသုတ်လာ ရုက္ခစိုးနတ်များ

မြတ်စွာဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ်က ဝါကပ်ရန် နီးလာသည့်အခါ အရပ်ရပ်မှ ရဟန်းတော်တို့သည် ဘုရားရှင်ထံမှောက်သို့ လာရောက်ကြကာ ကမ္မဋ္ဌာန်းတောင်းယူကြသည်။ ကမ္မဋ္ဌာန်းရယူပြီးသည့် အခါ သပ္ပာယဖြစ်သည့် ထိုထိုအရပ်သို့ ကြွရောက်ဝါကပ်၍ တရားအား ထုတ်ကြ၏။





တစ်ချိန်က ရဟန်းငါးရာတို့သည် ဘုရားရှင်ထံ၌ ကမ္မဋ္ဌာန်း ယူကြပြီး ဟိမဝန္တာနှင့် တစ်စပ်တည်း တည်နေသော တောင်ကုန်းတော အုပ်တစ်ခုသို့ဝင်ကာ သစ်ပင်ရင်းများ၌ တစ်ည သီတင်းသုံးကြ၏။

နံနက်အခါ၌ အနီးရှိ ရွာကြီးသို့ ဆွမ်းခံဝင်ကြ၏။ ဤရွာကား အိမ်ခြေတစ်ထောင်ရှိ၍ စေတနာ သဒ္ဓါတရား ထက်သန်သူတို့ နေထိုင် သည့်ရွာ ဖြစ်သည်။

ရွာသူရွာသားများက များစွာသောရဟန်းတော်များကို ဖူးမြင်ရ သည့်အခါ ဝမ်းပန်းတသာ စေတနာ သဒ္ဓါတရား ထက်သန်စွာဖြင့် ဆွမ်း ဘောဇဉ်များကို ဆက်ကပ်လှူဒါန်းကြသည်။

ထို့နောက် –

"အရှင်မြတ်များ ဘုရား၊ ဘုရားတပည့်တော်များ အရပ်မှာပင် ဝါကပ်တော်မူကြပါ။ ဝါကပ်တော်မူကြပါက အရှင်ဘုရားများလည်း ပစ္စည်းလေးပါး၌ မငြိုငြင်မပင်ပန်းဘဲ ရဟန်းတရားကိုလည်း အားထုတ် နိုင်ကြပါမည်။ တပည့်တော်တို့မှာလည်း ကောင်းမှုကုသိုလ်တရားများ ပွားများနိုင်ကြပါမည်" ဟု ရဟန်းတော်များကို လျှောက်ထားကြ၏။

ရဟန်းတော်များက ခွင့်ပြုကြသဖြင့် ကျောင်းငယ်ပေါင်း ၅၀၀ နှင့် ညောင်စောင်းအင်းပျဉ်စသော ကျောင်းအသုံးအဆောင်များကို လှူဒါန်း ကြ၏။

ရဟန်းတော်များသည် တောအုပ်သို့ဝင်၍ သစ်ပင်ရင်းများတွင် ညဥ့်သုံးယံပတ်လုံး ရဟန်းတရားကို ပွားများအားထုတ်ကြ၏။ ရဟန်းတော် တို့၏ သီလတန်ခိုးကြောင့် တောအုပ်အတွင်းရှိ ရုက္ခစိုးနတ်တို့သည် သစ်ပင်ထက်၌ မနေဝံ့ကြသဖြင့် ကလေးငယ်များကို လက်ဆွဲကာ သစ်ပင် တို့မှ ဆင်းသက်ကြပြီး လှည့်လည်နေကြရ၏။

ရဟန်းတော်များ ပြန်မည့်နေ့ကို စောင့်မျှော်နေကြရာ နောက်ဆုံး ထိုအရပ်မှာပင် ဝါကပ်ကြမည်ကို သိရသောအခါ ရဟန်းတော်များ မနေ နိုင်အောင် ညဥ့်အခါ ကြောက်မက်ဖွယ် အဆင်းအသံများပြကာ ခြောက် လှန့်ကြတော့သည်။ ထိုအခါ ရဟန်းတော်များမှာ စိတ်နှလုံး တုန်လှုပ် ချောက်ချား သမာဓိပျက်ပြားကာ ရောဂါအမျိုးမျိုး ရကြသည်။

ထိုအကြောင်းကို သံဃနာယကမဟာထေရ်ကြီးသိ၍ မထေရ်ကြီး၏ အစီအရင်အရ သာဝတ္ထိပြည်သို့သွားကာ ဘုရားရှင်ထံ လျှောက်ထားကြ၏။ မြတ်စွာဘုရားသည် ဤရဟန်းများအဖို့ ထိုနေရပ်အရပ်မှလွဲ၍ သပ္ပာယဖြစ်မည့် အခြားအရပ် မရှိသည်ကို မြင်တော်မူ၍ ထိုအရပ်သို့ပင် ပြန်လည် နေထိုင်ကြရန် မိန့်တော်မူပြီးလျှင် 'မေတ္တာသုတ်' ကို ကမ္မဋ္ဌာန်းအလို့ငှာ လည်းကောင်း၊ အကာအကွယ် အရံအတားအလို့ငှာ လည်းကောင်း သင်ကြားပေးအပ်တော်မူလိုက်၏။

ရဟန်းတော်များလည်း ပြန်လာကြပြီးလျှင် ဘုရားရှင် သင်ပေးညွှန်ကြားလိုက်သည့်အတိုင်း မေတ္တာသုတ်ကို ရွတ်ဆိုလျက် မေတ္တာဘာဝနာကို ပွားများကြရာ ယခင်က ခြောက်လှန့်ခဲ့သော နတ်များမှာ ရဟန်းတော်များကို ကြည်ညိုမြတ်နိုးလာကြပြီး ကျောင်းကို တံမြက်လှည်းပေးခြင်း၊ ရေနွေးအိုးတည်ပေးခြင်း၊ ခြေဆုပ်လက်နယ်ပြုခြင်း စသောအားဖြင့် ဝတ်ကြီးဝတ်ငယ် ပြုကြ၏။ ဘေးရန် မဖြစ်အောင်လည်း ကာကွယ်စောင့်ရှောက်ကြ၏။

ထိုရဟန်းတော်များလည်း မေတ္တာဘာဝနာပွား၍ မေတ္တာသုတ်ကို အခြေခံကာ ဝိပဿနာတရား အားထုတ်ခြင်းဖြင့် ဝါတွင်းမှာပင် ရဟန်းငါးရာလုံး ကိလေသာကုန်ခန်း ရဟန္တာအဖြစ်သို့ ရောက်သွားကြပါသည်။

ထိုမေတ္တာသုတ်အဖွင့်အရ အကျင့်သီလနှင့် ပြည့်စုံသူများ သစ်ပင်အောက်တွင် နေပါက သစ်ပင်စောင့် ရုက္ခစိုးနတ်များ သစ်ပင်ထက်ရှိဗိမာန်တွင် မနေနိုင်ကြောင်း သိရသည်။

မေတ္တာသုတ်၏ အစွမ်းသတ္တိကြောင့် မူလက မုန်းနေသော ရုက္ခစိုးနတ်များ ကြည်ညို မြတ်နိုးလာကြသည်ကိုလည်း သိရ၏။

ရုက္ခစိုး စသော နတ်များ မေတ္တာပို့သမှုကို နှစ်သက်ကြသည့်သဘောကိုလည်း မှတ်သားရသည်။ မေတ္တာသုတ်တော်၏ အစွမ်းသတ္တိထက်ကြောင်းကိုလည်း သိရသည်။

□



# ကိုယ်စောင့်နတ် တကယ်ရှိသလား

ကိုယ်စောင့်နတ်ကား ဘုမ္မစိုးနတ်မျိုးတွင် ပါဝင်သည့်နတ်ဖြစ်ကြောင်း ဖော်ပြခဲ့ပြီး ဖြစ်သည်။

ဘုမ္မစိုးနတ်အုပ်စုတွင် ပါဝင်ကြသည့် သစ်ပင်စောင့်နတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ မြို့စောင့်နတ်၊ ရွာစောင့်နတ်၊ အိမ်စောင့်နတ်၊ အရံစောင့်နတ်တို့ကား လူသိများကြ၍ ထိုနတ်များအကြောင်းကို မေးလေ့မေးထ မရှိကြ။

ကိုယ်စောင့်နတ်ကိုမူ –

"ကိုယ်စောင့်နတ်ဆိုတာ တကယ်ရှိလား။ ရှိလျှင် ကိုယ်စောင့်နတ် ဘယ်နပါးရှိသလဲ"

စသည်ဖြင့် မကြာခဏ မေးလေ့ရှိကြ၏။

အချို့ ပုဂ္ဂိုလ်များကတော့ –

"ကိုယ်စောင့်နတ်ဆိုတာ တကယ် သီးခြားသက်သက် မရှိပါဘူး။ မိမိ ခန္ဓာကိုယ်သည်ပင် ကိုယ်စောင့်နတ်ဖြစ်တယ်" ဟု ယူဆကြ၏။

ထို့ကြောင့် ကိုယ်စောင့်နတ်အကြောင်းကို ဗုဒ္ဓကျမ်းဂန်များလာသည့်အတိုင်း ရှင်းလင်းပြပါမည်။

ယခု မြန်မာနိုင်ငံတွင် လူအများစု သက်ဝင်ယုံကြည်ကိုးကွယ်နေကြသည့် ဗုဒ္ဓဘာသာကား ထေရဝါဒဗုဒ္ဓဘာသာ ဖြစ်သည်။ ထေရဝါဒဗုဒ္ဓဘာသာတွင် ဗုဒ္ဓဘာသာဝင်တို့ လိုက်နာကျင့်သုံးရန် ဆုံးမလမ်းညွှန်ထားသည့် ပိဋကတော်များ အပြည့်အစုံရှိ၏။

ထိုပိဋကကျမ်းစာများမှာ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ဟူ၍ သုံးမျိုးသုံးစားရှိ၏။ ထိုကျမ်းစာများကို ဆဋ္ဌသံဂါယနာတင်သည်အထိ သံဂါယနာတင်ခဲ့ပြီး ဖြစ်၏။

ထို့ကြောင့် မြန်မာ ဗုဒ္ဓဘာသာဝင်များမှာ ဘာသာရေးတွင် ထိုကျမ်းစာများကို အလေးအမြတ်ထား၍ ထိုကျမ်းစာများ၏ အဆိုအမိန့်အတိုင်း လိုက်နာကျင့်သုံးကြရ၏။ ထိုပိဋကများမှာ ပါနေပါလျက် လက်မခံဘဲ မိမိ အလိုဆန္ဒ အယူအဆ (အတ္တနောမတိ) ကို ရှေ့တန်းတင်ခြင်းကား ထေရဝါဒ ဗုဒ္ဓဘာသာဝင်တို့ အစဉ်အလာမဟုတ်သဖြင့် လက်ခံရန် ခဲယဉ်းပေသည်။

## အဋ္ဌကထာကျမ်းများလာ ကိုယ်စောင့်နတ်များ

ထေရဝါဒပိဋကတော်များတွင် ပါဠိတော်များ၌ ကိုယ်စောင့်နတ်အကြောင်းကို မတွေ့ရပါချေ။ အဋ္ဌကထာကျမ်းများ၌ကား ကိုယ်စောင့်နတ်များ ရှိကြောင်းကို များစွာပင် ဖွင့်ဆိုထားကြပါသည်။

ခုဒ္ဒကပါဌ အဋ္ဌကထာ၊ သုတ္တနိပါတ အဋ္ဌကထာ(ဒု)တို့၌ –

'လူတို့၏ အလိုသို့ လိုက်၍ ကိုယ်စောင့်နတ်များကလည်း ကြံစည်တတ်ကြကြောင်း၊ ကဲ့ရဲ့တတ်ကြကြောင်း' ကို မနုဿာနံ အာရက္ခဒေဝတာ (လူတို့၏ ကိုယ်စောင့်နတ်များ) ဟု တိုက်ရိုက်ဖွင့်ဆိုထားသည်။

ပါရာဇိကကဏ်အဋ္ဌကထာ သုဒိန္နကဏ္ဍအဖွင့်မှာလည်း –

'မကောင်းမှုကို ပြုသောသူသည် မကောင်းမှု ပြုလုပ်သည့်အကြောင်းကို အခြားလူ အားလုံးထက် မိမိကိုယ်တိုင် ရှေးဦးစွာ သိ၏။ ထို့နောက် မိမိကိုယ်ကိုစောင့်သော ကိုယ်စောင့်နတ် (အာရက္ခ ဒေဝတာ) သိ၏။ ပြီးမှ သူတစ်ပါးစိတ်ကို သိနိုင်သောနတ်များ သိကြ၏'

ဟု ဖွင့်ဆိုထား၏။

သုတ်မဟာဝါ အဋ္ဌကထာ၊ မဟာပဒါနသုတ်အဖွင့်၌မူ –

'အကြင်အခါ မင်းတို့သည် တရားမစောင့်ကုန်။ ထိုအခါ အိမ်ရှေ့မင်း၊ အမတ်၊ စစ်သူကြီး၊ သူဌေး သူကြွယ် အလုံးစုံသော မြို့သူ၊ တိုင်းသူတို့ တရားမစောင့်ကြကုန်၏။





ထိုအခါ ထိုသူတို့ကို စောင့်ကုန်သော ကိုယ်စောင့်နတ်တို့သည် (တေသံ အာရက္ခဒေဝတာ) တရား မစောင့်ကြကုန်။

ထိုနတ်တို့၏ အဆွေခင်ပွန်းဖြစ်ကြသော မြေ၌တည်သောနတ်၊ ကောင်းကင်၌တည်သောနတ်၊ ဥဏှဝလာဟကနတ်၊ အဗ္ဘဝလာဟကနတ်၊ သီတဝလာဟကနတ်၊ ဝဿဝလာဟကနတ်၊ စတုမဟာရာဇ်နတ်တို့မှစ၍ နတ်ပြည်ခြောက်ထပ်၊ အထက်ဘဝဂ်တိုင်အောင် အရိယာပုဂ္ဂိုလ်တို့ကို ချန်ထား၍ အလုံးစုံသော ဗြဟ္မာတို့သည် တရားမစောင့်ကြသည် သာလျှင် ဖြစ်ကုန်၏'

ဟု ကိုယ်စောင့်နတ်ရှိကြောင်း မိန့်ဆိုထား၏။

ဓမ္မပဒအဋ္ဌကထာ ကောသမ္ဗိကရဟန်းများဝတ္ထု၌ ကောသမ္ဗီပြည် ဃောသိတာရုံ ကျောင်းတိုက်၌ သီတင်းသုံးကြသည့် ဝိနည်းမိုရ်ရဟန်းနှင့် ဓမ္မကထိကရဟန်း နှစ်ပါးတို့သည် တစ်ခုသောဝိနည်းအရာနှင့် ပတ်သက်၍ အငြင်းအခုံ ဖြစ်ပွားကြသတဲ့။

ထိုအခါ ထိုရဟန်းတို့၏အလုပ်အကျွေး ဒါယကာတို့သည်လည်း နှစ်အုပ်စု ကွဲသွားကြ၏။ ဩဝါဒခံ ဘိက္ခုနီမတို့သည် လည်းကောင်း၊ ကိုယ်စောင့်နတ်တို့သည်လည်းကောင်း (အာရက္ခဒေဝတာပိ)၊ ထိုနတ်တို့၏ အဆွေခင်ပွန်း ဖြစ်ကြသော စတုမဟာရာဇ်နတ်မှစပြီး အထက်ဗြဟ္မာများတို့သည် လည်းကောင်း အုပ်စုကွဲသွားကြသည်ဟု မိန့်ဆိုထား၏။

ထို့အတူ လူတို့စိတ်ဝမ်းကွဲကြောင်းကို သုတ်ပါထေယျ အဋ္ဌကထာ၊ ဥပရိပဏ္ဏာသအဋ္ဌကထာ၊ ပဋိသမ္ဘိဒါမဂ္ဂအဋ္ဌကထာ၊ စူဠဝဂ္ဂါဒီ အဋ္ဌကထာ စသော အဋ္ဌကထာများ၌ ကိုယ်စောင့်နတ်ရှိကြောင်း ဖွင့်ဆိုထားကြသည်ကို တွေ့ရှိရပေသည်။

## ဇာတ်နိပါတ်တော်လာ ကိုယ်စောင့်နတ်များ

စတုက္ကနိပါတ် ဇူဠကာလိင်္ဂဇာတက၌လည်း ကာလိင်္ဂမင်းနှင့် အဿကမင်းတို့ စစ်ပြိုင်ကြသောအခါ ကာလိင်္ဂမင်း၏ ကိုယ်စောင့်နတ်သည် တစ်ကိုယ်လုံး ဖြူသော နွားလားဥသဘအယောင်၊ အဿကမင်း၏ ကိုယ်စောင့်နတ်သည် တစ်ကိုယ်လုံးမည်းသော နွားလားဥသဘအယောင်

ဆောင်ကြ၍ နွားနှစ်ကောင်တို့ ဖေ့ကြသည်။ နွားနှစ်ကောင်တို့ ဖေ့နေကြသည်ကို အခြားလူများ မမြင်ကြ၊ မင်းနှစ်ပါးသာ တွေ့မြင်ကြရ၏။

ထိုအခါ နန္ဒသေနအမတ် နည်းပေးလမ်းညွှန်သည့်အတိုင်း အသကမင်း၏ သူရဲတစ်ထောင်တို့က ကာလိင်္ဂမင်း၏ ကိုယ်စောင့်နတ်ဖြစ်သော နွားလားဥသဘကို လက်နက်ဖြင့် အချက်ကျ ထိုးနက်ကြရာ ကာလိင်္ဂမင်း၏ ကိုယ်စောင့်နတ် သေဆုံးသွား၏။ ကိုယ်စောင့်နတ် သေဆုံးလျှင် ကာလိင်္ဂမင်း ထိတ်လန့်၍ စစ်ရှုံးသွား၏ဟု ဖွင့်ဆိုထားသည်ကို ထောက်ရှုပါက ကိုယ်စောင့်နတ်ရှိကြောင်း ထင်ရှားသိသာ၏။

ထို့ပြင် အသီတိနိပါတ် မဟာကုဏာလဇာတ်၌လည်း ဗြဟ္မဒတ်မင်းသည် ကောသလမင်းကိုသတ်၍ တိုင်းပြည်ကို သိမ်းယူကာ ကိုယ်ဝန်ရှိသော ကောသလမင်း၏ မိဖုရားကြီးကို ဗာရာဏသီသို့ခေါ်ဆောင်ပြီး မိဖုရားမြှောက်၏။ မိဖုရားကြီးသည် အချိန်တန်သော် ရွှေအဆင်းရှိသော သားငယ်ကို ဖွား၏။

နတ်ရွာစံသွားသော ကောသလမင်းသည် ထိုသားငယ်၌ ကိုယ်စောင့်နတ် ဖြစ်၏။

ထိုသားငယ် တစ်ဆယ့်ခြောက်နှစ်မြောက် ရောက်သည့်အခါ ကုရုင်္ဂဒေဝီမည်သော ဘုရင့်သမီးတော်နှင့် ယှဉ်ပါးသည်ကို ဗြဟ္မဒတ်မင်းကြီးသိ၍ သတ်မည်ပြုရာ အဖဖြစ်သော ကိုယ်စောင့်နတ်သည် မင်းသားကို စောင့်ရှောက်၍ ချမ်းသာရာ ရသွားဖူး၏ဟု လာရှိပေသည်။

မဟာနိပါတ် ဝိဓုရဇာတ်တော်ကြီး၌လည်း ဓနဥ္စယကောရဗျမင်း၌ သုံးခုမြောက်သောဘဝက အမိဖြစ်ခဲ့ဖူးသော မိမိကိုယ်ကိုစောင့်သော နတ်သမီးသည် ရှိ၏။

ထိုနတ်သမီး၏ တန်ခိုးဖြင့် အန်ကစားတိုင်း နိုင်မြဲ ဖြစ်၏။ ထိုနတ်သမီးသည် မင်း၏အနီး၌သာ တည်၏။

မင်းကြီးသည် ပုဏ္ဏက နတ်စစ်သူကြီးနှင့် အန်ကစားကြသည့်အခါ မင်းကြီး ကောင်းကင်သို့ပစ်တင်လိုက်သည့် အန်ရှဲတို့သည် ပုဏ္ဏက၏ အာနုဘော်ဖြင့် မင်းကြီး ရှုံးနိမ့်သော အခြင်းအရာဖြင့် ကျလာသော်လည်း ထိုအန်ရှဲတို့ကို ငွေအင်ပျဉ်ပေါ်သို့ မကျမီ မင်းကြီး အကြိမ်ကြိမ် ဖမ်းမိ၏။





ထိုအခါ ပုဏ္ဏကသည် ကျလာသည့်အန်ရှဲကို မင်းကြီး ဖမ်းမိသည်မှာ အကြောင်းရှိရမည်ဟု စဉ်းစားပြီး ကြည့်လိုက်သည့်အခါ မင်း၏ ကိုယ်စောင့်နတ်သမီး၏ အစွမ်းသတ္တိ ဖြစ်သည်ကို သိသွား၏။

ထိုအခါ မျက်စိကိုဖွင့်၍ အမျက်ထွက်ယောင်ပြုကာ နတ်သမီးကို မျက်စောင်းထိုးလိုက်၏။ နတ်သမီးလည်း ကြောက်လန့်တကြား ပြေး၍ စကြဝဠာတောင်ထိပ်သို့ရောက်လျှင် တုန်လှုပ်ချောက်ချားစွာ မျှော်ကြည့်နေ၏ဟု ဖွင့်ဆိုထား၏။

ဤဇာတ်နိပါတ်တော်လာ အကြောင်းအရာတို့ကို ထောက်ရှုပါက လူအများမှာ ကိုယ်စောင့်နတ် ရှိသည့်အပြင် ထိုကိုယ်စောင့်နတ်များက အခါအားလျော်စွာ စောင့်ရှောက်ကြည့်ရှုတတ်ကြောင်း သိနိုင်ပေသည်။

ဤသို့ ကျမ်းဂန်များ၌ ကိုယ်စောင့်နတ်များရှိကြောင်း ဖွင့်ဆိုထားချက်ကို သိရှိတော်မူကြသောကြောင့် စာတတ်အကျော် အရှင်မဟာသီလဝံသ ဆရာတော်က –

'လူတို့စီးပွား၊ ကျင့်တတ်အားသည်၊ သိကြား မာတလိ၊ မဏိမေခလာ၊ ဗြဟ္မာသုယံ၊ ဝိသုကံနှင့်၊ အရုံလည်းဖြစ်၊ မဟာရာဇ်က၊ စသည်တရိုး၊ အိမ်စိုးကိုယ်စောင့်၊ မှောင့်လည်းဖျက်တတ်၊ ဖုတ်ခတ်သဘက်'

ဟု ပါရမီတော်ခန်းပျို့တွင် ဖွင့်ဆိုထားသကဲ့သို့ အရှင်မဟာရဋ္ဌသာရကလည်း –

'ကောင်းကင်ရက္ခ၊ ဘုမ္မမလွတ်၊ ကိုယ်စောင့်နတ်တို့၊ ရိုညွတ်သဒ္ဒါ၊ တရားနာ၍၊ ဒိဗ္ဗာရမ္မဏ၊ မြင်ကစင်ဖြူ၊ နလုံးဟူသား၊ မှန်ဆုမွန်ခြောင်း၊ ဆင်မဒကောင်းကို၊ ချွန်းတောင်းဉာဏ်ဟုန်၊ ထိန်းလင့်ကုန်'

ဟု ဇာတ်ပေါင်းခန်းပျို့မှာ ဖွင့်ဆိုထားကြခြင်း ဖြစ်သည်။

## ကိုယ်စောင့်နတ် ဘယ်နှပါးရှိသလဲ

ဤ ဆိုခဲ့ပြီးသော ထေရဝါဒ ပိဋကကျမ်းဂန်များအရ လူများ၌ ကိုယ်စောင့်နတ်ရှိကြောင်း ထင်ရှားသိသာပေသည်။

ကိုယ်စောင့်နတ် ဘယ်နှပါးရှိသည်ဟု ကျမ်းဂန်များ၌ မိန့်ဆိုထားချက် မရှိပေ။

ကိုယ်စောင့်နတ်အကြောင်း မိန့်ဆိုထားသော ကျမ်းဂန်များ၌ ကိုယ်စောင့်နတ်တစ်ပါး ရှိသည်ကိုသာ အများအားဖြင့် တွေ့ရ၏။

အဋ္ဌကနိပါတ်၊ စေတီယဇာတ်၌မူ ဥပဝရမည်သော စေတီယမင်းကိုစောင့်သော နတ်သားလေးယောက်ရှိသည်ကို တွေ့ရ၏။

စေတီယတိုင်း သောတ္ထိယမြို့၌ မင်းပြုသော ဥပဝရ မည်သော မင်းသည် ကောင်းကင်ပျံနိုင်ခြင်း၊ နတ်သားလေးယောက် သန်လျက်တော်စောင့်ရခြင်း၊ ကိုယ်မှ စန္ဒကူးနံ့မွှေးခြင်း၊ ခံတွင်းမှ ကြာညိုနံ့လှိုင်ခြင်းဟူသော တန်ခိုးလေးမျိုးနှင့် ပြည့်စုံ၏။

သို့ရာတွင် ထိုမင်းသည် မုသားစကား ပြောသောကြောင့် သန်လျက်တော်စောင့်နတ်သား လေးယောက်တို့ သန်လျက်ကိုပစ်ချ၍ ကွယ်ပျောက်သွားကြ၏။ ဘုရင်၏ ခံတွင်းမှ ကြက်ဥအပုပ်နံ့ ထွက်လာ၏။ ခန္ဓာကိုယ်မှ စန္ဒကူးနံ့ ကွယ်ပျောက်၍ အိမ်သာနံ့ကြီး ပေါ်ပေါက်လာ၏။ ကောင်းကင်မှလည်း မသွားနိုင်တော့ဟု မိန့်ဆိုထား၏။

မုံရွေး ဇေတဝန် ဆရာတော်ဘုရားကြီးကမူ –

ကိုယ်စောင့်နတ်သည် ဦးခေါင်းကို စောင့်ရသောနတ်၊ ကိုယ်ကိုစောင့်သောနတ်၊ ခြေကိုစောင့်သောနတ် ဟူ၍ သုံးပါးရှိ၏။

ဦးခေါင်းကို စောင့်သောနတ်သည် နံနက်အခါ ဦးခေါင်းကို စင်ကြယ်သန့်ရှင်းလေ့ရှိသူကို ကြည့်ရှုမစသည်။

ကိုယ်ကိုစောင့်သော နတ်သည် နေ့အခါ ကိုယ်ကိုသန့်ရှင်းစင်ကြယ်စွာ ပြုလေ့ရှိသူကို စောင့်ရှောက်သည်။

ခြေကိုစောင့်သောနတ်သည် ညဥ့်အခါ ခြေကို စင်ကြယ်စွာ ဆေးကြော၍ အိပ်ရာဝင်လေ့ရှိသူကို စောင့်ရှောက်သည်။

ဦးခေါင်းစောင့်နတ်သည် ကြိုးတန်း၊ ကြိမ်တန်း၊ လှေကား၊ တံတား၊ အိမ်အောက်၊ ပုဆိုးအဝတ်အောက် လျှိုးဝင်ခြင်းကို အလိုမရှိ။

ကိုယ်စောင့်နတ်သည် မိမိ ဝတ်ပြီးသော ပုဆိုးကို အောက်အထက်ပြန်၍ ဝတ်ခြင်းကို အလိုမရှိ။

ခြေစောင့်နတ်သည် ခြေကို မစင်မကြယ် မသန့်မရှင်းပြု၍ အိပ်လေ့ရှိသူကို အလိုမရှိဟု ဆိုသည်။





ဤနတ်သားသုံးယောက်တို့၏ အတ္ထုပ္ပတ္တိကို ကျမ်းဂန်၌ မတွေ့ဘူးပေ။ သုတပညာနှင့် ပြည့်စုံသော သူဟောင်းတို့ ပြောဆိုသည်ကို ကြားဖူးရုံသာ အထင်ယုတ္တိနှင့်သာ ဆိုရပေသည်ဟု သမန္တစက္ခုဒီပနီကျမ်း၌ မိန့်ဆိုတော်မူထားပါသည်။

ထိုရှေးသူဟောင်းတို့၏ အဆိုအမိန့်အရ –

'ကြိုးတန်း၊ ကြိမ်တန်းအောက် မလျှိုးရ၊ ခါးဝတ်ပုဆိုးတို့ အောက်အထက်လှန်၍ မဝတ်ရ၊ ခြေမဆေးဘဲ အိပ်ရာသို့ မဝင်ရ'

ဟု ဆရာ၊ မိဘတို့က တပည့်၊ သားသမီးတို့အား ဆုံးမစကား ပြောကြားကြခြင်း ဖြစ်ပေသည်။

မင်းရာဇာလျှောက်ထုံးတွင် ထိုသုံးမျိုးကို သီရိ (ကျက်သရေ) သုံးပါး ဟုခေါ်သည်။

ဤသည်မှာ ရှေးပညာရှိ သူဟောင်းတို့ အစဉ်အဆက် မှတ်ယူလာခဲ့ကြသည့် ကိုယ်စောင့်နတ်သုံးပါးအကြောင်း ဖြစ်သည်။ သို့သော် ထိုနတ်သုံးပါးအကြောင်းကို ဗုဒ္ဓကျမ်းဂန်များ၌ မတွေ့ရချေ။

ဗြဟ္မဇာလဝါဒ၌ကား နဖူးစာရေးမှတ်သည့် သတ္တဘာဂနတ်၊ ပညာကို ပွားစေတတ်သည့် သုရဿတီနတ်၊ စည်းစိမ်ဥစ္စာကို ပေးတတ်သည့် သကျနတ်၊ နိမိတ်ပြတတ်သည့် ဝါမသူရနတ် စသည်ဖြင့် ကိုယ်စောင့်နတ်တစ်ကျိပ်တစ်ယောက်ရှိကြောင်း ဖော်ပြထား၏။

အားလုံး ခြုံ၍ ဆိုရသော် ဗုဒ္ဓကျမ်းဂန်များတွင် လူတို့ကိုယ်ကို စောင့်သော ကိုယ်စောင့်နတ်များ ရှိသည်။

ထိုနတ်များသည် ဘုမ္မစိုးနတ်များတွင် ပါဝင်သည်။ လူတို့၏ အလိုသို့လိုက်၍ ကိုယ်စောင့်နတ်များကလည်း ကြံစည်တတ်ကြသည်။ လူတို့က ကဲ့ရဲ့သည့်အခါ ကိုယ်စောင့်နတ်ကလည်း လိုက်၍ ကဲ့ရဲ့တတ်ကြသည်။ တစ်ဦးနှင့်တစ်ဦး သဘောထား ကွဲလွဲကြသည့်အခါ သူတို့၏ ကိုယ်စောင့်နတ်များလည်း သဘောထား ကွဲလွဲသွားကြသည်။ လူများ တရားမစောင့်သည့်အခါ ကိုယ်စောင့်နတ်များလည်း တရားမစောင့်ကြပေ။

သို့ရာတွင် ကိုယ်စောင့်နတ်များသည် အခါအားလျော်စွာ မိမိစောင့်ရသူကို စောင့်ရှောက်ကြည့်ရှုတတ်ကြသည်။

လူတို့ကိုယ်တွင် ကိုယ်စောင့်နတ် ဘယ်နှပါး ရှိသည်ဟု ဗုဒ္ဓ ကျမ်းဂန်များတွင် ပြဆိုထားချက်ကား မရှိပါချေ။

## ဝိနိပါတိကအသုရာ ခေါ် နတ်ပြိတ္တာငယ်များ

ဝိနိပါတိက ဆိုသည်မှာ ချမ်းသာအပေါင်းမှကင်း၍ ဆင်းဆင်းရဲရဲ နေထိုင်ကြရသည့်သူများဟု အဓိပ္ပာယ်ရ၏။ ထိုဝိနိပါတိက ဆိုသူများမှာ နတ်နှင့်တူသော်လည်း နတ်ကဲ့သို့ စည်းစိမ်တန်ခိုးဖြင့် မထွန်းပနိုင်သောကြောင့် သူတို့ကို အသုရာဟု ခေါ်သည်။

စည်းစိမ်တန်ခိုးဖြင့် မထွန်းပနိုင်ဘဲ ဆင်းရဲအမျိုးမျိုးကို ခံစားရသော နတ်ညံ့နတ်ဖျင်းများကို ဝိနိပါတိက အသုရာဟု ခေါ်သည်။

(ဝိနိပါတိက–ချမ်းသာကင်း၍ ဆင်းရဲခြင်းသို့ ကျရောက်နေသူ၊ အသုရာ=အ–ငယ်သော+သုရာ–နတ်များ)

ထိုနတ်များသည် ဘုမ္မစိုးနတ်မျိုးတွင် ပါဝင်သော်လည်း သေးနုပ်သိမ်ငယ်သော အညံ့စား (ဟီနသြမက) ကုသိုလ်ကံကြောင့် ဖြစ်လာကြရသူများဖြစ်၍ ဘုမ္မစိုးနတ်ကြီးများကဲ့သို့ နေစရာထိုင်စရာ ကိုယ်ပိုင်ဘုံဗိမာန်များ မရှိကြသဖြင့် တောချုံ၊ လျှိုမြောင်၊ လိုဏ်အိုး၊ ဂူအို၊ ဇရပ်အို၊ ဇရပ်ပျက် စသည်တို့၌ မှီခိုကပ်ရပ်၍ နေကြရ၏။ ဘုမ္မစိုးနတ်ကြီးတို့ကို မှီခိုနေထိုင်ကြရ၍ ထိုနတ်ကြီးတို့၏ အဖျားအနား ကပ်ပါးကပ်မြှောင် ကျေးကျွန်သဖွယ် နတ်ငယ်ကလေးများ ဖြစ်ကြ၏။

ထို့ကြောင့် ထိုနတ်ငယ်ကလေးများကို ဘုမ္မစိုးနတ်ကြီးကို မှီခိုနေကြရသူများ ဘုမ္မဿိတဟုလည်း ခေါ်ကြ၏။

ဤသို့ ဝိနိပါတိက အသုရာ ခေါ် ဘုမ္မဿိတနတ်များသည် ရွာ၏အနီးအပါး ဥပစာတို့၌သော် လည်းကောင်း၊ ရွာတွင်း၌သော် လည်းကောင်း ဆိတ်ငြိမ်ရာတို့၌ ကပ်ရပ်နေထိုင်ကြပြီး ရွာသူရွာသားတို့ စွန့်ပစ်သော ထမင်းကျန် ဟင်းကျန် မုန့်ကြွင်းမုန့်ကျန်တို့ကို ဖြစ်စေ၊ အမဲသားငါးတို့ကို ဖြစ်စေ ရှာဖွေ စားသောက်ကြရ၏။

ထိုအကြွင်းအကျန် အစားအစာများကို မရခဲ့သော် ကလေးသူငယ်များကို ရောဂါတစ်စုံတစ်ရာ ဖြစ်အောင် ဖမ်းစားတတ်ကြ၏။





တစ်ခါတစ်ရံ လူတို့ကို ပူးဝင်၍ အစာတောင်းစားကာ လူတို့ပစ်စွန့်သောအစာကို စားသောက်ကြရ၏။

ဤသို့ အစားအသောက် ဆင်းရဲလှသဖြင့် သေးနုပ်သိမ်ငယ်သော အမှုများကို ပြုလုပ်ကာ အသက်မွေးမြူကြရသည်။

ထို ဝိနိပါတိက အသုရာတို့သည် တစ်ခါတစ်ရံတွင် လူများကို ခြောက်လှန့်တတ်ကြသည်။

ထို နတ်ညံ့ နတ်ဖျင်းများကို တစ္ဆေသဒ္ဒါ၊ တစ္ဆေသဒ္ဒါတို့သည် ခြောက်ခြင်း၊ လှန့်ခြင်း အနက်အဓိပ္ပာယ်များရှိ၍ တစ္ဆေ၊ တစ္ဆေ နှစ်မျိုးလုံး ခေါ်နိုင်ပါသည်။ ထိုတစ္ဆေကိုပင် ပါဠိလို ပိသာ၊ မြန်မာလို မြေဖုတ်ဘီလူးဟု ကျမ်းဂန်များ၌ ပြဆိုထား၏။ ထိုတစ္ဆေ မြေဖုတ်ဘီလူးတို့၌ သူတို့ကိုယ်ကို လူတို့မမြင်နိုင်အောင် ဆောင်ထားသည့် ဆေးမြစ်များ ရှိကြသည်။

## သီရိလင်္ကာနိုင်ငံက မြေဖုတ်ဘီလူးမကြီး

ထင်ရှားလေအောင် သာဓကဆောင်ပြပါဦးမည်။ ယခု သီရိလင်္ကာခေါ်သော သီဟိုဠ်ကျွန်း၌ မြေဖုတ်ဘီလူးဖြစ်သည့် တစ္ဆေမကြီးတစ်ယောက်သည် သားငယ်တစ္ဆေနှစ်ယောက်တို့ကို ထူပါရုံစေတီတော် တံခါးအနီးတွင် ထားခဲ့ပြီး မြို့ထဲသို့ အစာရှာထွက်လာခဲ့၏။

တစ္ဆေငယ်ကလေးတို့သည် ဆွမ်းခံဝင်လာသည့် မထေရ်တစ်ပါးကို မြင်သည့်အခါ –

"အရှင်ဘုရား၊ တပည့်တော်တို့အမေ တစ္ဆေမကြီး မြို့ထဲကို အစာရှာသွားပါတယ်။ အမေ့တွေ့ရင် သင့်ကလေးတွေ ဆာနေကြပြီ၊ မနေနိုင်ကြတော့ဘူး၊ ရသမျှ အစာယူပြီး ပြန်လာခဲ့ပါလို့ ပြောပေးပါ"

ဟု ဝိုင်းလျှောက်ကြ၏။

မထေရ်က –

"မင်းတို့အမေကို ငါ ဘယ်လိုလုပ်ပြီး မြင်မလဲ"

ဟု ပြန်မေးသည့်အခါ –

"အရှင်ဘုရား၊ ဒီဟာကို ယူသွားပါ"

ဟုဆိုပြီး ဆေးမြစ်အပိုင်းကလေး တစ်ခုကို ပေးလိုက်၏။

မထေရ်သည် ထိုဆေးမြစ်ပိုင်းကလေး၏ အစွမ်းဖြင့် လမ်းတွင် အထောင်မကသော တစ္ဆေတို့ကို တွေ့မြင်သွားသည်ဟု ဆို၏။

ထို့နောက် တံငါ၊ မုဆိုးများ သွားရာ လမ်းခရီးတွင် ကိုယ်ဝန် အညစ်အကြေးများကို တောင့်တမျှော်ကြည့်နေသော တစ္ဆေမကြီးတစ်ဦး ကို တွေ့ရ၏။

ထိုတစ္ဆေမကြီးမှာ မလှမပ၊ စက်ဆုပ်ရွံရှာဖွယ်ရာ ရုပ်ဆင်းအင်္ဂါ ရှိ၍ တစ္ဆေငယ်ကလေးများ ပြောလိုက်သော အမှတ်အသားဖြင့် သူတို့၏ အမေ တစ္ဆေမကြီးဖြစ်ကြောင်း ကောင်းကောင်း သိပေသည်။

မထေရ်သည် ထိုတစ္ဆေမကြီးအနားကပ်သွားပြီး တစ္ဆေကလေး များ မှာကြားလိုက်သည့်အတိုင်း ပြောလိုက်၏။

တစ္ဆေမကြီးက -

"အရှင်ဘုရား၊ တပည့်တော်မကို ဘာကြောင့် မြင်ပါသလဲ"

ဟုမေးရာ တစ္ဆေကလေးများ ပေးလိုက်သည့် ဆေးမြစ်တုံးကို မထေရ်က ထုတ်ပြ၏။

ထိုခဏမှာပင် တစ္ဆေမကြီးသည် မထေရ်လက်မှ ဆေးမြစ်ကို လုယူ ထွက်ပြေးသွားသတဲ့။

ဤသို့ တစ္ဆေတို့သည် သူတို့ထံ၌ ရှိသောဆေးမြစ်ကြောင့် သူတို့ကို လူများ မတွေ့နိုင်ကြောင်း မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ၌ ဖွင့်ဆိုထား၏။

## ဘုရားရှင်လက်ထက်တော်က ဝိနိပါတိက အသုရာမကြီး

အင်္ဂုတ္တိုရ်အဋ္ဌကထာ၌မူ ထိုဝိနိပါတိက အသုရာတို့သည် အပါယ် လေးဘုံသားမှ လွတ်သော ဝေမာနိက ပြိတ္တာမျိုး ဖြစ်ကြသည်။

ထိုပြိတ္တာတို့၏ ကိုယ်ရေအဆင်းကား အဝါရောင်၊ အဖြူရောင်၊ အမည်းရောင်၊ နီညိုရောင်၊ ရွှေရောင် စသည်တို့ဖြင့် အမျိုးမျိုး ရှိကြ၏။ ပိန်သူ၊ ရှည်သူများ ရှိသကဲ့သို့ ဝသူ၊ ပုသူများလည်း ရှိကြ၏။

စတုမဟာရာဇ်နတ်တို့ကဲ့သို့ တန်ခိုးမကြီးကြချေ။ အထီးကျန်သော လူများပမာ တန်ခိုးအရှိန်အဝါ နည်းပါးကြ၏။ အဝတ်အစား ရခဲကြသဖြင့် စားဝတ်နေရေး ဆင်းရဲကြ၏။





အချို့မှာ လဆုတ်ပိုင်းတွင် ဆင်းရဲခံကြရပြီး လဆန်းပိုင်းတွင် ချမ်းသာစံကြရသည်။ ထိုသို့ ချမ်းသာအပေါင်းမှ ပျက်စီး၍ ကျရောက် သောကြောင့်လည်း ဝိနိပါတိကဟု ခေါ်ပါသည်။

ထို ဝိနိပါတိက အသုရာတို့သည် အပါယ်ဘုံသားများ ကဲ့သို့ ဒုဂ္ဂတိအဟိတ် ပုဂ္ဂိုလ်မျိုး မဟုတ်ဘဲ လူသတ္တဝါများကဲ့သို့ သုဂတိအဟိတ်၊ ဒွိဟိတ်၊ တိဟိတ်ဟု ပုဂ္ဂိုလ်အစားစား ရှိကြသည်။

တိဟိတ်ပဋိသန္ဓေနေသူများ ဖြစ်ပါက ပိယင်္ကရမာတာ၊ ဥတ္တရ မာတာ စသော ဝိနိပါတိက အသုရာတို့ကဲ့သို့ တစ်မဂ် တစ်ဖိုလ်ပင် ရနိုင် ကြပေသည်။

အနည်းငယ် ထင်ရှားစေဦးအံ့။

ဘုရားရှင် လက်ထက်တော်အခါ၌ တစ်ခုသောအချိန်တွင် အရှင် အနုရုဒ္ဓါ မထေရ်သည် ကောသမ္ဗက ကျောင်းအတွင်း၌ ထိုင်၍ ဓမ္မပဒ အပ္ပမာဒဝဂ်ကို သာယာစွာ သရဇ္ဈာယ်နေ၏။

ထိုအခါ ပိယင်္ကရမာတာမည်သော ပြိတ္တာမကြီးသည် သားငယ် ပိယင်္ကရကို ရင်ခွင်၌ ပိုက်ချီကာ ဇေတဝန်ကျောင်းတိုက်၏ အနောက် ဘက်မှ သာဝတ္ထိမြို့ဘက်သို့ ရှေးရှုလျက် ကျင်ကြီး၊ ကျင်ငယ်၊ တံတွေး၊ နှပ် စသည့် အစားအစာများကို ရှာဖွေသွားရင်း ကောသမ္ဗကကျောင်းနား အရောက်တွင် အရှင်အနုရုဒ္ဓါ၏ တရားသံကို ကြား၍ မလှုပ်မယှက် ငြိမ်သက်စွာရပ်၍ တရားနာနေ၏။

အစာ မရှာသဖြင့် ဆူပူနေသောသားငယ်ကို -

"ပိယင်္ကရ၊ ဆူမနေနဲ့၊ ရဟန်းတော်အရှင်မြတ် တရားတော်ကို သရဇ္ဈာယ်နေတယ်၊ ငါတို့ တရားသိပြီး ကျင့်နိုင်ရင် အကျိုးရှိမယ်။ သတ္တဝါ တွေကိုလည်း မဖမ်းစား၊ မမှန်စကားတွေကိုလည်း မဆိုဘဲ အကျင့်သီလကို ကျင့်သုံးကြရင် ဒီမြေဖုတ် ဘီလူး ပြိတ္တာဘဝက လွတ်နိုင်မယ်"

ဟု သားငယ်ကို ချော့မော့ပြီး တရားဆက်နာ၏။

မထေရ်မြတ် တရားဆုံးသောအခါ ထိုပြိတ္တာမကြီး သောတာပန် ဖြစ်သွား၏။ ဤသို့ တိဟိတ်ဖြစ်သော ဝိနိပါတိက အသုရာတို့သည် တစ်မဂ်တစ်ဖိုလ် ရရှိနိုင်ပေသည်။

## လေချွန်နတ်

စကားကို ပီပီသသ မပြောဆိုနိုင်။ လေချွန်သံကဲ့သို့ အသံသေးသေးသာ ထွက်သည့်အတွက် ထိုနတ်အကြောင်းကို ကျမ်းဂန်တို့၌ မတွေ့ရ။ လေချွန်နတ် အမည်သည်လည်း ကျမ်းဂန်၌ မရှိပေ။

သို့ရာတွင် မြန်မာနိုင်ငံ ကုန်းဘောင်ခေတ်ဦးပိုင်းတွင် စာပေပရိယတ်အရာ၌ ထင်ရှားကျော်ကြားခဲ့သော ကျည်းကန်ရှင်ကြီး ရှင်နန္ဒမေဓ ပြုစုခဲ့သည့် စွယ်စုံကျော်ထင် ခေါ် အမေးပုစ္ဆာ သံပေါက်ကဗျာကျမ်းတွင်-

လူတို့ ပညတ် လေချွန်နတ်၊

သည်နတ် ဘယ်ဘုံ သွင်းမည်နည်း –

ဟူသော အမေးပုစ္ဆာတစ်ခု ပါရှိခဲ့သောကြောင့် ဤလေချွန်နတ်သည် ကျည်းကန်ရှင်ကြီးတို့ခေတ်ကပင် ပေါ်နေပြီဖြစ်ကြောင်း သိရှိရသည်။

ကျည်းကန်ရှင်ကြီး၏ လေချွန်နတ် အမေးပုစ္ဆာကို ရွှေတောင်မြို့ ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီးက ဤသို့ ဖြေဆိုခဲ့သည်။

နတ်ပြိတ္တာမျိုးဖြစ်၍ စကားကို ကောင်းစွာ မဆိုနိုင်။ လေချွန်သံကဲ့သို့ အသံငယ်သာ ထွက်သည်။ ၎င်းနတ်ကို လေချွန်နတ် ခေါ်သည်။ စတုမဟာရာဇ်သို့ သွင်းရမည်။

အဘယ်ကိုထောက်၍ သွင်းသနည်း ဟူမူကား နိဗ္ဗာမ တဏှိက အစရှိသော ပြိတ္တာမျိုးတို့ကို လည်းကောင်း၊ ၎ရဲသတ္တဝါတို့ကို လည်းကောင်း ချန်ထား၍ အလုံးစုံသော ဝိနိပါတိက အမည်ရကုန်သော နတ်ပြိတ္တာတို့သည် လည်းကောင်း၊ မြေဖုတ်ဘီလူးတို့သည် လည်းကောင်း၊ ဘုမ္မစိုး စသော နတ်တို့သည် လည်းကောင်း စတုမဟာရာဇ်နတ်တို့၌ ရေတွက်ခြင်းသို့ ရောက်ကုန်၏ဟူသော ဋီကာကျမ်းများ၏ အဆိုကိုထောက်၍ စတုမဟာရာဇ်နတ်များသို့ သွင်းယူသည်။

ဤစကား၌ နတ်ပြိတ္တာနှင့် အသုရကာယ်ပြိတ္တာ အထူးကား အကြင်သူသည် ဤလူ့ဘဝ၌ ခိုးဝှက်ခြင်း၊ သတ်ဖြတ်ခြင်း၊ လုယက် နှိပ်စက်ခြင်းဖြင့် ရအပ်သော ပစ္စည်းဥစ္စာဖြင့် စွန့်ကြဲ





ပေးကမ်းခြင်း ဒါနကိုပြု၏။ ငါးပါးသော နိစ္စသီလတို့တွင် သုံးပါး သို့မဟုတ် လေးပါးတို့ကို ကောင်းစွာဆောက်တည်၍ တစ်ပါး သို့မဟုတ် နှစ်ပါးကို လွန်ကျူး ပြုကျင့်၏။ နှုတ်ဖြင့် ရတနာသုံးပါးကို ကိုးကွယ် ဆည်းကပ်၍ ကိုယ်စိတ်တို့ဖြင့် မရိုမညွတ်ခြင်းကိုပြု၏။

ထိုကဲ့သည် ကုသိုလ်၊ အကုသိုလ် နှစ်ပါးရောယှက်သောကြောင့် မိဿကကံမည်၏။

ထိုကံ အကျိုးပေးသောအခါ အကုသိုလ်ကံ ရှေ့ဆောင် အကျိုးပေးလျှင် အပါယ်ဘုံ၌ ပါဝင်သော အသုရကာယ်ပြိတ္တာဖြစ်ရ၏။ ကုသိုလ်ကံက ရှေ့ဆောင်၍ အကျိုးပေးလျှင် နတ်မျိုး၌ အကျုံးဝင်သော ဝေမာနိကပြိတ္တာ ဖြစ်ရ၏။

အသုရကာယ်ပြိတ္တာမှာ ဒုဂ္ဂတိအဟိတ်ပုဂ္ဂိုလ်ဖြစ်၍ မကျွတ်ထိုက်၊ နတ်ပြိတ္တာတို့မှာ သုဂတိအဟိတ်၊ ဒွိဟိတ်၊ တိဟိတ် အသီးသီးဖြစ်ကြ၍ တိဟိတ်ဖြစ်က ကျွတ်ထိုက်၏။

ဤသည်လျှင် အထူးတည်း။ ကိုယ်ခန္ဓာနှင့် စည်းစိမ်ချမ်းသာကို ခံရခြင်းတို့ကား မထူးခြားကြ၊ အလားတူသည်သာတည်း။

နတ်ပြိတ္တာများ ချမ်းသာကိုစံခိုက် တန်ခိုးကြီး၏။

ထိုနတ်ပြိတ္တာတို့သည် အချို့ကား မြို့ရွာအနီး မြေကြီးကျင်းတို့၌ လည်းကောင်း၊ သုသာန်, ဇရပ်, သစ်ပင်ရင်း စသည်တို့၌ လည်းကောင်း၊ တောအုပ်, တောင်ခြေတို့၌ လည်းကောင်း၊ ၎ရဲပြည်အနီး၌ လည်းကောင်း နေကြကုန်၏။

ထိုဝေမာနိက ပြိတ္တာတို့ကို အုပ်ချုပ်စီရင်သောသူကား ယမမင်းတည်း။

ထို့ကြောင့် လေချွန်နတ်သည် ယမမင်း၏အုပ်စုဖြစ်သော ဝိနိပါတိကအသုရာ နတ်ပြိတ္တာမျိုးဖြစ်၍ စတုမဟာရာဇ်၌ ဝင်သည်ဟု သိရ၏ –

ဟု ရွှေတောင်မြို့ ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီး ဖြေဆိုရှင်းလင်းသည်ကို စွယ်စုံကျော်ထင်အဖြေကျမ်း၌ တွေ့ရ၏။

## ကြို့ပင်ကောက်မြို့က လေချွန်နတ်

ယခုခေတ်၌လည်း လေချွန်နတ်အကြောင်းကို ကြားသိနေရ၏။ ထိုလေချွန်နတ်မှာ ကြို့ပင်ကောက်မြို့က ဖြစ်၏။

ထိုလေချွန်နတ်သည် ကြို့ပင်ကောက်ဆင်ခြေဖုံးရှိ အမျိုးသမီးကြီး တစ်ဦး၏ အိမ်အနီးက သစ်ပင်တွင် နေသည်ဟုဆို၏။ အိမ်ရှင်အမျိုးသမီး ကြီးအား တစ်နည်းတစ်လမ်းအားဖြင့် ကူညီစောင့်ရှောက်နေသောနတ် ဖြစ်၏။

သေဆုံးခဲ့ပြီးသော လူတစ်ယောက်သည် မည်သည့်ဘဝ၊ မည်သည့် နေရာ၌ ရောက်ရှိနေသည်ကို ထိုလေချွန်နတ်က ပြောပြနိုင်သည်ဟု ဆို၏။ ပြောသမျှ မှန်ကန်သည်ဟု နတ်မေးသူများက ယုံကြည်ကြ၏။

ထိုနတ်မေးလိုသူများသည် ကြို့ပင်ကောက်မြို့ရှိ ထိုအမျိုးသမီး ကြီးနေအိမ်သို့ ညအခါ သွားရောက်ကြရ၏။

အလင်းရောင် မှိန်မှိန်ကလေးသာရှိသည့် အခန်းကျယ်ကြီးထဲ၌ နတ်မေးသူက မိမိမေးလိုသောသူ၏ အမည်၊ အသက်၊ သေဆုံးသည့် နေ့ရက်၊ အလောင်းကို သင်္ဂြိုဟ်မြှုပ်နှံသည့် သင်္ချိုင်းတို့ကို ပြောဆိုရသည်။

ထိုသို့ ပြောပြီးသောအခါ ရွှီး ဟူသော လေချွန်နတ် ထွက်ခွာသွား သောအသံကို နတ်မေးသူတို့ ကြားကြရသည်ဟုဆို၏။

လေချွန်နတ်သည် သေဆုံးခဲ့သူအား သင်္ဂြိုဟ်မြှုပ်နှံထားခဲ့သည့် သင်္ချိုင်းသို့သွား၍ သေဆုံးသူ တစ်ဖြစ်လဲ ဝိနိပါတိက အသုရာ ခေါ် နတ်ပြိတ္တာကို ရှာဖွေကာ ခေါ်ဆောင်၏။

လေချွန်နတ်သည် အများအားဖြင့် တစ်ခဏအတွင်း ပြန်ရောက် လာတတ်၏။

တစ်ခါတစ်ရံ၌မူ သက်ဆိုင်ရာ နတ်ပြိတ္တာကို လိုက်ရှာနေရ၍ မိနစ်အနည်းငယ် ကြာညောင်းသွားတတ်၏။ ပြန်ရောက်လာသည့်အခါ လေချွန်နတ်၏ ရွှီး ဟူသောအသံကို အိမ်ခန်းအတွင်းရှိ လူအများ ကြားကြရ၏။

အကယ်၍ သေဆုံးသွားသူ တစ်ဖြစ်လဲ ပုဂ္ဂိုလ် လိုက်ပါလာလျှင် ထိုပုဂ္ဂိုလ်က နတ်မေးသူ မေးသမျှကို ကိုယ်တိုင် ပြောပြတတ်၏။





ထိုသူ ပြောဆိုသောအသံမှာ ဘဝဟောင်းက အသံအတိုင်းဖြစ်၍ ပြောပြသည့် အကြောင်းအရာတို့မှာလည်း အားလုံးလိုလို မှန်သည် ဆိုကြ၏။

ထိုအခါတွင် နတ်မေးသူများသည် အများအားဖြင့် ဝမ်းနည်း ငိုကြွေးလေ့ ရှိကြသည်။

သေဆုံးသူကို ရှာမတွေ့လျှင် ဖြစ်စေ၊ သေဆုံးသူ တစ်ဖြစ်လဲ ပုဂ္ဂိုလ်က စကားပြောနိုင်စွမ်း မရှိလျှင် ဖြစ်စေ နတ်မေးသူ၏ မေးခွန်းကို လေချွန်နတ်က ဖြေကြားပေးသတဲ့။

လေချွန်သံဖြင့် လေချွန်နတ် ဖြေဆိုသောစကားကို ခန့်မှန်းသိရှိ နိုင်ကြ၏။

သို့သော် အိမ်ရှင်အမျိုးသမီးကြီးက လေချွန်သံကို ပို၍ နားလည် သဖြင့် စကားပြန်အဖြစ် ပြန်လည် ရှင်းပြပေးလေ့ရှိ၏။

နတ်မေးသူက မကျေနပ်၍ ဘယ်ဘဝသို့ ရောက်နေသည်ကို ထင်ရှားစေလိုလျှင် လေချွန်နတ်သည် တစ်ဖန် ထပ်၍ ရှာရ၏။

ရှာမတွေ့လျှင် အထက်နတ်ဘုံသို့သွားပြီ သို့မဟုတ် မည်သည့် တိရစ္ဆာန်ဖြစ်နေသည် သို့မဟုတ် မည်သည့် ဒုဂ္ဂတိဘုံသို့ ရောက်သွားပြီ စသည်ဖြင့် လေချွန်နတ်က ပြန်ပြောပြပေးလေ့ရှိသည်ဟု ဆို၏။

နတ်မေးသူများက အိမ်ရှင် အမျိုးသမီးကြီးအား သတ်မှတ်ထား သည့် အခကြေးငွေကို ပေးရသည်။

□

## နတ်များက လူများကို စောင့်ရှောက် မ,စနိုင်သလား

### နတ်များစောင့်ရှောက်နိုင်ပုံ ဘုရားဟောသာဓကများ

လူ့လောကတွင် လူအချင်းချင်း ပေးကမ်း ထောက်ပံ့ခဲ့လျှင် အထောက်အပံ့ခံရသူသည် ပေးကမ်းထောက်ပံ့သူကို အခါခပ်သိမ်း မကူညီနိုင်ကြစေကာမူ အများအားဖြင့် သူတို့တတ်နိုင်သည့်အချိန်တွင် တုံ့ပြန်၍ ကျေးဇူးဆပ်သောအားဖြင့် အကူအညီပေးလေ့ ရှိကြ၏။

ထို့အတူ နတ်တို့အား ပူဇော်ဖွယ်ရာတို့ဖြင့် ပူဇော်ပသခြင်း၊ မိမိပြုလုပ်သည့် ကုသိုလ်အဖို့ကို အမျှအတန်းပေးဝေခြင်း၊ မေတ္တာပို့ခြင်း စသည်တို့ကို ပြုလုပ်ခဲ့လျှင် နတ်တို့သည် အရာခပ်သိမ်းကို မပေးစွမ်းနိုင်ကြစေကာမူ သူတို့ တတ်နိုင်သည့်အရာတို့ကို တတ်နိုင်သည့်အချိန်တွင် ကူညီစောင့်ရှောက်လေ့ရှိကြသည်ကိုကား ဗုဒ္ဓကျမ်းများနှင့် ရာဇဝင်သမိုင်းတို့၌ များစွာ တွေ့ရ၏။

ရှင်တော်ဗုဒ္ဓသည် သုတ်မဟာဝါ ပါဠိတော် (အဋ္ဌကထာ၊ ဋီကာ) မဟာပရိနိဗ္ဗာနသုတ်၌ -

"ပညာရှိပုဂ္ဂိုလ်တို့သည် ကုသိုလ် ကောင်းမှုကို ပြုတိုင်းပြုတိုင်း အိမ်စောင့်နတ် စသော နတ်အပေါင်းအား အမျှအတန်း ပေးဝေခြင်းဖြင့် ပူဇော်ရမည်။

ပူဇော်ဖွယ်ရာတို့ဖြင့်လည်း လေးလ တစ်ကြိမ်၊ ခြောက်လ တစ်ကြိမ် ရံခါရံခါ အမှတ်တရ ထူးထူးခြားခြား ပူဇော်ပသခြင်းဖြင့် မြတ်နိုးမှု ပြုကြရမည်။





အပူဇော်ခံ၊ အမြတ်နိုးခံကြရသော နတ်တို့က 'ဤလူသားတို့သည် ငါတို့နတ်များနှင့် ဆွေမတော်၊ မျိုးမစပ်ဘဲ ငါတို့ကို သက်သက် ပူဇော်ကြ မြတ်နိုးကြကုန်၏' ဟု မှတ်ယူပြီး ပူဇော်သူ၊ မြတ်နိုးသူတို့ကို ကျရောက်လာအံ့သော ဘေးအန္တရာယ်အမျိုးမျိုးမှ ကာကွယ်စောင့်ရှောက်ပေးသောအားဖြင့် တုံ့ပြန်၍ ပူဇော်တတ်ကြ၏။

ကျရောက်ဆဲဖြစ်သော ဘေးအန္တရာယ်များကို ဖယ်ရှားပေးသောအားဖြင့်လည်း တုံ့ပြန်၍ မြတ်နိုးကြ၏။

ထို့ကြောင့် မိခင်သည် မိမိရင်၌ဖြစ်သောသားကို စောင့်ရှောက်သကဲ့သို့ နတ်တို့သည် ထိုပူဇော်သူ၊ မြတ်နိုးသူကို အစဉ်စောင့်ရှောက်ကြ၏။ နတ်တို့၏ အစောင့်အရှောက်ကိုခံရသော လူသားသည် ကောင်းမြတ်သော ဣဋ္ဌမင်္ဂလာ အဖြာဖြာတို့ကိုသာ ထာဝစဉ် တွေ့မြင်ရ၏"

ဟု ဟောထားတော်မူပေသည်။

ဗုဒ္ဓရှင်တော်မြတ်ဘုရားသည် မဟာနာမ် လိစ္ဆဝီမင်းသားအား-

"မဟာနာမ်၊ အမျိုးကောင်းသားသည် မိမိ၏ စည်းစိမ်ဥစ္စာတို့ဖြင့် မိရိုးဖလာနတ်တို့ကို အရိုအသေပြု၏။ ပူဇော်ပသ၏။ အရိုအသေခံရ၊ အပူဇော်ခံကြရကုန်သော မိရိုးဖလာနတ်တို့သည် ထိုအမျိုးကောင်းသားကို 'ကြာရှည်စွာ အသက်ရှည်ပါစေ၊ အသက်ကို ကြာရှည်စွာ စောင့်ရှောက်နိုင်ပါစေ' ဟူသော စိတ်စေတနာကောင်းဖြင့် စောင့်ရှောက်ကြကုန်၏။ မိရိုးဖလာနတ်တို့ အစောင့်ရှောက်ခံရသော အမျိုးကောင်းသားအား ပျက်စီးဆုတ်ယုတ်မှုမရှိ၊ ကြီးပွားတိုးတက်နိုင်သည်"

ဟု ဟောထားတော်မူသည်ကိုလည်း ပဉ္စကအင်္ဂုတ္တိုရ် ပါဠိတော်၊ လိစ္ဆဝိကုမာရသုတ်၌ တွေ့ရ၏။

ထို့ပြင် သုတ်မဟာဝါ အဋ္ဌကထာ၊ မဟာပရိနိဗ္ဗာနသုတ်အဖွင့်၌လည်း -

'ရှေးထုံးစဉ်လာအရ တရားနှင့်အညီ မြို့စောင့်နတ် စသော နတ်တို့အား မပူဇော်၊ မပသသော မင်းတို့ကို နတ်တို့ မစောင့်ရှောက်တတ်ကြကုန်။ နတ်တို့သည် မဖြစ်ပေါ်သေးသော ဆင်းရဲဒုက္ခကို ဖြစ်ပေါ်လာအောင် မဖန်တီးနိုင်သော်ငြားလည်း ဖြစ်ပေါ်နေသော ချောင်းဆိုးနာ၊

ခေါင်းကိုက်နာ စသည်တို့ကိုမူ တိုးလာအောင် ပြုလုပ်နိုင်ကြ၏။ စစ်ပွဲ၌လည်း ပူဇော်ပသသည့် မင်းတို့ကိုမူ ကောင်းစွာ စောင့်ရှောက်တတ်ကြ၏။ မ,စတတ်ကြ၏။ မဖြစ်သေးသော စည်းစိမ်ချမ်းသာများကို ဖြစ်အောင် မပြုလုပ်ပေးနိုင်သော်လည်း ဖြစ်ပေါ်နေသော ချောင်းဆိုးနာ၊ ခေါင်းကိုက်နာ စသည်တို့ကိုမူ ဖယ်ရှားပစ်နိုင်ကြ၏' ဟု ဖွင့်ဆိုထား၏။

ထို့ကြောင့် ဗုဒ္ဓရှင်တော်မြတ်သည် သုတ္တနိပါတ် ပါဠိတော် ရတနသုတ်၌ -

"လူသားတို့သည် သင်တို့အား နေ့ရောညပါ ပူဇော်ဖွယ်ရာများတို့ကို ပို့ဆောင်ပူဇော်လျက်ရှိကြသည်။ ထို့ကြောင့် အသင် နတ်တို့သည် ကျေးဇူးတုံ့ပြန်သောအားဖြင့် လူသားများအပေါ် မေတ္တာထားကြပါ။

ဘေးအန္တရာယ်များကို ကာကွယ် ဖယ်ရှားပေးရန်နှင့် စီးပွားချမ်းသာ တိုးတက်အောင် ကူညီစောင့်ရှောက်ဖို့ရန် မမေ့ကြပါနဲ့"

ဟု နတ်တို့အား တိုက်တွန်းထားခြင်း ဖြစ်ပေသည်။

ဤအရာများကား ပူဇော်ပသမှုပြုသူတို့ကို နတ်တို့ တုံ့ပြန်၍ ကူညီစောင့်ရှောက်လေ့ရှိကြောင်း ဘုရားဟောကြား ဒေသနာတော်များ ဖြစ်ပါသည်။

## နတ်တို့က နှုတ်ဖြင့် ကူညီစောင့်ရှောက်ကြပုံ

နတ်တို့က ပူဇော်ပသမှုပြုသူ၊ မေတ္တာပို့သူ၊ အမျှအတန်းပေးဝေသူ လူသားတို့ကို ကူညီစောင့်ရှောက်ကြရာ၌ ကူညီစောင့်ရှောက်ခြင်းသည် -

(၁) နှုတ်ဖြင့် နည်းလမ်းညွှန်ပြ ဆိုဆုံးမ၍ ကူညီစောင့်ရှောက်ခြင်း၊

(၂) ကိုယ်ထိလက်ရောက် ကူညီစောင့်ရှောက်ခြင်း

ဟူ၍ နှစ်မျိုးရှိ၏။

ထိုတွင် နှုတ်ဖြင့် ကူညီစောင့်ရှောက်သည့် သာဓက အချို့ကို ရှေးဦးစွာ တင်ပြပါမည်။

တေမိဇာတ်တော်တွင် ဘုရားလောင်း တေမိမင်းသားသည် မယ်တော်ဟောင်းဖြစ်သော ထီးချက်စောင့်နတ်သမီး၏ လမ်းညွှန်ပြသ ဆိုဆုံးမမှုကြောင့် ၁၆ နှစ်သားအရွယ်အထိ စကားမပြောဘဲ တောထွက်





၍ ရသေ့ပြုနိုင်သွားသည်။

အရှင်အာနန္ဒာ မထေရ်သည် အထက်မဂ်ဖိုလ် တရားများကို အားမထုတ်နိုင်ဘဲ ဒကာမများကို တရားဟောကြားခြင်းဖြင့် အချိန်ဖြုန်းနေသည်ကိုသိသော တောစောင့်နတ်က အရှင်အာနန္ဒာအပေါ်၌ မေတ္တာရှေ့ထား အကျိုးစီးပွားကို လိုလားသောကြောင့် -

"အရှင်ဘုရား၊ အရှင်ဘုရားဟာ အရှင်ဘုရားထံမှောက် ရောက်လာသူတွေကို အပူငြိမ်းစေ မိန့်ခြွေဟောလစ် ဗလစ်ဗလစ် စကားပြောကြားခြင်းဟာ အရှင်ဘုရား အထက်မဂ်ဖိုလ်ရမှုကို ဘယ်လို ကျေးဇူးပြုနိုင်မလဲ။ သတိယွင်းပေါ့ မမေ့လျော့ပါနဲ့ ဘုရား" ဟု လျှောက်ထားသည်။

ထိုတောစောင့်နတ်၏ သတိပေးချက်ကြောင့် သတိ သံဝေဂကြီးစွာရ၍ ပဌမသံဂါယနာမတင်မီ တစ်ရက်အလိုတွင် တရားအားထုတ်ရာ ထိုနေ့၌ပင် ရဟန္တာဖြစ်ခဲ့သည်။

တောနေ ရဟန်းတစ်ပါးသည် ဆွမ်းခံရာမှအပြန် ရေကန်သို့ သက်ဆင်း၍ ကြာပန်းကို နမ်းရှု့မိ၏။

ထိုအခါ တောစောင့်နတ်က -

"အနံ့သူခိုး" ဟု စွပ်စွဲပြီး သတိပေး ဆုံးမသည့်အတွက် တရားအားထုတ်ရာ နောက်ဆုံးတွင် ရဟန္တာဖြစ်သွားကြောင်း သဂါထာဝဂ္ဂ သံယုတ်ပါဠိတော်၌ တွေ့ရ၏။

ထေရဂါထာ ပါဠိတော်၌လည်း တောင်ပေါ်ကျောင်းမှ မြို့တွင်းပွဲသဘင်ကို မြင်ရ၍ ရဟန်းဘဝ၌ ဆုတ်နစ်တွန့်တို ငိုလျက်နေသော ဝဇ္ဇိပုတ္တရဟန်းအား တောစောင့်နတ်က ကြောင်းကျိုးပြသ ဆိုဆုံးမသဖြင့် တရားဘာဝနာ ပွားများအားထုတ်ရာ နောက်ဆုံးတွင် ရဟန္တာဖြစ်သွားကြောင်း ဟောထား၏။

## နတ်သမီးနှင့် မဟာသီဝမထေရ်ကြီး

တောစောင့်နတ်သမီး သတိပေးသဖြင့် ရဟန္တာဖြစ်သွားသည့် သုတ်မဟာဝါ အဋ္ဌကထာ၊ သက္ကပဉှသုတ်အဖွင့်လာ ဝတ္ထုတစ်ပုဒ်ကိုလည်း ထုတ်ဆိုပါဦးမည်။

ရှေးအခါက မဟာသီဝ မထေရ်ကြီးသည် ကျမ်းဂန် ပရိယတ် ပိဋကတ်စာပေကို အလွန်တတ်သတဲ့။ ဂိုဏ်းကြီး ၁၈ ဂိုဏ်းရှိ သံဃာ ပရိသတ်များအား စာပေကျမ်းဂန် ပို့ချပေးနေ၏။

ထိုမထေရ်ကြီး၏ လမ်းညွှန်နည်းပေးမှုဖြင့် ရဟန္တာဖြစ်သွားကြသည့် တပည့်ရဟန်းတော်များ သုံးသောင်းပင် ရှိသတဲ့။

သို့သော် မဟာသီဝမထေရ်ကြီးမှာ ပုထုဇဉ်ဘဝပင် ရှိနေသေး၏။ ထိုအကြောင်းကို သိသော တပည့် ရဟန္တာတစ်ပါးက လာရောက် သတိပေးခါမှ မဟာသီဝမထေရ်ကြီးမှာ တောထွက်၍ တရားအားထုတ်၏။

သူလို ပုဂ္ဂိုလ်မျိုးအတွက် အရဟတ္တမဂ်၊ အရဟတ္တဖိုလ်ကိုရရန် မခဲယဉ်း။ နှစ်ရက် သုံးရက် အားထုတ်ရုံမျှဖြင့် ရဟန္တာ ဖြစ်နိုင်သည်ဟု ယူဆကာ တောင်ချိုင့်တစ်ခုခွဲနေပြီး ဝါဆိုလဆန်း ၁၃ ရက်မှစ၍ တရားအားထုတ်ရာ ဝါကျွတ်သည်အထိ တရားထူးမရဘဲ ရှိ၏။

ထိုအခါ ရည်ရွယ်ချက် မပြည့်စုံသဖြင့် မထေရ်မြတ်၏ မျက်လုံးအိမ်ထဲမှ မျက်ရည်အလျဉ်တို့ တသွင်သွင်စီးဆင်းကျလာကုန်၏။

ထို့နောက် လဲလျောင်းခြင်းကိုပင် မပြုဘဲ ထိုင်၊ ရပ်၊ သွား ဣရိယာပုတ် သုံးပါးဖြင့်သာ ဆက်လက် အားထုတ်ရာ ၂၉ နှစ်တိုင်တိုင် ကြာခဲ့သော်လည်း မဂ်၊ ဖိုလ်ကို မရနိုင်ဘဲရှိ၏။

ထို ၂၉ နှစ်အတွင်း သီတင်းကျွတ်လပြည့် ပဝါရဏာနေ့ ရောက်တိုင်း မထေရ်ကြီးမှာ မျက်ရည်ဖြာဖြာ ကျဆင်းခဲ့ရသည်။

နှစ် ၃၀ မြောက် ပဝါရဏာနေ့သို့ ရောက်သည့်အခါမှာလည်း မဂ်ဖိုလ်ကို မရသေးသောကြောင့် -

'သြော်-ငါတရား အားထုတ်ခဲ့သည်မှာ နှစ်ပေါင်း ၃၀ ကြာခဲ့ပြီ၊ အရဟတ္တဖိုလ်ကိုလည်း မရသေး၊ အမှန်ပါပဲ၊ ငါ့မှာ ဒီဘဝ မဂ်ဖိုလ်ရပုံ မပေါ်ပါဘူး'

ဟု တွေးတောမိစဉ် ဝမ်းနည်းလာကာ ငိုကြွေးရပြန်၏။

ထိုအခါ တောစောင့်နတ်သမီးတစ်ယောက်သည် မထေရ်ကြီးအား သတိပေး ဆုံးမလိုသဖြင့် မထေရ်ကြီး၏ မနီးမဝေးတွင် မတ်တတ်ရပ်ကာ ငိုကြွေးနေလေသတဲ့။





"ဟဲ့ - ဒီမှာ ငိုကြွေးနေတာ ဘယ်သူလဲ"

ဟု မထေရ်ကြီးက မေးသည့်အခါ -

"တပည့်တော်မ နတ်သမီးပါဘုရား"

ဟု ပြန်လျှောက်၏။

မထေရ်ကြီးက -

"ဘာကြောင့် ငိုကြွေးနေရတာလဲ"

ဟု မေးလျှင် -

"အရှင်ဘုရား ငိုနေတာကိုမြင်ရလို့ ငိုလျှင် မဂ်ဖိုလ်ရနိုင်တယ်လို့ ထင်မှတ်ပြီး ငါလည်း တစ်မဂ်တစ်ဖိုလ်၊ နှစ်မဂ်နှစ်ဖိုလ်လောက်တော့ ဖြစ်စေမယ်ကြံကာ ငိုနေတာပါ အရှင်ဘုရား"

ဟု နတ်သမီးက လျှောက်၏။

ဤသို့ နတ်သမီးက လျှောက်မှပင် မဟာသီဝ မထေရ်ကြီးမှာ သတိသံဝေဂရပြီး -

"အို-အမောင် မဟာသီဝ၊ နတ်သမီးကလေးကပင် မင်းကို ပြက်ရယ်ပြုနေချေပြီ။ ဒီအပြုအမူဟာ မင်းနဲ့ မသင့်တော်ပါလား"

ဟု မိမိကိုယ်ကို ဆင်ခြင်ဆုံးမ၏။

ထို့နောက် သမ္မပ္ပဓာန်လုံ့လကို ရှေးကထက် ထက်သန်စေလျက် ဝိပဿနာတရားကို ပွားများအားထုတ်တော်မူရာ မကြာမီကလေးမှာပင် ပဋိသမ္ဘိဒါပတ္တ ရဟန္တာအဖြစ်သို့ ရောက်တော်မူသွား၏။

ဤသည်တို့မှာ နတ်တို့က နှုတ်ဖြင့် ကူညီ စောင့်ရှောက်လေ့ရှိပုံ ကျမ်းဂန်လာ သာဓကများ ဖြစ်၏။

ပုဂံခေတ်တွင် အနော်ရထာဘုရင်၏ ခမည်းတော် ကြောင်ဖြူမင်းကြီးသည် မင်းမဖြစ်မီ ကွမ်းဆော်ဘဝက ကွမ်းဆော်သွားတိုင်း စောင်ချမ်းပင်ကြီးအောက်တွင် စားမြိန်စာထုပ်ကိုဖြေပြီး မိမိ မစားခင် စားဦးကို စောင်ချမ်းပင်တွင် အမြဲတင်ပြီးမှ စားလေ့ရှိ၏။

တစ်နေ့တွင် စောင်ချမ်းပင်စောင့်နတ်က ကိုယ်ထင်ပြကာ -

"သင်သည် စားမြိန်စားတိုင်း ငါ့အား စားဦးပေး၏။ သင် ဘုန်းကြီးလိုသော် သရဏဂုံ ပဉ္စသီလကို မြဲစွာ ဆောက်တည်ပါ။ သစ္စာ

စကားကို မှန်အောင်သုံးပါ။ အနုသတိဆယ်ပါးကို တစ်နေ့ နှစ်ထောင် ရအောင် စီးဖြန်းပါ"

ဟု သတိပေး ပြောဆို၏။

ကွမ်းဆော်လည်း ထိုနတ် ပြောသည့်အချိန်မှစ၍ နတ်ပြောသည့် အတိုင်း လိုက်နာပြုလုပ်ရာ မကြာမီ ပုဂံပြည်တွင် ကွမ်းဆော်ကြောင်ဖြူ အမည်ဖြင့် မင်းဖြစ်သွားသည်ဟု မှန်နန်းရာဇဝင်တော်ကြီး၌ လာရှိ၏။

## နတ်တို့ ကိုယ်ထိလက်ရောက် ကူညီကြပုံ

နတ်တို့က ကိုယ်ထိလက်ရောက် ကူညီစောင့်ရှောက်သည့် သာဓက အချို့မှာ ပင်လယ်ထဲတွင် မျောနေသော ဘုရားအလောင်း မဟာ ဇနက မင်းသားကို သမုဒ္ဒရာစောင့် မဏိမေခလာ နတ်သမီးကိုယ်တိုင် ပွေ့ယူ ကယ်တင်၍ မိထိလာပြည် ဥယျာဉ်တော်ရှိ ကျောက်ဖျာပေါ်သို့ အရောက်ပို့ခဲ့သည်ဟု မဟာဇနကဇာတ်တော်၌လာ၏။

သုဝဏ္ဏသာမ ဇာတ်တော်၌လည်း လွန်ခဲ့သည့် နနစ်ဘဝက အလောင်းတော် သုဝဏ္ဏသာမ၏ မယ်တော် ဖြစ်ခဲ့ဖူးသော ဗဟုသုန္ဒရီ နတ်သမီးသည် မြားမှန်၍ မေ့မြောနေသော ဘုရားလောင်း သုဝဏ္ဏသာမကို အသက်ရှင်အောင် ကိုယ်တိုင် စီစဉ်၍ ကိုယ်တိုင် သစ္စာပြုခဲ့သည်။

ဇာတ်ပါဠိတော် ဧကနိပါတ် ကုဏ္ဍကပူဝဇာတ်၌လည်း ဆန်ကွဲမုန့် ဖြင့် ပူဇော်ပသသော ဆင်းရဲသားယောကျ်ားအား ကြက်ဆူပင်စောင့်နတ်က ကြက်ဆူပင်အောက်ရှိ ရွှေအိုးဖြင့် သူဌေးဖြစ်အောင် မ,စခဲ့ကြောင်း တွေ့ရ၏။

တောထွက် ရဟန်းပြုလာသည့် ဘုရားလောင်းများ အတွက် သိကြားမင်း စေခိုင်းချက်ဖြင့် ဝိသကြုံနတ်သားသည် ကျောင်းသင်္ခမ်းနှင့် သင်္ကန်း ပရိက္ခရာ စသည်တို့ အဆင်သင့် ဖန်ဆင်းထားသည့်အကြောင်းကို တေမိဇာတ် စသော ထိုထို ဇာတ်တော်များ၌ ဖတ်ရှုရ၏။

ထို့ပြင် ကြောင်ဖြူမင်း ကွမ်းဆော်ဘဝက ပုဂံပြည်တွင် ပေါ်မည့် မင်းလောင်းကို သွားကြည့်ရာ သိကြားမင်းက သူ့အိုယောင် ဖန်ဆင်းလျက် မြင်းပျံ၊ အရိန္ဒမာလှံ၊ ပတ္တမြားဥသျှောင်ကျင်နှင့် လက်စွပ်တို့ကို အပ်နှင်း လိုက်ကြောင်း မဟာရာဇဝင်ကြီးနှင့် မှန်နန်းရာဇဝင်တို့၌ လာရှိ၏။





## နတ်များ မ,စခံရသော အရိယာအမျိုးသားနှင့် အနာထပိဏ်သူဌေးကြီး

သီလနိသံသဇာတ်၌လည်း ကဿပဘုရားရှင် လက်ထက်တွင် သောတာပန် အရိယာ အမျိုးကောင်းသား တစ်ယောက်သည် မိတ်ဆွေ ဆတ္တာသည် တစ်ယောက်နှင့်အတူ လှေစီး၍ ပင်လယ်ခရီးထွက်ခဲ့ကြ၏။

ခရီးထွက်၍ ခုနစ်ရက်မြောက်သည့်နေ့တွင် သမုဒ္ဒရာအလယ်တွင် လှေနစ်လေ၏။ သူငယ်ချင်း နှစ်ယောက်တို့သည် ပျဉ်ချပ်တစ်ခုကို ဖက်တွယ်မိကြသဖြင့် ကျွန်းငယ်တစ်ခုသို့ ရောက်ရှိသွားကြ၏။

ကျွန်းပေါ်တွင် ဆတ္တာသည်က ငှက်များကိုပစ်၍ ကင်စား၏။ ငှက်သားများကို သူငယ်ချင်း ဖြစ်သူအား ပေး၏။ သို့သော် အရိယာဖြစ်သူ အမျိုးသားသည် ငှက်သားကို လုံးဝ မစားဘဲ –

"ဒီလို နေရာမျိုးမှာ ငါ့အတွက် ရတနာသုံးပါးမှတစ်ပါး အခြား ကိုးကွယ်အားထားစရာ မရှိ"

ဟု စဉ်းစားကာ ရတနာသုံးပါးတို့၏ ဂုဏ်တော်များကိုသာ အဖန်ဖန်အထပ်ထပ် အောက်မေ့ပွားများနေ၏။

ထိုအခါ ကျွန်းမှာရှိသော နဂါးမင်းကြီးသည် သူ့ကိုယ်ကို လှေကြီးအဖြစ် ဖန်ဆင်းလိုက်၏။ သမုဒ္ဒရာစောင့်နတ်က လှေကြီးပေါ်တွင် လှေသူကြီးအဖြစ် လိုက်ပါသည်။

လှေပေါ်တွင်လည်း ရတနာခုနစ်ပါးတို့ဖြင့် ပြည့်နေ၏။ လှေ ရွက်တိုင်သုံးခုကို ဣန္ဒနီလာကျောက်သားဖြင့် ပြုလုပ်ထား၏။ လှေရွက်မှာ ရွှေရွက်ဖြစ်၍ ရွက်ကြိုးမှာ ငွေကြိုးများ ဖြစ်ကြသည်။ တက်မကြီးကား ရွှေတက်မကြီး ဖြစ်၏။

သမုဒ္ဒရာစောင့်နတ်က လှေသူကြီးဟန်ဖြင့် –

"ဇမ္ဗူဒိပ်ကျွန်းသို့ သွားလိုသူများ ရှိသလား"

ဟု ကြွေးကြော်လိုက်သတဲ့။

ထိုအခါ အရိယာ အမျိုးသားက –

"ကျွန်တော်တို့ သွားလိုကြပါတယ်" ဟု ပြောရာ –

"ဒါဖြင့် လှေပေါ်တက်" ဟု ဖိတ်ခေါ်၏။

လှေပေါ်ရောက်သည့်အခါ သူ့သူငယ်ချင်း ဆတ္တာသည်ကို လှမ်းခေါ်၏။

လှေသူကြီးက -

"သင့်ကိုပဲ ခေါ်မယ်။ ဟိုလူကို မခေါ်နိုင်ဘူး"

ဟုပြော၏။

"ဘာဖြစ်လို့ပါလဲ ခင်ဗျာ"

ဟု အရိယာအမျိုးသားက မေးသည့်အခါ -

"ဆတ္တာသည်မှာ အကျင့်သီလ မရှိသောကြောင့် မခေါ်နိုင်ကြောင်း" ပြော၏။

အရိယာအမျိုးသားက -

"ဒီလိုဆိုရင် ကျွန်ုပ် ပြုလုပ်သမျှ ကုသိုလ်အဖို့ကို အမျှဝေပါ၏"

ဟု ဆိုလိုက်ရာ ဆတ္တာသည်က သာဓုခေါ်လိုက်ပါသည်။

ထိုအခါ လှေသူကြီးက -

"ဒီလိုဆိုရင် ခေါ်သွားမယ်"

ဟုပြောပြီး ဆတ္တာသည်ကိုပါ လှေပေါ်တင်ကာ ဇာရာဏသီမြို့အရောက် ပို့ဆောင်ပေးလိုက်၏။ နတ်တန်ခိုးဖြင့် နှစ်အိမ်လုံးတွင် ဥစ္စာပစ္စည်းများကိုပါ ဖန်ဆင်းပေးခဲ့ကာ -

"ပညာရှိ သူတော်ကောင်းနှင့်သာ ပေါင်းသင်းသင့်သည်။ ဆတ္တာသည်သည် ဤအရိယာ အမျိုးသားနှင့်သာ မပေါင်းသင်းခဲ့မိပါက သမုဒ္ဒရာအလယ်မှာပင် နစ်မြုပ်ပျက်စီးရတော့မည်"

ဟု ဆုံးမ တရားဟောကြားကာ မိမိတို့ ဗိမာန်သို့ ပြန်သွားကြသည်ဟု လေ့လာဖတ်ရှုရပေသည်။

ထို့ပြင် ဓမ္မပဒလာ အနာထပိဏ် သူဌေးကြီးဝတ္ထု၌လည်း အနာထပိဏ်သူဌေးကြီး၏ အိမ်ဝင်းနှင့် စတုတ္ထတံခါးမုခ်ကိုစောင့်သောနတ်သည် သူဌေးကြီးအား မသင့်သည့်အကြံကို ပေးမိသဖြင့် အိမ်ဝင်းအတွင်းမှ နှင်ထုတ်ခံရရာ သူဌေးကြီး ကျေနပ်ရန် သိကြားမင်းအကြံပေးသည့်အတိုင်း သူဌေးကြီးထံမှ ချေးယူပြီး ပြန်မဆပ်ဘဲထားသော ၁၈ ကုဋေသော ဥစ္စာကို ပြန်ရအောင်ယူပြီး သူဌေးကြီး၏ ဘဏ္ဍာတိုက်ထဲ ထည့်ထား၏။





မြစ်ရေတိုက်၍ ကမ်းပါးပြိုကာ ရေထဲပါသွားသော ၁၈ ကုဋေသော သူဌေးကြီး၏ အမွေပစ္စည်းများကိုလည်း ယူဆောင်ပြီး သူဌေးကြီး၏ ဘဏ္ဍာတိုက်ထဲ ထည့်သွင်းပေး၏။

ပိုင်ရှင်မဲ့ ၁၈ ကုဋေသော ဥစ္စာတို့ကိုလည်း ယူဆောင်၍ ဘဏ္ဍာတိုက်ထဲ ထည့်ပေး၏။

ဤသို့ ၅၄ ကုဋေဥစ္စာများကို တံခါးမုခ်စောင့်နတ်က အနာထပိဏ် သူဌေးကြီးအား မ,စစောင့်ရှောက်သဖြင့် မူလနေရာသို့ ပြန်လည်နေထိုင်ခွင့် ရသွားပေသည်။

ဤတင်ပြခဲ့သော အကြောင်းအရာများမှာ နတ်များက လူများကို အကြောင်းအားလျော်စွာ မ,စ စောင့်ရှောက်နိုင်ကြောင်း ဘုရားဟော အထောက်အထား သာဓကများ ဖြစ်ပါသည်။

သို့သော် သတ္တဝါတို့၏ ဆင်းရဲခြင်း၊ ချမ်းသာခြင်း စသည်တို့မှာ ကံသာ အကြောင်းရင်းမူလရှိ၏ဟု ဘုရားဟောဒေသနာတော် ရှိပေသည်။

အကျိုးပေးသေးသော ကံ၏ အရာတွင် မည်သည့်အခါမျှ နတ်များက ဝင်၍ မစီရင်နိုင်။ မစွက်ဖက်နိုင်ပါ။

"သိကြားနတ်သျှင်
ကုသိုလ်ရှင်အား
မမြင်ရှောင်ကာ
မနေသာတည့်။
မြင်ပါလျက်ကဲ့
ကုသိုလ်မဲ့က
တိမ်းငဲ့မျက်နှာ၊ မရှုသာတည့်"

ဟု မဃဒေဝလင်္ကာ လာသည့်အတိုင်း ကံအကျိုးပေးချိန် မရောက်သေးသော ဆင်းရဲနေသူကို ချမ်းသာအောင် နတ်တို့ မည်သို့မျှ မကူညီနိုင်ချေ။

ကံအကျိုးပေးချိန် တန်သည့်အခါမှသာ နတ်များ ဝင်ရောက်ကူညီနိုင်ကြကြောင်း တင်ပြခဲ့သော အကြောင်းအရာများအရ ထင်ရှားသိသာ၏။

ထို့ကြောင့် -

'ကံဟုမူလ၊ သမ္ဗုဒ္ဓတို့၊

ဟောပြသည်မှာ၊ အရင်းသာရှင့်၊

ဥစ္စာဘောဂ၊ ဇီဝိတနှင့်

သုခပွားရန်၊ ဤလူ့ထံ၌၊

ဉာဏ်ဝီရိယ၊ ပယောဂတည်း'

ဆိုသကဲ့သို့ နတ်တို့ကို စောင့်စား မျှော်ကိုးမနေဘဲ မိမိတို့က ပယောဂသမ္ပတ္တိဆိုသည့် ဉာဏ်ဦးဆောင်သော ဝီရိယဖြင့်သာ ကြိုးစား အားထုတ်သင့်ကြပေသည်။

လူအများကို စောင့်ရှောက်တတ်သည့် နတ်များမှာ အထက်နတ်ဘုံများမှာ ရှိကြသည့် နတ်များ မဟုတ်ပေ။

လူသားတို့နှင့် နီးနီးကပ်ကပ် နေထိုင်ကြသည့် တောစောင့်နတ်၊ တောင်စောင့်နတ်၊ မြစ်စောင့်နတ် စသော ဘုမ္မစိုးနတ်၊ ရုက္ခစိုးနတ်များသာ ဖြစ်ကြ၏။

ဤနတ်များသည် စတုမဟာရာဇ်နတ်မျိုးတွင် ပါဝင်ကြသော ကြောင့် စတုမဟာရာဇ်နတ်များ အခန်း၌ နတ်များ မ,စနိုင်ပုံကို ဖော်ပြခြင်း ဖြစ်ပါသည်။

❒



## လူတို့အား ညှဉ်းပန်းနှိပ်စက်တတ်သော မိစ္ဆာနတ်များ

စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့၏ လက်အောက်ခံများ ဖြစ်ကြသည့် နတ်တို့တွင် ဖော်ပြခဲ့ပြီးသည့်အတိုင်း လူသားတို့အား အခါအားလျော်စွာ ကိုယ်၊ နှုတ်တို့ဖြင့် စောင့်ရှောက် မ,စကြသည့် နတ်မြတ်နတ်ကောင်း (သမ္မာဒေဝ) များ ရှိကြသကဲ့သို့ လူသားတို့အား ညှဉ်းပန်းနှိပ်စက်တတ်ကြသည့် နတ်ယုတ်၊ နတ်ဆိုး၊ မိစ္ဆာနတ်(မိစ္ဆာဒေဝ) အမျိုးမျိုးလည်း ရှိကြ၏။

မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ် တစ်ချိန်သောအခါက စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့သည် ကုဝေရ (ဝေဿဝဏ်) နတ်မင်းကြီး၏နေရာ အာဋာနာဋမြို့တော်၌ စည်းဝေးကြပြီး ဝိပဿီ၊ သိခီ၊ ဝေဿဘူ၊ ကကုသန္ဓ၊ ကောဏာဂမန၊ ကဿပ၊ ဂေါတမ ဟူသော ဘုရားခုနစ်ဆူတို့ကို ရှိခိုးဦးတည်၍ အာဋာနာဋိယပရိတ်ကို စီကုံးဖွဲ့ဆိုကြ၏။

ထို့နောက် -

"မြတ်စွာဘုရား၏ ဓမ္မစက်နှင့် ငါတို့၏ အာဏာစက်တို့ကို မလိုက်နာသူတို့အား ဤသို့ ဤသို့သော ဒဏ်ထားမှုကို ပြုကြကုန်အံ့"

ဟု ကြွေးကြော်ကြေညာပြီး ဘုရားရှင် သီတင်းသုံးတော်မူရာ ဂိဇ္ဈကုဋ်တောင်ကျောင်းသို့ အခြံအရံနတ်များနှင့်အတူ သွားရောက်ကြသည်။

ဘုရားရှင်ထံတော်မှောက်သို့ ရောက်ရှိကြသည့်အခါ ဘုရားရှင်နှင့် အထူး အကျွမ်းဝင်သည့်အပြင် စကားအရာ၌လည်း လိမ္မာလှသော ဝေဿဝဏ်နတ်မင်းကြီးက -



www.burmeseclassic.com

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ မြတ်စွာဘုရားအပေါ်၌ ကြည်ညိုကြသည့် တန်ခိုးကြီးငယ် အလယ်အလတ်ရှိသူ ယက္ခနတ်များ ရှိကြသကဲ့သို့ မြတ်စွာဘုရားအပေါ်၌ မကြည်ညိုကြသည့် တန်ခိုးကြီးငယ် အလယ်အလတ်ရှိသူ ယက္ခနတ်များလည်း ရှိကြပါသည်။

မြတ်စွာဘုရား၊ ယက္ခနတ်တို့သည် မြတ်စွာဘုရားကို မကြည်ညို ကြသည်ကသာ များကြပါကုန်၏။ အကြောင်းမှာ ရှင်တော်ဘုရားသည် သူ့အသက်သတ်မှု၊ သူ့ဥစ္စာခိုးမှု စသည့် မကောင်းမှုတို့ကို မပြုရန် ဟောကြားတော်မူပါသည်။ ထိုယက္ခနတ်တို့သည် ထိုမကောင်းမှုတို့ကို မရှောင်ကြဉ်သူကသာ များပါကုန်၏။ ဒုဿီလဖြစ်သည့် ယက္ခနတ်တို့အဖို့ ရှင်တော်မြတ်ဘုရား ဟောကြားသည့် ငါးပါးသီလ အကျင့်မြတ်သည် မနှစ်သက်ဖွယ်သာဖြစ်၍ နေပါ၏။

မြတ်စွာဘုရား၊ မြို့စွန်ရွာဖျား တောကျောင်းများမှာ နေထိုင်ကြ သည့် အရှင်ဘုရား၏တပည့်သာဝက ရဟန်းတော် အများအပြား ရှိကြပါ သည်။ ထိုအရပ်များ၌ ဘုရားသာသနာကို မကြည်ညိုကြသည့် တန်ခိုးကြီး ယက္ခနတ်များလည်း အများအပြား နေထိုင်လျက် ရှိကြပါသည်။

ထိုယက္ခနတ်တို့ ကြည်ညိုသဒ္ဓါ ဖြစ်လာကြရန် ရှင်တော်ဘုရား သည် ဤအာဋာနာဋိယ ပရိတ်အရံအတားကို ရဟန်း၊ ရဟန်းမ၊ ဥပါ သကာ၊ ဥပါသိကာမ တို့အား သင်ကြားပေးတော်မူပါ ဘုရား။

ဤအာဋာနာဋိယ ပရိတ်တော်သည် ထိုပုဂ္ဂိုလ်များအား ယက္ခနတ် တို့ မညှဉ်းဆဲ၊ မနှိပ်စက်နိုင်အောင် ကာကွယ် စောင့်ရှောက်မည်ဖြစ်၍ ထိုပုဂ္ဂိုလ်များ ချမ်းသာစွာ သွားလာနေထိုင်ကြရပါမည် ဘုရား"

ဟု လျှောက်တင်ကာ အာဋာနာဋိယပရိတ်တော်ကို မြတ်စွာဘုရား ခွင့်ပြုတော်မူချက်အရ အစမှ အဆုံးအထိ ရွတ်ဆိုလျှောက်ထား၏။

ပရိတ်တော် ပြီးဆုံးသည့်အခါ ဆက်လက် လျှောက်ထားပြန် သည်မှာ -

"မြတ်စွာဘုရား၊ ဤအာဋာနာဋိယ ပရိတ်တော်ကို သင်ကြား လေ့လာထားသည့် မြတ်စွာဘုရား၏ တပည့် သာဝက၊ သာဝိကာမ တစ်ဦးဦးကို ယက္ခနတ်၊ ဂန္ဓဗ္ဗနတ်၊ ကုမ္ဘဏ္ဍနတ်၊ နာဂနတ် တစ်ဦးဦးက





နှောင့်ယှက် ဖျက်ဆီးလိုသောစိတ်ဖြင့် ထပ်ပါးကပ်ကာ လိုက်ပါတည်နေ လျှင် ထိုနတ်သည် ရွာနိဂုံးတို့၌ ပူဇော်သက္ကာရပြုခြင်း၊ အရိုအသေ အလေးအမြတ်ပြုခြင်းကို မရ။

အာဠကမန္ဒာမည်သော ကျွန်ုပ်၏ မင်းနေပြည်တော်၌လည်း ဗိမာန်အိမ်ရာကို ဖြစ်စေ၊ အမြဲနေခြင်းကို ဖြစ်စေ မရနိုင်။ နတ်သဘင် အစည်းအဝေးသို့လည်း ဝင်ခွင့် မရနိုင်"

စသည်ဖြင့် လျှောက်ထားပြီး -

'လောက၌ မင်း၏ အမိန့်အာဏာကို မနာခံ ဖီဆန်ကြသည့် လူဆိုးသူဆိုးများ ရှိသကဲ့သို့ စတုမဟာရာဇ် နတ်မင်းကြီးတို့၏ အမိန့် အာဏာကို မနာခံ ဖီဆန်ကြသည့် နတ်ဆိုးများလည်း ရှိကြကြောင်း၊ အကယ်၍ ထိုနတ်ဆိုးတို့က ညှဉ်းပန်းနှိပ်စက်လာပါက ဣန္ဒ စတဲ့ နတ် စစ်သူကြီးတို့ထံ တိုင်တန်းပြောဆိုရန် အကြောင်းတို့ကို လျှောက်ထား၏'

ဟု သုတ်ပါထေယျ ပါဠိတော် အာဋာနာဋိယသုတ်၌ လေ့လာ ဖတ်ရှုရ၏။

ထို ဝေဿဝဏ် နတ်မင်းကြီး၏ လျှောက်ထားချက်များ အရ လောက၌ လူသားတို့အား ညှဉ်းပန်း နှိပ်စက်တတ်ကြသည့် နတ်ဆိုး နတ်ဝါး၊ နတ်မိစ္ဆာများရှိကြောင်း သိသာထင်ရှား၏။

ထို့ပြင် သုတ္တနိပါတ် ပါဠိတော် ဗြာဟ္မဏ ဓမ္မိကသုတ်၌ -

"ဩက္ကာကမင်း လက်ထက်၌ ယုတ်မာသော ဗြာဟ္မဏလူမျိုး တို့၏ ပယောဂကြောင့် လူတို့ အမဲသားငါး စားသောက်လာကြကုန်၏။ ထိုအခါ နတ်သိကြား ဗြဟ္မာတို့ လူများကိုရွံမုန်းပြီး လူ့လောကကို ဥပေက္ခာ ပြုကြကုန်ရာ ဘီလူး၊ ပြိတ္တာ နတ်မိစ္ဆာတို့ အခွင့်အရေး ရလာကြသည်။ နတ်ဆိုး နတ်ဝါးတို့သည် လူ ကျွဲ နွား စသော သတ္တဝါတို့အား ရောဂါ အမျိုးမျိုးဖြစ်အောင် ဖန်တီးကြ၏။ ညှဉ်းပန်းနှိပ်စက်ကြ၏"

ဟု ဟောတော်မူထားသည့်အပြင် တိကအင်္ဂုတ္တိုရ် ပါဠိတော်၌ ကပ်သုံးပါးတွင် ရောဂန္တရကပ်သည် နတ်ဆိုး နတ်ဝါး၊ နတ်မိစ္ဆာများ ကြောင့်လည်း ဖြစ်ကြောင်း ဘုရားရှင် ဟောတော်မူထားသည်ကိုလည်း တွေ့ရ၏။

## စာရေးသူနှင့် မိစ္ဆာနတ်များ

လွန်ခဲ့သော ၁၉၉၀ ပြည့်နှစ် အောက်တိုဘာလထဲမှာ ဖြစ်ပါသည်။ စာရေးသူထံသို့ မိစ္ဆာနတ်များ ရောက်လာကြပါသည်။

သူတို့ မရောက်လာမီက စာရေးသူမှာ သုံးလနီးပါးခန့် ညတိုင်းလိုလို ဘုန်းကြီး၊ ရဟန်းများကိုချည်း အိပ်မက် မြင်မက်နေပါသည်။ စာရေးသူ မတွေ့ဖူးဘူး၊ မမြင်ဖူးဘူးသည့် ဘုန်းကြီး ရဟန်းများသာ ဖြစ်၏။

တစ်ခါတစ်ရံ ထိုဘုန်းကြီးများကြားတွင် စာရေးသူကို ရဟန်းဝတ်ဖြင့် တွေ့ရ၏။ ထို့ကြောင့် -

'စာရေးသူအား ရဟန်းဝတ်ခိုင်းနေတာ ဖြစ်မှာပဲ' ဟု တွေးထင်ပြီး ဘုန်းတော်ကြီးကျောင်းတစ်ကျောင်းတွင် ငါးရက်မျှ သင်္ကန်းဝတ်လိုက်၏။ ရဟန်းဝတ်သည့်အချိန်မှစ၍ ဘုန်းကြီးများကို အိပ်မက်မက်ခြင်းများ လုံးဝပျောက်သွားပါသည်။

အိပ်မက် မြင်မက်ခြင်းများ ပျောက်သွားပြီး နှစ်လလောက်အကြာတွင် စာရေးသူထံ မိစ္ဆာနတ်များ ရောက်လာကြပါသည်။

ထိုအချိန်ကား စာရေးသူမှာ လနှင့်ချီပြီး စားမဝင်၊ အိပ်မပျော်ဖြစ်ကာ ကျန်းမာရေး ချို့တဲ့နေချိန် ဖြစ်ပါသည်။ ထိုမိစ္ဆာနတ်များ ရောက်လာခြင်းမှာ အညီရှိ ယင်အုံသည့်သဘော ဖြစ်ပါသည်။

သူတို့ ရောက်လာသည့်အချိန်မှာ နံနက် သုံးနာရီခန့် ဖြစ်၏။ စာရေးသူမှာ အိမ်ဦးရှိ စာကြည့်ခန်းတွင် တစ်ယောက်တည်း ခုတင်နှင့်အိပ်၍ နံနက်သုံးနာရီတွင် အမြဲ နိုးလေ့ရှိ၏။

စာရေးသူ နိုးနေချိန်တွင် နတ်ငါးဦး ရောက်လာပြီး ခုတင်ညာဘက်ခေါင်းရင်းတိုင်နားတွင် တစ်ဦး၊ ခြေရင်းဘက်ရှိ ခုတင်တိုင်နှစ်ခု အနီးတွင် နှစ်ဦးတို့ ခုတင်တန်းကိုကိုင်ပြီး မတ်တတ်ရပ်ကြပါသည်။

ကျန်နှစ်ဦးတွင် တစ်ဦးက ခုတင်နှင့်ကပ်နေသော ခေါင်းရင်းကုလားထိုင်တွင် ထိုင်၍ အခြားတစ်ဦးက ခြေရင်းဘက်ရှိ ကုလားထိုင်မှာ ထိုင်ပါသည်။ သူတို့ကို စာရေးသူ လုံးဝ မမြင်ရပါ။ သူတို့၏ စကားပြောဆိုသံများကိုသာ ကြားရ၏။ ထိုစကားပြောသံများအရ သူတို့ နေပုံထိုင်ပုံကို စာရေးသူသိခြင်း ဖြစ်ပါသည်။





ခုတင်မှာ အုတ်နံရံကို ကပ်ထားသည့်အတွက် အုတ်နံရံဘက်က ခုတင်ခြေရင်းတိုင်အနီးမှာ ဘယ်လိုလုပ်ပြီး ရပ်သလဲဟု သိချင်၍ ထိုနေရာကို မျက်စိဖွင့် ကြည့်မိ၏။

သို့သော် ရပ်နေသည့်နတ်ကို မမြင်ရပါ။ ခြင်ထောင်လှုပ်နေသည်ကိုသာ အပြင်ဘက်က အလင်းရောင်ဖြင့် မြင်ရပါသည်။

ထူးဆန်းသည်မှာ ထိုနတ်ငါးဦးထဲတွင် စာရေးသူ၏တပည့်တစ်ဦး ပါလာခြင်း ဖြစ်ပါသည်။ ထိုတပည့် ပါလာသည်ကို သူတို့ ပြောပြချက်အရ သိရ၏။ သူတို့ လာသည့်ကိစ္စမှာ အခြား မဟုတ်ပါ။ စာရေးသူ သေဖို့ လာရောက် တောင်းပန်ကြသည့်ကိစ္စ ဖြစ်ပါသည်။ မန္တိုင်းသင့်မန္တိုင်းထိုက်သော်လည်း ထင်ရှားအောင် ဥပမာပြရလျှင် မာန်နတ်မင်းက ဘုရားရှင်ထံ ရောက်လာပြီး -

'ပရိနိဗ္ဗာန်ပြုချိန် တန်ပါပြီ။ ပရိနိဗ္ဗာန်ပြုတော်မူပါတော့'

ဟု တောင်းပန်သကဲ့သို့ ဖြစ်ပါသည်။

စာရေးသူက နှုတ်ဖြင့် ပြန်၍ အဖြေ မပေးပါ။ စိတ်ထဲကသာ-

'ဒီနတ်တွေ မဟုတ်တာတွေ လာရှုပ်နေကြတာပဲ။ သတ္တဝါဟာကံသာ ကိုယ်ပိုင်ဥစ္စာရှိတာပဲ။ ကံကုန်တဲ့အခါ သေလိမ့်မပေါ့'

ဟု နှလုံးသွင်း၏။

စာရေးသူ၏စိတ်ကို သူတို့ သိကြဟန် ရှိပေသည်။

"ဦးအေးနိုင်ဟာ တယ်ခေါင်းမာတဲ့ပုဂ္ဂိုလ်ပဲ"

ဟုပြောပြီး သေဖို့ ထပ်တလဲလဲ တောင်းပန်ကြ၏။

စာရေးသူကလည်း ရှေးနည်း အတိုင်းပင် စိတ်က နှလုံးသွင်းကြံစည်တွေးတောခြင်းဖြင့် သူတို့ကို အဖြေပေး၏။

## အိမ်ရှိနတ်ကြီးသုံးပါးနှင့် မိုးကုတ်ကျပ်ပြင်ရပ်မှ နတ်မိစ္ဆာများ

စာရေးသူကို တောင်းပန်၍ မရသည့်အခါ အိမ်မှာ ရှိနေသည့်နတ်ကြီး သုံးပါးထံ ခွင့်ပန်ကြပြန်၏။ နတ်ကြီး နှစ်ပါးကသာ သဘောတူခွင့်ပြု၍ ကျန်နတ်ကြီးတစ်ပါးက သဘောမတူ ခွင့်မပြုသည့်အကြောင်းကို ထိုနတ်ကြီးတို့ ပြောသောစကားအရ စာရေးသူ သိရ၏။

ထိုမိစ္ဆာနတ်များ လာမှပင် စာရေးသူ၏အိမ်မှာ နတ်ကြီးသုံးပါး ရှိကြောင်း သိရ၏။ အိမ်၌ ရိုးရာအနေဖြင့် အိမ်တွင်း မင်းမဟာဂီရိနှင့် ပဲခူးဦးအောင်နိုင်တို့ ရှိကြ၏။ နတ်ကြီးသုံးပါးမှာ ထိုရိုးရာနတ်ကြီးနှစ်ပါးနှင့် အိမ်စောင့်နတ်တို့ ဖြစ်မည်ဟု ယူဆရ၏။

သဘောမတူသည့်နတ်ကြီးမှာ အိမ်စောင့်နတ်ကြီး ဖြစ်ဟန်တူပါသည်။ သူတို့က သဘောမတူသည့်နတ်ကြီးကို -

"ဦးအေးနိုင်မှာ နှလုံးရောဂါရှိသလား"

ဟု မေး၏။

နတ်ကြီးက -

"နှလုံးရောဂါတော့ မရှိဘူး။ လေရောဂါသာ ရှိတယ်။ သူက အသက်ရှည်မှာ"

ဟု ပြန်ပြောသံကို ကြားရ၏။

သူတို့သည် စာရေးသူ၏ဇနီးသည်နှင့် သားသမီးတို့၏ ကိုယ်စောင့်နတ်များထံလည်း ခွင့်ပန်ကြ၏။ ကိုယ်စောင့်နတ်များက သဘောမတူဘဲ ငိုကြွေးကြကြောင်း သူတို့ပြောစကားအရ သိရ၏။

ကာယကံရှင် စာရေးသူနှင့် အိမ်ရှိနတ်များက သဘောတူသည် ဖြစ်စေ၊ မတူသည် ဖြစ်စေ သူတို့ စာရေးသူအား သတ်ရန် စီမံကြသည်ကို သူတို့အချင်းချင်း ပြောနေကြသည့် စကားသံအရ သိရ၏။

သူတို့ လာရောက်ချိန်မှာ သီတင်းကျွတ်လဆန်း ၉ရက်နေ့ဖြစ်၍ သီတင်းကျွတ်လပြည့်နေ့ မတိုင်မီ စာရေးသူကို သတ်ကြမည်။ နေ့ည အချိန် နှစ်မျိုးတွင် ညအချိန်မှာ သတ်မည်ဟု ဆုံးဖြတ်ကြ၏။ သူတို့ စာရေးသူ၏အိမ်ထဲသို့ ဝင်နိုင်ရန် လေးငါးခြောက်လခန့် ကြိုးစားကြရသည်ဟုလည်း ပြောကြ၏။ သူတို့ အိမ်မှ ပြန်လည် ထွက်ခွာခါနီးတွင်-

"မိုးကုတ်မြို့ ကျပ်ပြင်ရပ် နတ်အဖွဲ့ စခန်းသိမ်းပြီ"

ဟု ဆိုပြီး နံနက် ၅ နာရီထိုးလုနီးအချိန်တွင် အိမ်ဦးခန်း ပြတင်းပေါက်မှ ထွက်ခွာသွားကြပါသည်။

ထိုအခါမှပင် သူတို့သည် မိုးကုတ်မြို့ ကျင်ပြင်ရပ်မှ နတ်များ ဖြစ်ကြောင်း တိတိကျကျ သိရတော့သည်။





## အသံကောင်းတဲ့ မိစ္ဆာနတ်သမီး

ထိုမိစ္ဆာနတ်များ ထွက်ခွာသွားကြသည်နှင့် တစ်ပြိုင်နက် မိစ္ဆာနတ်သမီးတစ်ဦး စာရေးသူ၏ခုတင်နား ရောက်လာပြီး -

"သဲ-ငါ့ကို မြင်စေသတည်း"

ဟု အသံကျယ်ကျယ်နှင့် ဆိုလိုက်၏။

စာရေးသူက မြင်လိုဇောနှင့် မျက်စိဖွင့်ကြည့်လိုက်၏။ ဘာမှ မမြင်ရ။ သူက -

"အလို၊ မြင်လည်း မမြင်ရပါလား"

ဟု ဆိုပြီး နောက်တစ်ကြိမ် -

"သဲ-ငါ့ကို မြင်စေသတည်း"

ဟု ဆိုပြန်၏။

ဤအကြိမ်မှာလည်း စာရေးသူ မမြင်ရပါ။

သူကလည်း -

"အလို-မြင်လည်း မမြင်ရပါလား"

ဟု ပြောပြီး သီချင်းဆိုကာ ငိုချင်းချပါတော့သည်။

နတ်သမီးကို မမြင်ရသော်လည်း သူ၏အသံမှာ နားထောင်၍ အလွန်ကောင်းပါသည်။

ကြည်လင်သာယာ အသံဝါကြီးဖြင့် အော်ဟစ် သီဆိုလိုက်သည့် သီချင်းသံမှာ လွန်စွာ နာပျော်ဖွယ်ရာ ရှိလှပါသည်။ သီဆိုသည့် သီချင်းအားလုံးကို မမှတ်မိသော်လည်း -

"သကျသာကိန် မာရဇိန်၏၊

ဇာနိန်ဖြစ်ညား၊ သားတော်တစ်ပါးကို..."

ဆိုသည့် ငိုချင်းအစကိုမူ မှတ်မိပါသေးသည်။

သီချင်း၏ လိုရင်းအဓိပ္ပာယ်မှာ -

"မြတ်စွာဘုရားရဲ့ တပည့်သားတစ်ယောက်ဖြစ်သည့် စာရေးသူကို မသတ်လိုဘဲနှင့် သတ်ရပါတော့မယ်" ဟု ဖြစ်ပါသည်။

မိစ္ဆာနတ်သမီးသည် သီချင်းဆိုလျက် အိမ်တွင်းရှိ လှေကားမှ အောက်ထပ်ဆင်းကာ အသံပျောက်သွားပါတော့သည်။

## နေ့လယ်မှာပင် ဝင်လာသော နတ်မိစ္ဆာနှစ်ဦး

နတ်သမီး ကွယ်ပျောက်သွားသောအခါ စာရေးသူ၏ အမျိုးသမီး ရောက်လာ၍ စာရေးသူက ဖြစ်ကြောင်းကုန်စင် ပြန်လည် ပြောကြားရာ အမျိုးသမီးက စိတ်အားမငယ်ရန် အမျိုးမျိုး အားပေး၏။

နံနက်လင်းချိန်တွင် စာရေးသူသည် အိမ်တွင်းခန်းသို့ ပြောင်းရွှေ့နေထိုင်၏။ စိတ်မှာ မကြည်လင်လှ။ အားငယ်သယောင်ရှိ၏။

နံနက် ၉ နာရီတွင် အမျိုးသမီးက ကိုးကွယ်နေသည့် ဘုန်းကြီးတစ်ပါးကို ပင့်လာ၏။ ထိုဘုန်းကြီးမှာ ဉစ္စာစောင့်အစွဲကို ချွတ်ပေးနိုင်၏။ သိုက်ကြိုးဖြတ်နိုင်၏။

စာရေးသူက ဘုန်းတော်ကြီးအား ဖြစ်ကြောင်းကုန်စင် လျှောက်တင်သည့်အခါ ဘုန်းတော်ကြီးက –

"ဒကာကြီးလို ဖြစ်ပုံမျိုး ဘုန်းကြီး တစ်ကြိမ်တစ်ခါမျှ မကြုံဖူး၊ မကြားဖူးဘူး" ဟု အမိန့်ရှိ၏။

ထို့နောက် စာရေးသူအား ဘုရားခန်းထဲသို့ ခေါ်သွားကာ ဘုရားရှေ့မှာ အာရုံပြုခိုင်း၏။ ဘုရားခန်းရှိ မှန်တံခါးတွင် ရေးထားသည့် အရဟံဂုဏ်တော်သုံးမျိုးကို ပွားများရန် မှာကြားပြီး ပြန်ကြွသွား၏။

နေ့လယ်ပိုင်းတွင် စာရေးသူသည် ခုတင်ပေါ်တွင် လဲလျောင်းရင်း ဘုရားဂုဏ်တော်များကို အောက်မေ့ပွားများနေပါသည်။ အမျိုးသမီးလည်း စာရေးသူအနီးတွင် ရှိနေ၏။

ထိုအချိန်တွင် နတ်နှစ်ဦး အခန်းထဲသို့ ဝင်ရောက်လာပြီး စာရေးသူတို့နှင့် ၁၂ တောင်ခန့်အကွာရှိ ပြတင်းပေါက်နားတွင် ရပ်ကြပါသည်။ သူတို့ကိုကား မမြင်ရပါ။ သူတို့ ပါးစပ်မှ ပဲလှော်ဝါးသံကဲ့သို့ အသံမျိုးနှင့် သူတို့စကားပြောသံများအရ သူတို့ ရောက်လာကြောင်း သိရ၏။ နတ်တစ်ဦးက–

"တယ် ကြင်ကြင်နာနာ ရှိကြပါလား"

ဟုဆိုရာ ကျန်တစ်ဦးက –

"ကြင်နာမှာပေါ့ ပါရမီရှင်ကိုး"

ဟု အပြန်အလှန် ပြောဆိုသံကိုလည်း ကြားရ၏။

မကြာမီ သူတို့ ပြန်ဆင်းသွားကြ၏။ သူတို့ပြန်သွားမှ –





"တံခါးမရှိ၊ ဓားမရှိ အိမ်ထဲ ဝင်ချင်သလို ဝင်နေကြသည့် နတ်မိစ္ဆာများကို မဝင်နိုင်အောင် စည်းချမှဖြစ်မည်"

ဟု စာရေးသူ သတိရလာ၏။

## ဘုန်းတော်ကြီး၏ ပရိတ်တန်ခိုးနှင့်အကျိုး

ထို့ကြောင့် အမျိုးသမီးနှင့် တိုင်ပင်ပြီး အနီးအနားရှိ ကျားကူးကျောင်း ဘုန်းကြီးကိုပင့်ကာ ညဘက်တွင် ပရိတ်တရား နာယူ၏။

ဘုန်းကြီးက ပရိတ်ရွတ်ရန် ခုတင်ပေါ် ထိုင်ချိန်တွင် နတ်တစ်ဦးက စာရေးသူ၏နားမှကပ်ပြီး ရှမ်းဘာသာကဲ့သို့ ဘာသာတစ်မျိုးနှင့် ပြော၏။ စာရေးသူ ဘာမှနားမလည်ပါ။ နတ်ဆိုင်းသံများလည်း ဆူညံစွာ ပေါ်လာ၏။ စာရေးသူသာ ကြားရ၏။

သို့သော် ဆရာတော် ပရိတ်တရား ချီးမြှင့်ချိန်မှစပြီး နတ်ဆိုင်းသံများမှာ တဖြည်းဖြည်းဝေးကာ အသံသေးသွားရာ တရားမဆုံးမီ အသံများ လုံးဝ ပျောက်ကွယ်သွားပါတော့သည်။

ဆရာတော်ကလည်း ပရိတ်တရားတော်များအပြင် ပဌာန်းနီယကမ္မဝါစာနှင့် စည်းချဂါထာ စသည်များကို ရွတ်ဖတ် ချီးမြှင့်ပေးပါသည်။ သစ္စာလည်း ဆိုပါသည်။

ဆရာတော် ပရိတ်ရွတ်ဖတ် ချီးမြှင့်ပေးချိန်မှစ၍ စာရေးသူအား လာရောက် နှောင့်ယှက်နေကြသည့် နတ်မိစ္ဆာများ လုံးဝ ပျောက်ကွယ်သွားကြပါသည်။ ယခု အချိန်အထိ တစ်ခါတစ်ခေါက်မှ မလာရောက်ကြတော့ပါ။ နောင်လည်း လာရောက်နိုင်ကြတော့မည် မဟုတ်ဟု ယုံကြည်ပါသည်။ သူတို့အားလည်း နေ့စဉ် အမျှဝေ၊ မေတ္တာပို့သနေပါသည်။

လောကကြီးကား ဆန်းကြယ်လှ၏။ ဤအကြောင်းအရာမှာ စာရေးသူ၏ တကယ့်ကိုယ်တွေ့ဖြစ်ရပ်မှန် ဖြစ်၏။

လောကတွင် ပုဏ္ဏားကတိုက် စတဲ့ နတ်တိုက်များ ရှိသကဲ့သို့ စုန်းတိုက်များလည်း ရှိ၏။ ယခု အဖြစ်အပျက်မှာ စာရေးသူတို့အား နတ်မိစ္ဆာများနှင့်တိုက်သည်ဟု ယူဆရ၏။ စာရေးသူမှာ မကျန်းမာဘဲ ကံနိမ့်နေချိန်ဖြစ်၍ စာရေးသူအား အကျိုးသက်ရောက်ခြင်း ဖြစ်သည်ဟု ယူဆရသည်။

ဤဖြစ်ရပ်မှန်ကို တင်ပြခြင်းမှာ ကုဝေရ စသည့် နတ်မင်းကြီး လေးပါးတို့က နတ်မိစ္ဆာတွေရှိကြောင်း၊ သတ္တဝါတွေကို ညှဉ်းပန်းနှိပ်စက် တတ်ကြောင်း စသည်ဖြင့် ဘုရားရှင်အား လျှောက်ထားချက်မှာ အမှန် ဖြစ်ကြောင်း သက်သေထူပြခြင်း ဖြစ်သည်။

ဤဖြစ်ရပ်မှန်အရ နတ်မင်းကြီးများ လျှောက်ထားသကဲ့သို့ နတ် မိစ္ဆာများ တကယ်ရှိသည်။ လူ စသော သတ္တဝါတွေကို ညှဉ်းပန်းနှိပ်စက် သတ်ဖြတ်တတ်သည်။

သို့သော် အာဋာနာဋိယ စသော ပရိတ်တရားတော်များကို အလွန် ကြောက်ကြသည်။ စကြဝဠာ ကုဋေတစ်သိန်း (အာဏာခေတ်) အထိ အာဏာစက် ပျံ့နှံ့သော ဘုရားရှင်၏ ပရိတ်တရားနှင့် ကမ္မဝါစာ စည်းချ ဂါထာတို့၏ အစွမ်းသတ္တိ အမှန်တကယ် ရှိသည်ဟု အကြွင်းမဲ့ ယုံကြည် ကြရန် ဖြစ်ပါသည်။

▢



# မြင့်မိုရ်တောင်ကြီးနှင့် အသုရာပြည်

ဤကမ္ဘာ လောကဓာတ်ကြီး အတွင်း၌ သမုဒ္ဒရာရေပြင်ကြီး ရှိသည်။ ထိုရေပြင်ကြီး၏ အနက်ဆုံး နေရာသည် ယူဇနာ ရှစ်သောင်း လေးထောင်နက်၏။ ယင်းနေရာကား စကြဝဠာတိုက်ကြီး၏ အလယ်ဗဟို တည့်တည့်ပင် ဖြစ်၏။

ထိုနေရာတွင် ယူဇနာ တစ်သိန်း ခြောက်သောင်း ရှစ်ထောင် (၁၆၈၀၀၀) မြင့်သော မြင့်မိုရ်တောင်ကြီး တည်ရှိ၏။

မြင့်မိုရ်တောင်ကြီးသည် သမုဒ္ဒရာရေပြင်ကြီး၏ အထက်တွင် ယူဇနာရှစ်သောင်းလေးထောင် ပေါ်ထွက် မြင့်တက်နေ၍ သမုဒ္ဒရာရေ၏ အတွင်း၌ ယူဇနာ ရှစ်သောင်းလေးထောင် နစ်မြုပ်လျက်ရှိသည်။

ထို့ကြောင့် 'ရှစ်သောင်းလေးထောင် နစ်ပြန်ဆောင်၊ အခေါင် မြင့်မိုရ်တောင်' ဟု ပညာရှင်တို့ ဆိုထုံးပြုကြခြင်း ဖြစ်သည်။

ထိုမြင့်မိုရ်တောင်ကြီးသည် လေးထောင့်ပုံ မဟုတ်ဘဲ ဆလင်ဒါပုံ လုံးဝန်းသော ပုံသဏ္ဍာန်ရှိ၍ အချင်း ယူဇနာလည်း ရှစ်သောင်းလေးထောင် ပင်ရှိသည်ဟု ကျမ်းဂန်များ၌ ဆို၏။

ထိုမြင့်မိုရ်တောင်ကြီး၏ အောက်ခြေတွင် ခြေထောက်ကြီးများ သဖွယ် အထွတ်ကြီးသုံးခု ရှိ၏။

ထိုအထွတ်ကြီးသုံးခုတို့သည် အောက်ဘက်ရှိ ကျောက်မြေသား နှင့်စပ်လျက် ဖိုခနောက်ကြီးများသဖွယ် တည်ရှိနေကြသည်။ စင်စစ်အားဖြင့် ထိုအထွတ်ကြီး သုံးခုတို့သည် ကျောက်သားမြေနှင့် တစ်စပ်တည်း

တည်နေကြ၍ မြင့်မိုရ်တောင်ကြီးသည် ထိုအထွတ်ကြီး၌ ယူဇနာ လေးထောင်အထိ အတွင်းဝင်လျက် ရှိသည်ဟု သုတ်ပါထေယျ အဋ္ဌကထာ၊ ဇိနာလင်္ကာရဋီကာ ကျမ်းများ၌ မိန့်ဆိုထား၏။

## အသုရာပြည်နှင့် အသုရာနတ်များ

ထိုအထွတ်ကြီး သုံးခုတို့၏အလယ်တွင် ယူဇနာ တစ်သောင်း ကျယ်သော အသုရာပြည်ကြီး ရှိသည်။

မှန်၏။ ဤစကြဝဠာ ကမ္ဘာလောကဓာတ်ကြီးအတွင်း၌ ယူဇနာ တစ်သောင်း အကျယ်အဝန်းရှိသော နေရာဌာနကြီးလေးခုရှိသည်။

ထိုလေးခုမှာ –

(၁) တာဝတိံသာနတ်ပြည်၊

(၂) အသုရာပြည်၊

(၃) ဇမ္ဗူဒီပါတောင်ကျွန်းနှင့်

(၄) အဝီစိငရဲကြီးတို့ ဖြစ်သည်ဟု ပါရာဇိကဏ် အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ စသော ကျမ်းများက မိန့်ဆိုထား၏။

ထိုလေးဌာနကို **သောင်းလေးရပ်** ဟု ပညာရှင်များက ဆိုထုံးပြု ကြသည်။

ထိုအသုရာပြည်ကြီးတွင် အကြီးအမှူး အသုရိန်နတ်ကြီးသုံးဦး ရှိ၏။ ထိုနတ်ကြီးများမှာ ဝေပစိတ္တိအသုရိန်၊ ရာဟုအသုရိန်နှင့် မဟာရာဒ အသုရိန်တို့ ဖြစ်သည်ဟု အင်္ဂုတ္တရအဋ္ဌကထာ၌ မိန့်ဆိုထား၏။

သို့ရာတွင် အသုရာပြည်ကြီး တစ်ခုလုံးကိုမူ ဝေပစိတ္တိ အသုရိန် နတ်မင်းကြီး အုပ်ချုပ်သည်။

ထို အသုရာပြည်ကြီးသည် သိကြားမင်းစံရာ တာဝတိံသာ နတ်ပြည်ကဲ့သို့ ဥယျာဉ်ဗိမာန်၊ ရေကန်၊ ပြာသာဒ် အဆောက်အအုံတို့ဖြင့် သာယာစည်ကားသည်ဟု ဆိုပေသည်။ ကျောက်သားမြေ (သိလာပံသု) ပေါ်တွင် တည်ရှိနေသောပြည် ဖြစ်၏။

ထိုအသုရာနတ်ပြည်၏အလယ်တွင် ကမ္ဘာသစ်ပင်ကြီး ခုနစ်ပင်၌ ပါဝင်သော ယူဇနာတစ်ရာမြင့်သည့် သခွတ်ပင်ကြီး ရှိသည်။





ထိုအသုရာပြည်ရှိနတ်တို့ကို တာဝတိံသာနတ်တို့နှင့် ဆန့်ကျင် ဘက် ဖြစ်သောကြောင့် သုရာဟုခေါ်ခြင်း ဖြစ်သည်။

(အ=ဆန့်ကျင်ဘက်+သုရ=တာဝတိံသာနတ်)

ထိုအသုရာနတ်များသည် တာဝတိံသာနတ်မျိုးတွင် ပါဝင်ကြ၏။

မှန်ပေ၏။ သိကြားမင်း (မာဃ) ဦးဆောင်သည့် သုံးကျိပ် သုံးယောက်သော နတ်ကြီးများ တာဝတိံသာနတ်ပြည်သို့ ရောက်မလာမီ တာဝတိံသာနတ်ပြည်တွင် အသုရာနတ်များ နေထိုင်ကြသတဲ့။

ထိုနတ်များသည် အရက်ကို အိုးကြီးများနှင့် တည်ထားပြီး အလွန် အကျူး အထူးသောက်စား မူးယစ်ကြသည်။

မာဂဓတိုင်း မစလရွာသားများ ဖြစ်ကြသော မာဃလုလင် ခေါင်းဆောင်သည့် သုံးကျိပ်သုံးယောက်သော ယောကျ်ားတို့သည် အားကြီးသော ကုသိုလ်ကံကြောင့် တာဝတိံသာနတ်ပြည်၌ နတ်များ ဖြစ်လာကြသောအခါ တာဝတိံသာနတ်ပြည်ရင်းသား အသုရာနတ်များက နောက်မှ ရောက်လာကြသည့် ဧည့်သည်နတ်တို့အား နံ့သာဖျော်ရည် ခေါ် အရက်များနှင့် ဧည့်ခံကြသည်။

သိကြားမင်း မာဃသည် ပါးနပ်လိမ္မာသည့်နတ်ဖြစ်၍ မိမိ၏ နောက်ပါ နတ်ပရိသတ်တို့အား –

“တပည့်တို့၊ အရက်ကို တကယ်မသောက်ကြနဲ့၊ သောက်ဟန် သာဆောင်ကြ” ဟု သတိပေး၏။

အသုရာနတ်တို့ကား ရွှေခွက်များ ကိုယ်စီဖြင့် အလွန်အကျူး သောက်စားမူးယစ်ကြလေရာ ရွှေသားမြေပြင်ပေါ်သို့ အားလုံး လဲကျမေ့မူး နေကြလေတော့သည်။

ထိုအခါ မာဃ အမှူးရှိသော နောက်ရောက်နတ်များက အသုရာ တို့၏ ခြေတို့ကို ဆွဲကိုင်ကာ မြင့်မိုရ်တောင်ခြေသို့ ပစ်ချလိုက်ကြ၏။

သိကြားမင်း၏ တန်ခိုးအာနုဘော်ကြောင့် အသုရာနတ်များ အားလုံး မြင့်မိုရ်တောင်ခြေသို့ ကျသွားကြလေသည်။

အသုရာတို့သည် မြင့်မိုရ်တောင် အလယ်လောက် အရောက်တွင် သတိပြန်ရလာကြပြီး –

"ငါတို့ အရက်မသောက်ကြတော့ဘူး။ ငါတို့ အရက်မသောက်ကြတော့ဘူး"

ဟု အော်ဟစ်ကြသည်။

ထိုအခါမှစ၍ ထိုနတ်တို့အား အသုရာဟု ခေါ်ဝေါ်ကြသည်ဟုလည်း သဂါထာဝဂ္ဂ သံယုတ် အဋ္ဌကထာ၌ မိန့်ဆိုထားသည်။

(အ=မသောက်တော့+သုရ=အရက်ကို)

မြင့်မိုရ်တောင်ခြေသို့ ရောက်သောအခါ ထိုအသုရာနတ်တို့၏ ကံကြောင့် တာဝတိံသာနတ်ပြည်ကဲ့သို့ပင် ယူဇနာတစ်သောင်းကျယ်သော အသုရာနတ်ပြည်ကြီး ဖြစ်ပေါ်လာပေသည်။

ထိုအသုရာပြည်သည် သိကြားမင်းစံရာ တာဝတိံသာနတ်ပြည် အတိုင်း ဥယျာဉ်၊ ဗိမာန်၊ ရေကန်၊ ပြာသာဒ် စသော နတ်အဆောင်အယောင်တို့ဖြင့် ကြီးကျယ်ခမ်းနားလှသည်ဟု ဆိုပေသည်။ အသုရာနတ်များ၏ သက်တမ်း၊ အခြံအရံ၊ ကိုယ်ရောင်ကိုယ်ဝါ၊ စည်းစိမ်ချမ်းသာ စသည်တို့မှာ တာဝတိံနတ်တို့နှင့် တူကြသည်။

မတူသည့်အချက်မှာ တာဝတိံသာနတ်ပြည်တွင် ယူဇနာတစ်ရာ မြင့်သော ပင်လယ်ကသစ်ပင်ကြီးရှိ၍ အသုရာနတ်ပြည်တွင် ယူဇနာတစ်ရာမြင့်သော သခွတ်ပင်ကြီး ရှိခြင်းပင် ဖြစ်သည်။

## ဝေပစိတ္တိ အသုရိန်နတ်မင်းကြီး

ဝေပစိတ္တိ အသုရိန် နတ်မင်းကြီး၏ မူလ အမည်ရင်းမှာ အမ္ဗရ အသုရိန် ဖြစ်သည်။

အခါတစ်ပါး၌ များစွာသော ရသေ့တို့သည် သမုဒ္ဒရာကမ်းအနီး၌ သစ်ရွက်မိုးသော ကျောင်းကလေးများတွင် သီတင်းသုံး နေထိုင်ကြသတဲ့။ ကောင်းမြတ်သော ကိုယ်ကျင့်တရားရှိကြ၍ သီလ အလွန်စင်ကြယ်ကြ၏။

တစ်ချိန်တွင် တာဝတိံသာနက်များနှင့် အသုရာနတ်တို့ စစ်ဖြစ်ကြ၏။

သူတို့ စစ်ပွဲသည် အများအားဖြင့် မဟာသမုဒ္ဒရာ ရေမျက်နှာပြင် အထက်၌ ဖြစ်လေ့ရှိ၏။





စစ်ပွဲတွင် အသုရာနတ်တို့ နိုင်သည့်အခါ အလွန်နည်း၏။ အသုရာနတ်တို့ စစ်ရှုံး၍ ဟိုဟိုဒီဒီ ထွက်ပြေးကြသောအခါ ရသေ့တို့၏ ကျောင်းသင်္ခမ်းများအနီးမှ ဖြတ်သန်း ပြေးသွားတတ်ကြ၏။

ထိုအခါ စစ်ရှုံး အသုရာတို့သည် –

"သိကြားမင်းဟာ ရသေ့တွေထံ ဆည်းကပ်လေ့ရှိတယ်၊ ဒီရသေ့တွေထံမှ အကြံဉာဏ်ယူပြီး ငါတို့ကို စစ်တိုက်ဖျက်ဆီးတာ ဖြစ်ရမယ်"

ဟု ပြောဆိုကာ သင်္ခမ်းကျောင်းများ၊ သောက်ရေအိုးများ၊ စင်္ကြံသွားရာ ကျောင်းဆောင်များကို ဖျက်ဆီးသွားကြလေ့ရှိ၏။

ရသေ့တို့ သစ်သီးရှာရာမှ ပြန်လာသည့်အခါ ထိုအပျက်အစီးများကို ခဲခဲယဉ်းယဉ်း ပြန်လည် ပြုပြင်ကြရ၏။ ထို့ကြောင့် ယခု တစ်ကြိမ် စစ်ဖြစ်ချိန်ဝယ် ရှေးကကဲ့သို့ အဖျက်အဆီး မခံရရန် အမ္ဗရအသုရိန် နတ်မင်းကြီးထံသွား၍ ဘေးမဲ့ပေးရန် ရသေ့တို့ တောင်းခံကြသည်။

အမ္ဗရ အသုရိန် နတ်မင်းကြီးက –

"မကောင်းတဲ့အလိုဆန္ဒလည်းရှိ၊ ကျွန်ုပ်တို့ရဲ့ရန်သူ သိကြားမင်းရဲ့ ဆရာတွေလည်းဖြစ်ကြတဲ့ သင် ရသေ့တွေကို ဘေးမဲ့မပေးနိုင်။ ဘေးကိုသာ ပေးလှူမယ်"

ဟု ပြောကြားသည့်အခါ သူတော်စင် ရသေ့များက –

"အမ္ဗရအသုရိန်၊ ငါတို့က ဘေးမဲ့ကို တောင်းခံပေမယ့် သင်က ဘေးကိုသာ ပေးလှူတယ်၊ သင့်အလှူကို ငါတို့ ခံယူပါတယ်။ ဒီလို ငါတို့ကို ဘေးရန် လှူရတဲ့အတွက် သင့်မှာလည်း ဘေးအတန်တန်၊ ရန်အသွယ်သွယ်ဟာ မကုန်မခန်း တင်းကျမ်း ပြည့်စုံပါစေ။

အို–အမ္ဗရအသုရိန်၊ လောကမှာ မိမိ ကြဲချစိုက်ပျိုး သစ်စေ့မျိုးနှင့် အလားတူသော အသီးကိုသာ ရရိုးထုံးစံ ရှိ၏။ ကောင်းမှုပြုလေ့ရှိသူသည် ကောင်းကျိုးကို ခံစားရသကဲ့သို့ မကောင်းမှု ပြုလေ့ရှိသူသည်လည်း မကောင်းကျိုးကို ခံစားရမြဲ ဖြစ်၏။

သင်သည် ယခု ဘေးရန်အလှူဟူသော မကောင်းသော မျိုးစေ့ကို စိုက်ပျိုးကြဲချလိုက်သည့်အတွက် မကောင်းသောအကျိုး ဟူသော အသီးကိုသာ မုချမသွေ စားရပေမယ်" ဟု မိန့်ဆိုကြသည်။

သူတော်စင် ရသေ့တို့၏ ကျိန်စာအသင့်ခံရသော အမ္မရ အသုရိန် နတ်မင်းကြီးသည် ညဥ့်စာစားပြီးနောက် အိပ်ရာထက်သို့ရောက်၍ အိပ်ပျော်လုနီး ရှိသောအခါ သူ၏ ပကတိ စည်းစိမ်မှာ လုံအစင်းပေါင်း တစ်ရာ လောက်ဖြင့် ဝိုင်း၍ အထိုးခံနေရသကဲ့သို့ ထင်မြင်လာကာ လန့်ဖျပ်၍ အော်ဟစ်လိုက်မိ၏။

အခြား အသုရာစစ်သည်တို့ ရောက်လာပြီး အကျိုးအကြောင်း မေးကြသောအခါ ဘာမှ ဖြစ်သည်ကို မတွေ့ရချေ။

ထို့အတူပင် ညဥ့်လယ်နှင့် မိုးသောက်ချိန်များ၌လည်း လန့်၍ လန့်၍ အော်ဟစ်နေရ၏။

ထိုအချိန်မှစ၍ ပြင်းထန်စွာ တုန်လှုပ်ချောက်ချားသောစိတ်သည် ထိုအမ္မရ အသုရိန်ကြီး သန္တာန်၌ မကြာ မကြာ ဖြစ်ပေါ်နေတော့၏။

ထို့ကြောင့် သူ့ကို ဝေပစိတ္တိ အသူရိန် ဟု ခေါ်ဝေါ်ကြသည်။

(ဝေပ=တုန်လှုပ်သော+စိတ္တိ=စိတ်ရှိသူ)

## ရာဟုအသုရိန်နှင့် နေနတ်သား

ရာဟုအသုရိန် ဆိုသည်မှာ အသုရာပြည်ကိုအုပ်စိုးသည့် အသုရာ နတ်မင်းကြီး သုံးဦးတို့တွင် တစ်ဦး ဖြစ်သည်။

အမည်ရင်းမှာ ရာဟု ဖြစ်၍ အသုရာပြည်ကို အစိုးရသောကြောင့် ပါဠိလို အသုရိန္ဒ၊ မြန်မာလို အသုရိန်ဟု ခေါ်သည်။

ရာဟုအသုရိန်နတ်မင်းကြီး၏ ခန္ဓာကိုယ်ကား ကြီးမားလှ၏။ အရပ်မှာ ယူဇနာလေးထောင့်ရှစ်ရာ (၄၈၀၀) မြင့်၏။ လက်မောင်းနှစ်ခု၏ အကြား ရင်အုပ်ကား ယူဇနာ တစ်ထောင့်နှစ်ရာ (၁၂၀၀) ရှိ၏။ ထုအားဖြင့် ယူဇနာခြောက်ရာ (၆၀၀) ရှိ၏။ ဦးခေါင်းမှာ ယူဇနာနှစ်ရာ (၂၀၀)၊ အနက်မှာမူ ယူဇနာသုံးရာ (၃၀၀) ရှိ၏။ မျက်ခုံးနှစ်ခုတို့၏အကြားသည် ယူဇနာ ငါးဆယ် (၅၀)၊ နှာခေါင်းမှာ ယူဇနာသုံးရာ (၃၀၀) ရှိ၏။ လက်ဖဝါးပြင်၊ ခြေဖဝါးပြင်တို့မှာ ယူဇနာနှစ်ရာ (၂၀၀) စီကျယ်၍ လက်ဆစ်ကြီးများမှာ ယူဇနာငါးဆယ် (၅၀) အထိ ကြီးမားကြသည်။

(တစ်ယူဇနာ=ရှစ်မိုင်)





ထို ရာဟုအသုရိန် နတ်မင်းကြီးသည် ထွန်းလင်းတောက်ပနေသည့် နေလတို့ကို မြင်သည့်အခါ မနာလိုမှု ဖြစ်လာသည်။

ထို့ကြောင့် လနေတို့ သွားသည့်လမ်းကြောင်းတွင် ခံတွင်းကြီးကို ဖွင့်ဟပြီးနေသည်။ လဗိမာန် သို့မဟုတ် နေဗိမာန်သည် သွားလမ်းအတိုင်း သွားနေစဉ် ယူဇနာသုံးရာရှိသော ချောက်ကြီးထဲ ကျသွားဘိသကဲ့သို့ ရာဟုခံတွင်းထဲ ရောက်သွားသည်။

ထိုအခါ လနတ်သား၊ နေနတ်သားတို့သည် သေဘေးမှ ကြောက်လန့်ကြ၍ ဘုရားရှင်၏တပည့်သာဝက ဖြစ်သည့်အတိုင်း ဘုရားရှင်ကို တမ်းတ တိုင်တည်ကြ၏။

လနတ်သားနှင့် နေနတ်သားတို့ကား ဘုရားရှင် မဟာသမယသုတ်တော်ကိုဟောကြားစဉ်က သောတာပန်တည်ခဲ့ကြသော နတ်သားများ ဖြစ်ကြသည်။

ထိုရာဟုနတ်မင်းကြီးသည် လဗိမာန် သို့မဟုတ် နေဗိမာန်ကို တစ်ခါတစ်ရံ လက်ဖြင့် မိုးအုပ်ထား၏။ တစ်ခါတစ်ရံ မေးအောက်၌ ထား၏။ တစ်ခါတစ်ရံ လျှာဖြင့် သုံးသပ်၏။ တစ်ခါတစ်ရံ ပါးစောင် အကြား၌ ထား၏။

သို့ရာတွင် လနေတို့ သွားနေသည့် အရှိန်အဟုန်ကိုမူ တားမြစ် မထားနိုင်ပါချေ။

အကယ်၍ တားမြစ်မည်ဟု ပါးစောင်၌ ထားလျှင် ထိုလဗိမာန်၊ နေဗိမာန်တို့သည် ရာဟုအသုရိန်ကြီး၏ ဦးခေါင်းထိပ်ကို ဖောက်ထွက်၍ သွားကြပေမည်။

ထို့ကြောင့် လဗိမာန်၊ နေဗိမာန်တို့ သွားရာသို့ အတူလိုက်ပါ ရလေသည်။ ဤသို့ တစ်ခါတစ်ရံ ရာဟုအသုရိန်သည် လဗိမာန်၊ နေဗိမာန် တို့ကို ဖမ်းလေ့၊ မျိုလေ့ရှိသည်။

သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်ကြီး၌ မြတ်စွာဘုရား သီတင်းသုံးတော်မူစဉ် တစ်နေ့သောအခါ၌ နေနတ်သားသည် ရာဟု အသုရိန်၏ ဖမ်းစားခြင်းကို ခံရ၏။

ထိုအခါ နေနတ်သားသည် ဘုရားရှင်ကို အာရုံပြုလျက် –

**နမော တေ ဗုဒ္ဓ ဝီရတ္ထု၊ ဝိပ္ပမုတ္တောသိ သဗ္ဗဓိ။**

**သမ္ဗာဓ ပဋိပန္နောသမိ၊ တဿ မေ သရဏံ ဘဝ။**

ဟူသော ဂါထာကို ရွတ်ဆိုကာ တမ်းတ တိုင်တည်လိုက်၏။

ဂါထာ၏အဓိပ္ပာယ်မှာ –

**"ကြီးမြတ်သော လုံ့လ ဝီရိယ ရှိတော်မူသော ရှင်တော်ဘုရား၊ ရှင်တော်မြတ်ဘုရားအား ဘုရားတပည့်တော်၏ လက်အစုံမိုး၍ ရှိခိုးခြင်း ဖြစ်ပါစေသတည်း။**

**ရှင်တော်မြတ်ဘုရားသည် ခပ်သိမ်း စသော ကျဉ်းမြောင်းရာ ဌာနအပေါင်းမှ ကောင်းစွာမချွတ် လွတ်တော်မူပါပေပြီ။**

**တပည့်တော်တို့၏ ကိုးကွယ်ရာစင်စစ် ဖြစ်တော်မူပါ ဘုရား"**

ဟူ၍ ဖြစ်သည်။

မြတ်စွာဘုရားသည် နေနတ်သား၏ တမ်းတတိုင်တည်ချက်ကို သိရှိတော်မူသောအခါ ရာဟုအသုရိန်နတ်မင်းကို –

**တထာဂတံ အရဟန္တံ၊ သူရိယော သရဏံ ဂတော။**

**ရာဟု သူရိယံ ပမုဉ္စဿု၊ ဗုဒ္ဓါ လောကာနုကမ္ပကာ။**

စသည်ဖြင့် မိန့်ကြားတော်မူလိုက်၏။ အဓိပ္ပာယ်မှာ –

**"အို–ရာဟုအသုရိန်၊ နေနတ်သားဟာ ပူဇော်အထူးကို ခံတော်မူထိုက်တဲ့ မြတ်စွာဘုရားကို မှီခိုအားထား ကိုးစားရာ ဟူ၍ ယုံကြည် ဆည်းကပ်သိမှတ်သူ ဖြစ်၏။**

**သင်ဟာ နေဗိမာန်ကို လွှတ်လိုက်ပါ။ ဘုရားရှင်တို့ မည်သည် လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါမှန်သမျှ သတ္တလောကကို သနားသမှု ကြောင့်ကြပြုကာ ဂရုစိုက် စောင့်ရှောက်တော်မူကြပါတယ်"**

ဟူ၍ ဖြစ်သည်။

ဘုရားရှင်က ထိုကဲ့သို့ မေတ္တာရပ်ခံစကား မိန့်ကြားတော်မူသောအခါ ရာဟုအသုရိန်သည် နေဗိမာန်ကို လွှတ်လိုက်ပြီး ခပ်သုတ်သုတ် ခပ်ပျာပျာ ဝေပစိတ္တိအသုရိန်ကြီးရှိရာသို့သွား၍ တထိတ်ထိတ်တလန့်လန့် ဖြစ်ကာ ရပ်နေ၏။

ထိုအခါ ဝေပစိတ္တိအသုရိန်ကြီးက –





"အို–ရာဟုအသုရိန်၊ ဘာကြောင့် ဖမ်းထားတဲ့ နေဗိမာန်ကြီးကို ချက်ချင်းလွှတ်လိုက်ပါသလဲ၊ လွှတ်ပြီးတော့လည်း ဘာဖြစ်လို့ ထိတ်ထိတ်ပျာပျာ ကြောက်ကြောက်လန့်လန့် ဖြစ်နေရှာပါသလဲ" ဟု မေးလိုက်သည်။

"အရှင် ဝေပစိတ္တိ အသုရိန်၊ အကျွန်ုပ်သည် မြတ်စွာဘုရားရဲ့ ဂါထာတော်များကို ကြောက်ရွံ့လှပါတယ်။ နေဗိမာန်ကို အကယ်၍ မလွှတ်ဘဲနေရင် ကျွန်ုပ်ဦးခေါင်းဟာ ခုနစ်စိတ်၊ ခုနစ်မြွာ ကွဲသွားပါလိမ့်မယ်။ အသက်ရှင်နေပြန်လျှင်လည်း ကိုယ်စိတ်နှစ်ဖြာ ဘယ်တော့မှ မချမ်းသာနိုင်ပါ"

ဟု ရာဟုအသုရိန်က ပြန်ဖြေသည်ကို သဂါထာဝဂ္ဂသံယုတ်ပါဠိတော် သူရိယသုတ်၌ ဖတ်ရှုရပေသည်။

ဤသည်မှာ ရာဟုအသုရိန်ကြီး၏ အကြောင်းအရာ တစ်စိတ်တစ်ပိုင်း ဖြစ်သည်။

ဤကဲ့သို့ 'နမော တေ ဗုဒ္ဓ ဝီရတ္ထု' အစရှိသော ဂါထာနှင့် 'တထာဂတံ အရဟန္တံ' အစရှိသော ဂါထာတို့သည် ရာဟုအသုရိန်ကြီးလက်မှ နေဗိမာန်ကြီး လွတ်မြောက်သည့် ဂါထာများ ဖြစ်ကြသည်။

ထိုအကြောင်းကို သိရှိကြသော ရှေးပညာရှင်ကြီးများသည် နေစရာထိုင်ခင်း အဆင်ပြေရေး၊ ရာထူးအဆင့်အတန်းမြင့်ရေး၊ စာမေးပွဲအောင်မြင်ရေး၊ အချုပ်အနှောင်ဖမ်းဆီးထားခြင်းမှ လွတ်မြောက်ရေးတို့တွင် ဤဂါထာ နှစ်ဂါထာတို့ကို ရွတ်ဆိုရန် ညွှန်ကြားတော်မူခဲ့ကြပေသည်။ ဘုရားဟော ပါဠိတော် အစစ်များဖြစ်၍ ယုံကြည်သူများ ရွတ်ဆိုနိုင်ရန် ဂါထာများကိုပါ တင်ပြခြင်း ဖြစ်ပါသည်။

## ရာဟုအသုရိန်နတ်ကြီး ဘုရားဖူးလာခြင်း

ရာဟုအသုရိန် နတ်မင်းကြီးကား ရှေ့တွင် ဖော်ပြခဲ့သည့်အတိုင်း လောကတွင် အရပ်အမြင့်ဆုံး၊ ခန္ဓာကိုယ်အကြီးဆုံးသော သတ္တဝါကြီး တစ်ဦး ဖြစ်သည်။ အရပ်မှာ ယူဇနာ (၄၈၀၀) မြင့်၍ ခေါင်းမှာ ယူဇနာ (၉၀၀) ရှိသည်။ ပါးစပ်မှာ ယူဇနာ (၂၀၀) ကျယ်၍ အရပ်ရှည်လှသည့် အသုရိန်နတ်မင်းကြီးသည် –

"လူ့ပြည်မှာ ဘုရားပွင့်တော်မူနေသည်"

ဆိုသည့် သတင်းကိုကြားသိသည့်အခါ ဘုရားရှင်အား သွား၍ ဖူးမြော်လိုသည်။ သို့သော် -

"ငါ ဘုရားသွားဖူးရင် ငါ့ရဲ့ မြင့်မားလှတဲ့ အရပ်ကြီးနဲ့ လူ့ပြည်က ဘုရားလေးကို ကုန်းပြီး ခေါင်းစိုက်ပြီး ဖူးရမယ်။ အဲဒီလောက် ကုန်းဖို့ဟာလည်း ငါမတတ်နိုင်ဘူး"

ဟု ကြံစည် စဉ်းစားပြီး ဘုရားဖူးမသွားဘဲ နေခဲ့သည်။

နောက် ဘုရားဖူးက ပြန်လာကြသည့် နတ်များက ဘုရားရှင်၏ ဂုဏ်ကျေးဇူးများကို ချီးကျူးပြောဆိုနေကြသည့်အသံကို ကြားရသည့်အခါ ရာဟုအသုရိန်ကြီးမှာ ဘုရားရှင်ကို ဖူးမြင်ချင်သည့်စိတ် ဖြစ်ပေါ်လာပြန်၏။

ထို့ကြောင့် ဘုရားရှင်ထံသို့ ရောက်မှပဲ ဖြစ်သလို ဖူးမည်ဟု ကြံစည်ပြီး ဘုရားရှင်ထံသို့ သွားဖို့ရန် ပြင်ဆင်၏။

ထိုအကြောင်းကို ဘုရားရှင် မြင်တော်မူသည့်အတွက် မည်သည့် ဣရိယာပုတ်နှင့် အဖူးမြော်ခံရမလဲဟု ဆင်ခြင်တော်မူ၏။

မတ်တတ် ဣရိယာပုတ်သည် နိမ့်နေသော်လည်း မြင့်သကဲ့သို့ ထင်ရသည်။ ထို့ကြောင့် ဣရိယာပုတ်လေးမျိုးမှာ အနိမ့်ဆုံးဖြစ်သော လျောင်းသည့် ဣရိယာပုတ်ဖြင့်ပင် အဖူးမြော်ခံမည်ဟု ဆုံးဖြတ်တော်မူသည်။

ထို့နောက် အရှင်အာနန္ဒာမထေရ်ကို ဂန္ဓကုဋိတိုက်၏ အပြင်ဘက်မှာ ညောင်စောင်းခုတင်ကို ချခိုင်းသည်။

ညောင်စောင်းချပြီးသည့်အခါ မြတ်စွာဘုရားသည် ခြင်္သေ့မင်း၏ အိပ်ခြင်းကဲ့သို့ လက်ယာနံပါးဖြင့် စောင်း၍ ညောင်စောင်းပေါ် လဲလျောင်းတော်မူသည်။

ထိုအချိန်တွင် ရာဟုအသုရိန် နတ်မင်းကြီး ရောက်လာပြီး ဘုရားရှင်ကို ဖူးမြင်သည်။

ဖူးမြင်ရပုံမှာ ရာဟုအသုရိန်နတ်ကြီး ထင်မှတ်ထားသကဲ့သို့ ကုန်းပြီး မဖူးရဘဲ ပကတိ လူသာမန်များ ညအခါ ကောင်းကင်ပေါ်က လမင်းကြီးကို မော့ကြည့်ကြရသကဲ့သို့ ဘုရားရှင်ကို မော့ပြီး ဖူးရသည်။





ဘုရားရှင်က မေးလိုက်ပါသေးသည်။

"ရာဟုအသုရိန် နတ်မင်းကြီး ဘယ်လိုလဲ၊ သင် ထင်ခဲ့တဲ့အတိုင်း မှန်ရဲ့လား၊ ငါဘုရားဟာ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ကျင့်ခဲ့တဲ့ပုဂ္ဂိုလ် ဖြစ်တယ်"

ဟု မိန့်ကြားတော်မူသည်။

ဤသည်မှာ ဘုရားရှင်၏ ဣဿရိယဘုန်းတော်တွင် ပါဝင်သော မဟိမာဘုန်းတော်ကြီးပင် ဖြစ်သည်။

## အာလိန်ငါးဆင့်

အသုရာတို့သည် သခွတ်ပန်း ပွင့်ချိန်၌ မိမိတို့ နေထိုင်ခဲ့သည့် တာဝတိံသာနတ်ပြည်ကို သတိရကြ၍ သိကြားမင်းစံရာ တာဝတိံသာ နတ်ပြည်သို့ စစ်ချီတက်လေ့ ရှိကြသည်။

ထိုအသုရာတို့ တာဝတိံသာအထိ စစ်မချီတက်နိုင်ရန် နတ်သိကြားမင်းသည် အာလိန်ငါးဆင့်တွင် ခံတပ်ကြီးငါးတပ် အစောင့်ချထား၏။

အာလိန် ဆိုသည်မှာ အာလိန္ဒ ပါဠိပုဒ်မှ ဆင်းသက်လာသည့် ပါဠိသက် မြန်မာဝေါဟာရဖြစ်၍ အဆင့်ဟု အဓိပ္ပာယ်ရသည်။

မြင့်မိုရ်တောင်၏ ခြေထောက်ကြီးသုံးခုတို့၏ အပြင်ဘက်တွင် သီဒါသမုဒ္ဒရာကြီးရှိသည်။ အကျယ်အဝန်းနှင့် အနက်မှာ ယူဇနာရှစ်သောင်းလေးထောင်စီ ရှိ၏။ ထိုနေရာတွင် နဂါးသတ္တဝါများ နေထိုင်ကြသည်။ ထိုနဂါးပြည်သည် ပထမဆုံး အာလိန် ဖြစ်သည်။

ဒုတိယ အာလိန်အဆင့်တွင် ဂဠုန်များကို လည်းကောင်း၊ တတိယ အာလိန်တွင် ကုမ္ဘဏ်များကို လည်းကောင်း၊ စတုတ္ထ အာလိန်တွင် နတ်ဘီလူးကြီးများကို လည်းကောင်း၊ ပဥ္စမ အာလိန်ဖြစ်သည့် စတုမဟာရာဇ်နတ်ပြည် ပတ်ဝန်းကျင်တွင် စတုမဟာရာဇ် နတ်မင်းကြီးလေးယောက်တို့ကို လည်းကောင်း မြင့်မိုရ်တောင်ခြေရှိ သီဒါသမုဒ္ဒရာမှ မြင့်မိုရ်တောင်ထက်ဝက်ရှိ စတုမဟာရာဇ်နတ်ပြည်အထိ မြင့်မိုရ်တောင် ပတ်ဝန်းကျင်တွင် အသီးအသီး အစောင့်အရှောက်များ ချထားသည်။

စတုမဟာရာဇ် နတ်မင်းကြီးများအနက် ဓတရဋ္ဌနတ်မင်းကြီးသည် ငွေသားသန်လျက်များကို ကိုယ်စီ ကိုင်စွဲထားသော ဂန္ဓဗ္ဗ နတ်စစ်သည် အပေါင်း ကုဋေတစ်သိန်းတို့နှင့်အတူ ယုဂန္ဓိုရ်တောင်နှင့် စကြဝဠာတံတိုင်း အကြား အရှေ့ဘက်မျက်နှာခြမ်းကို လှည့်လည်စောင့်ရှောက်ရ၏။

ဝိရူဠှက နတ်မင်းကြီးသည် ပတ္တမြားသန်လျက်များကို ကိုယ်စီ ကိုင်စွဲထားသော ကုမ္ဘဏ် နတ်စစ်သည် ကုဋေတစ်သိန်းတို့နှင့်အတူ ယုဂန္ဓိုရ်တောင်နှင့် စကြဝဠာတံတိုင်းအကြား တောင်ဘက် မျက်နှာ အခြမ်းကို လှည့်လည် စောင့်ရှောက်ရသည်။

ဝိရူပက္ခ နတ်မင်းကြီးသည် သန္တာသန်လျက်များကို ကိုယ်စီ ကိုင်စွဲထားသော နတ်နဂါးစစ်သည် ကုဋေတစ်သိန်းတို့နှင့်အတူ ယုဂန္ဓိုရ် တောင်နှင့် စကြဝဠာတံတိုင်းအကြား အနောက်ဘက် မျက်နှာအခြမ်းကို လှည့်လည် စောင့်ရှောက်ရသည်။

ကုဝေရ ခေါ်သော နတ်မင်းကြီးသည် ယက္ခစစ်သည် ကုဋေ တစ်သိန်းတို့နှင့်အတူ ယုဂန္ဓိုရ်တောင်နှင့် စကြဝဠာ တံတိုင်းအကြား မြောက်ဘက်မျက်နှာအခြမ်းကို လှည့်လည် စောင့်ရှောက်ရသည်။

အာလိန်ငါးဆင့်သည် စတုမဟာရာဇ်နတ်ဘုံတွင် ပါဝင်သည်။

□



## အသုရာနှင့် တာဝတိံသာ စစ်ဖြစ်ကြခြင်း

အသုရာတို့သည် မိမိတို့ နေထိုင်ရာ အသုရာပြည်မှာ တာဝတိံသာ နတ်ပြည်နှင့် အားလုံးလိုလို တူသောကြောင့် တာဝတိံသာနတ်ပြည် ဟူ၍ပင် ထင်မှတ်ကြ၏။

သခွတ်ပင်ကြီး ပွင့်သည့်အချိန်ရောက်မှပင် တာဝတိံသာနတ်ပြည် မဟုတ်ကြောင်း သိရှိကြတော့သည်။

ထိုအခါ သိကြားမင်းကို အလွန် စိတ်ဆိုး အမျက်ထွက်ကြပြီး တာဝတိံသာသို့ စစ်ချီတက်ကြသည်။

တစ်ခါတစ်ရံတွင် သိကြားမင်းက စစ်သည်အင်အား ကောင်း၍ နိုင်လျှင် အသုရာပြည်ရောက်သည်အထိ လိုက်တိုက်ကြသည်။ အသုရာ တို့က မြို့တံခါးကြီးများကို ပိတ်ထားလိုက်သည့်အခါ မြို့တွင်းသို့ မဝင်နိုင် သဖြင့် နတ်ပြည်သို့ ပြန်ကြရသည်။

သိကြားမင်းသည် အသုရာတို့ တာဝတိံသာအထိ ချီတက်မတိုက် နိုင်အောင် တာဝတိံသာနတ်ပြည်နှင့် အသုရာပြည်အကြားတွင် ဖော်ပြပါ အတိုင်း အာလိန်ငါးဆင့်၌ ခံတပ်ကြီးငါးတပ်ကို အစောင့်တပ်များအဖြစ် နေရာချထားသည်။

သို့သော် တစ်ခါတစ်ရံ အသုရာတို့သည် အာလိန်ငါးဆင့်ရှိ နဂါး၊ ဂဠုန်၊ ကုမ္ဘဏ်၊ ယက္ခ၊ စတုမဟာရာဇ်နတ်မင်းကြီးများ ဟူသော ခံတပ်ကြီးငါးတပ်တို့ကို ချိုးဖောက်၍ မြင့်မိုရ်တောင်ထိပ်အထိ တက် ရောက်လာတတ်ကြသည်။

ထိုအခါ စတုမဟာရာဇ် နတ်မင်းကြီးများ၏ သတင်းပို့ချက်ဖြင့် သိကြားမင်းကိုယ်တိုင် ထွက်၍တိုက်တော်မူသည်။ မနိုင်သည့်အခါ မြို့တွင်းသို့ဝင်၍ မြို့တံခါးကို လုံခြုံစွာ ပိတ်ထားလိုက်ကြရာ အသုရာစစ်သည်တို့ မြို့တွင်းသို့ မဝင်နိုင်ရကား အသုရာပြည်သို့ လှည့်ပြန်ကြရလေသည်။

ထို နတ်အသုရာတို့နှင့်ဖြစ်သော စစ်ပွဲများတွင် အများအားဖြင့် သိကြားမင်းက အနိုင်ရလေ့ ရှိပေသည်။

မည်သူက နိုင်နိုင် မြို့တွင်းသို့ မည်သူမျှ ထိုးဖောက် မဝင်ရောက်နိုင်ကြသောကြောင့် တာဝတိံသာနတ်မြို့တော်နှင့် အသုရာနတ်မြို့တော် နှစ်မြို့တော်လုံးကို **အယုဇ္ဈပုရ** (စစ်မနိုင်မြို့တော်) ဟု ခေါ်ဝေါ်ကြသည်။

ထိုနတ်နှင့် အသုရာတို့ စစ်ပွဲ၌ နှစ်ဖက်စစ်သည်များအား ထိခိုက်ဒဏ်ရာရခြင်း၊ သွေးထွက်သံယိုဖြစ်ခြင်းတို့ အလျှင်း မရှိကြချေ။

ဥပမာအားဖြင့် ကလေးသူငယ်များ ကစားကြရာတွင် သစ်သားနွားရုပ်၊ ဆိတ်ရုပ်ကလေးများကို အချင်းချင်း တိုက်ကြကုန်သကဲ့သို့ ကြောက်ရွံ့ထိတ်လန့်ရုံမျှသာ ဖြစ်ကြပေသည်။

တစ်ချိန်က သိကြားမင်းသည် အသုရာတို့ရန်ကို နှိမ်နင်းအောင်မြင်ပြီးနောက် မြို့တော်၏ တံခါးလေးပေါက်တို့တွင် ဝရဇိန်လက်နက်ကိုင်စွဲထားသည့် မိမိ၏ရုပ်တုများကို ဖန်ဆင်းထား၏။

ထို့ကြောင့် သိကြားမင်း၏အာလိန်ငါးဆင့်ရှိ ခံတပ်ကြီးငါးတပ်ကို ချိုးဖောက်၍ တာဝတိံသာနတ်ပြည်အထိ တက်ရောက်လာကြသည့် အသုရာစစ်သည်များသည် သိကြားမင်း၏ရုပ်တုကို တွေ့ကြသည်နှင့် တစ်ပြိုင်နက် "သိကြားမင်း ထွက်လာပြီဟေ့" ဆိုပြီး ပြေးကြလေတော့သည်ဟု သဂါထာဝဂ္ဂသံယုတ် အဋ္ဌကထာ၊ အင်္ဂုတ္တရအဋ္ဌကထာ၊ သာရတ္ထဒီပနီဋီကာများ၌ မိန့်ဆိုထားကြပေသည်။

## အသုရာတို့နှင့်ဖြစ်သည့်စစ်ပွဲ၌ သိကြားမင်း၏ စစ်ထွက်မိန့်ခွန်း

အသုရာနတ်တို့နှင့် စစ်တိုက်ရန် စစ်ထွက်ခါနီးတွင် သိကြားမင်းကြီးက တာဝတိံသာ နတ်စစ်သည်တော်အပေါင်းအား ဤသို့ စစ်ထွက်မိန့်ခွန်း ပြောကြားလေ့ရှိ၏။





"အို-နတ်အပေါင်းတို့၊ စစ်မြေပြင်အရပ်၌ ချဉ်းကပ် ရောက်ရှိနေကြသည့် သင် နတ်အပေါင်းတို့ သန္တာန်၌ ကြောက်ရွံ့မှု၊ ထိတ်လန့်မှု ကြက်သီးမွေးညင်းထမှုတို့ အကယ်၍များ ဖြစ်ပေါ်ခဲ့ငြားအံ့။

ထိုအခါ သင်တို့ဘုရင် ငါသိကြားအရှင်၏ လွှင့်ထူစိုက်ထောင်ထားသည့် အောင်လံဖျားကို မော်၍ ကြည့်ကြပါကုန်လေ။

ငါ၏အောင်လံဖျားကို မော်ကြည့်ကြလျှင် အသင်နတ်တို့သန္တာန်၌ ဖြစ်ပေါ်နေသော ကြောက်ရွံ့ခြင်း၊ ထိတ်လန့်ခြင်း၊ ကြက်သီးမွေးညင်းထခြင်းတို့သည် တစ်ခဏချင်း အလိုအလျောက် ပျောက်ကွယ်သွားကြပေလိမ့်မည်။

အကယ်၍ ငါသိကြားမင်း၏ အောင်လံအဖျားကို မော်မကြည့်နိုင်ကြလျှင် ငါနှင့် အသက်အရွယ် အဆင်းအားဖြင့် တူညီကြသော ပဇာပတိနတ်မင်း၊ ဝရုဏနတ်မင်း၊ ဤသာနနတ်မင်း၊ နတ်မင်းကြီးတစ်ပါးပါး၏ လွှင့်ထူ စိုက်ထောင်ထားသည့် အောင်လံအဖျားကို မော်၍ ကြည့်ကြပါကုန်လော့။

နတ်မင်းကြီး သုံးပါးတို့တွင် တစ်ပါးပါး၏ အောင်လံဖျားကို မော်ကြည့်ကြလျှင် အသင် နတ်တို့သန ္တာန်၌ ဖြစ်ပေါ်နေသော ကြောက်ရွံ့ခြင်း၊ ထိတ်လန့်ခြင်း၊ ကြက်သီးမွေးညင်းထခြင်းတို့သည် တစ်ခဏချင်း အလိုအလျောက် ကွယ်ပျောက်သွားကြပေလိမ့်မည်"

ဟု သိကြားမင်းက တာဝတိံသာ နတ်စစ်သည် အပေါင်းအား စစ်ထွက်မိန့်ခွန်း ပေးလေ့ရှိကြောင်း သဂါထာဝဂ္ဂသံယုတ် ပါဠိတော်၊ သက္ကသံယုတ်၊ ဓဇဂ္ဂသုတ်၌ လေ့လာတွေ့ရှိရသည်။

## အသုရာစစ်ပြေးဒုက္ခသည်များ

ဗုဒ္ဓ ရှင်တော်မြတ်ဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ်က ရာဇဂြိုဟ်ပြည်သား ယောကျ်ားတစ်ယောက်သည် ရာဇဂြိုဟ်မြို့မှထွက်၍ သုမာဂဓ အမည်ရှိသည့် လေးထောင့်ရေကန်ကြီး၏ဘေးတွင် ထိုင်ပြီး လောကကြီးအကြောင်းကို ကြံစည်စဉ်းစားနေသတဲ့။

ကြံစည်စဉ်းစားပုံမှာ –

'လောကကြီးမှာ လ, နေ, ကမ္ဘာမြေကြီးနှင့် သမုဒ္ဒရာတွေကို ဘယ်သူက ပြုလုပ်သလဲ၊ သတ္တဝါတွေနဲ့ တောတောင်သစ်ပင်တွေဟာ ဘာကြောင့် ဖြစ်ပေါ်လာကြသလဲ'

စသည်ဖြင့် ကြံစည် စဉ်းစားနေခြင်း ဖြစ်သည်။

ထိုအချိန်တွင် ထိုယောကျ်ားသည် သုမာဂဓ လေးထောင့်ရေကန်ကြီး၏ ကမ်းစပ်တွင် ဆင်၊ မြင်း စသည်တို့ကိုစီးလျက် စစ်အင်္ဂါလေးပါးရှိသော စစ်တပ်ကြီးတစ်တပ် ကြာစွယ် ကြာရင်းများ အခေါင်းပေါက်ထဲသို့ ပြေးဝင်သွားကြသည်ကို မြင်လိုက်ရ၏။ ထိုအခါ ထိုယောကျ်ားသည် -

'ငါကား လောက၌ မရှိနိုင်၊ မဖြစ်နိုင်သည့် အရာကို မြင်ရ၏။ ငါ ရူးများ ရူးနေသလား၊ စိတ်ပျံ့လွင့်ပြီလား'

ဟု ကြံစည်စဉ်းစားပြီး မြို့ထဲသို့ ပြန်ရောက်သည့်အခါ လူများကို ထိုအကြောင်း ပြန်ပြောင်းပြောပြ၏။ ထိုအခါ လူများကလည်း -

"ဒီဟာ လောကကြီးမှာ မဖြစ်နိုင်၊ မရှိနိုင်တဲ့ဟာဘဲ၊ ဒါကို မြင်တယ်ဆိုတာ မင်းရူးနေပြီ၊ စိတ်ပျံ့လွင့်နေပြီ" ဟု ပြောကြားကြသတဲ့။

အမှန်စင်စစ် ထိုယောကျ်ား တွေ့မြင်ခြင်းသည် တကယ့် အဖြစ်အပျက်မှန်ကို တွေ့မြင်ရခြင်းသာ ဖြစ်နေသည်။ မဟုတ်မမှန်သည်ကို တွေ့မြင်ခြင်း မဟုတ်။

တာဝတိံသာနတ်တို့နှင့် အသုရာနတ်တို့ စစ်ဖြစ်ကြသည့်အခါ အသုရာတို့ စစ်ရှုံးသည့်အတွက် တာဝတိံသာနတ်များ မမြင်မသိအောင် ကြောက်ကြောက်လန့်လန့်ဖြင့် အငယ်ဆုံး သတ္တဝါကလေးများအဖြစ် ဖန်ဆင်းကြပြီး စစ်အင်္ဂါလေးပါးအပြည့်အစုံနှင့် ကြာစွယ်ကြာရင်း အခေါင်းပေါက်ထဲသို့ ပြေးဝင်၍ အသုရာပြည်တိုင်အောင် သွားကြခြင်း ဖြစ်သည်။

ထို့ကြောင့် ထိုယောကျ်ားသည် တကယ့် အဖြစ်အပျက်မှန်ကို မြင်ခြင်း ဖြစ်သည်ဟု မဟာဝဂ္ဂသံယုတ်ပါဠိတော် လောကစိန္တာသုတ်၌ မြတ်စွာဘုရား ဟောကြားထားသည်ကို တွေ့ရ၏။

ဤဝတ္ထုဖြင့် နတ်နှင့်အသုရာတို့ စစ်ဖြစ်သည်မှာ တကယ့်အမှန်ဖြစ်ကြောင်းနှင့် လောကကြီးတွင် လူသားများ မသိနိုင်၊ မမြင်နိုင်သည့် ဆန်းကြယ်သည့် အရာများရှိကြောင်း သိရှိရပေသည်။





## ဝေပစိတ္တိ အသုရာနတ်ကြီးနှင့် သိကြားမင်း

တစ်ချိန်သောအခါ တာဝတိံသာနတ်များနှင့် အသုရာနတ်တို့ စစ်တိုက်ရန် ရင်ဆိုင်မိကြ၏။

ထိုအခါ အသုရာတို့၏မင်းဖြစ်သော ဝေပစိတ္တိအသုရာကြီးက-

"အချင်းတို့၊ ဒီစစ်ပွဲ၌ ငါတို့နိုင်ရင် နတ်တို့အရှင် သိကြားမင်းကို ခြေ၊ လက်၊ လည်ပင်းတို့မှာ ကြိုးနဲ့တုပ်နှောင်ပြီး ငါရှိရာ အသုရာမြို့သို့ ပို့ဆောင်ကြရမည်"

ဟု အမိန့်ပေးထား၏။

ထို့အတူ သိကြားမင်းကြီးကလည်း တာဝတိံသာနတ်တွေက နိုင်ရင် ဝေပစိတ္တိအသုရာကြီးကို ကြိုးတွေနဲ့ တုပ်နှောင်ပြီး သူ့ရှိရာ တာဝတိံသာ သုဓမ္မာသဘင်သို့ ခေါ်ဆောင်ခဲ့ရန် သူ့တပ်သားများကို အမိန့်ပေးထား၏။

ထိုအကြိမ်၌ တာဝတိံသာနတ်တို့က စစ်နိုင်၏။

ထို့ကြောင့် နတ်စစ်သည်တို့သည် ဝေပစိတ္တိအသုရာကြီးကို ကြိုးများဖြင့် ဖမ်းဆီး တုပ်နှောင်ကာ သုဓမ္မာသဘင်သို့ ခေါ်ဆောင်သွားကြ၏။

ဝေပစိတ္တိ အသုရာကြီးသည် သိကြားမင်း သုဓမ္မာသဘင်ဝင်တိုင်း အမျိုးမျိုး ကြိမ်းမောင်းနေ၏။

သိကြားမင်းကမူ မည်သို့မျှ တုံ့ပြန်ခြင်း မပြုဘဲ သည်းခံနေ၏။

ဤအချင်းအရာကို တွေ့နေရသော မာတလိနတ်သားက စိတ်မရှည်နိုင်သဖြင့် ဤသို့ သိကြားမင်းကြီးနှင့် အပြန်အလှန် ပြောဆိုကြသည်။

"အရှင်သိကြားမင်း၊ မိမိရှေ့မှောက်မှာ ဝေပစိတ္တိ အသုရာကြီးက ဆဲရေးခြိမ်းခြောက်နေသံကို ကြားနေရပါလျက် မည်သို့မျှ တုံ့ပြန်ခြင်းမပြု လျစ်လျူရှုကာ သည်းခံနေသည်မှာ ကြောက်တဲ့အတွက်လား သို့မဟုတ် စွမ်းအင်ချည့်နဲ့ အားမရှိတဲ့အတွက်ကြောင့်လား"

"အမောင် မာတလိ၊ ငါသည်းခံနေသည်မှာ ကြောက်တဲ့အတွက်ကြောင့်လည်း မဟုတ်၊ အားနည်းတဲ့အတွက်ကြောင့်လည်း မဟုတ်။

ငါလို ပညာရှိတဲ့ ပုဂ္ဂိုလ်မျိုးက အသိဉာဏ်ကင်းတဲ့ ဝေပစိတ္တိလို လူမိုက်လူဖျင်းနဲ့ ဘယ်လို ဖက်ပြိုင် အနိုင်ပြောရမှာလဲ"

"အရှင် သိကြားမင်း၊ လူမိုက် ဆိုတာမျိုးဟာ သူ့ကို မနိမ်နင်း၊ မခြစ်တားဘဲ လျစ်လျူရှုထားပါလျှင် ပိုပြီး ဆိုးဝါးလာတတ်တဲ့သဘော ရှိပါတယ်။ ဒါကြောင့် လူလိမ္မာ ပညာရှိဟာ လူမိုက်ကို မလှုပ်နိုင်အောင် ချုပ်ကိုင်တားမြစ်ထားသင့်ပါတယ် အရှင် သိကြားမင်း"

"အမောင် မာတလိ၊ လူတစ်ဖက်သား အမျက်ပွားနေတာကို သိရတဲ့အခါ သတိတရား လက်ကိုင်ထားကာ တုံ့ပြန်မချေ ငြိမ်သက်စွာ နေခြင်းဟာ စိတ်ထားဆိုးသွမ်း လူကြမ်းလူမိုက်ကို မလှုပ်နိုင်အောင် ချုပ်ကိုင်တားမြစ်တဲ့ နည်းကောင်းနည်းမှန်ပဲလို့ ငါ ယူဆပါတယ်"

"အရှင် သိကြားမင်း၊ လူမိုက်ဟာ သည်းခံနေတဲ့သူကို ဒီကောင်ဟာ ငါ့ကို ကြောက်လို့ သည်းခံနေတာလို့ အထင်ရောက်ပြီး ရှုံးလို့ထွက်ပြေးတဲ့ နွားနောက်သို့ နွားအများဖိပြီး လိုက်သကဲ့သို့ ရေးကထက် တိုးပြီး လွှမ်းမိုးနှိပ်စက်တတ်ပါတယ်။

အဲဒီလို တစ်ဆင့်တိုးပြီး လွှမ်းမိုး နှိပ်စက်တာကိုပင် သည်းခံခြင်း အတွက် ပြစ်ချက်ရလဒ်လို့ ကျွန်ုပ် မြင်ပါတယ်"

"အမောင်မာတလိ၊ လူမိုက်က ကြောက်လို့ သည်းခံနေတယ်လို့ ထင်ထင် မထင်ထင် အလိမ္မာဉာဏ်ဖြင့် သည်းခံခြင်းထက် သာလွန်တဲ့ အကောင်းဆုံးကိုယ်ကျိုး မရှိ။

အားနည်းသူမှာ အမြဲ သည်းခံတတ်ရာ အားရှိသူ အသာရသူ ဖြစ်လျက် အားမဲ့သူကို သည်းခံသူရဲ့ သည်းခံခြင်းမျိုးကို အမြတ်ဆုံး ခန္တီတတ်ဟု ပညာရှိတွေ မိန့်ဆိုကြပါတယ်။

လူမိုက်အားမျိုး ရှိနေသူဖြစ်ပါက ထိုအားမှာ အားမဟုတ်သည်ကို 'အား' ဟု ဆိုခြင်းပင် ဖြစ်တယ်။

တရားစောင့်သူသန္တာန်မှာဖြစ်တဲ့ သည်းခံခြင်း စတဲ့ အားကိုမူ ထိုသို့ ပြောနိုင်သူ၊ လှုပ်ရှားစေနိုင်သူ မရှိ။

မိမိအား အမျက်ထွက်သူကို ဒေါသအားကိုး၍ ပြန်စိတ်ဆိုးသူမှာ ထိုသူအောက် ပို၍ ယုတ်ညံ့သူသာ ဖြစ်ပါတယ်။

မိမိအား အမျက်ထွက်သူကို တုံ့ပြန် ခုခံ အမျက်ပြန်၍ မထွက်သူသည်သာ အောင်နိုင်ခဲသော စစ်ပွဲကြီးကို အောင်နိုင်သူ ဖြစ်ပါတယ်။





သူတစ်ပါး စိတ်ဆိုးနေတာကို သိလျက် အသိတရား လက်ကိုင်ထားကာ တုံ့ပြန်မချေ ငြိမ်သက်စွာ သည်းခံနေသူဟာ မိမိ၊ သူတစ်ပါး နှစ်ဦးသားလုံးရဲ့ အကျိုးကို ကျင့်သူ ဖြစ်ပါတယ်။ မိမိ၊ သူတစ်ပါး နှစ်ဦးသားလုံးကို ဆေးနဲ့ ကုစားသူလည်း ဖြစ်ပါတယ်။

ထိုသို့ ခန္တီတရား လက်ကိုင်ထား၍ ကုစားပေးနိုင်တဲ့ ပုဂ္ဂိုလ်မြတ်ကိုပင် တရားမသိသူ လူမိုက်များက လူဖျင်းလူညံ့ လူ့ဘလလို့ ထင်မှတ်လေ့ ရှိကြပါတယ်"

စသည်ဖြင့် သိကြားမင်းသည် သည်းခံခြင်း၏ မြင့်မြတ်ပုံ၊ အကျိုးရှိပုံ ဂုဏ်ကျေးဇူး အစုံစုံတို့ကို မာတလိနတ်သားအား ရှင်းလင်းပြခဲ့သည်ကို သဂါထာဝဂ္ဂသံယုတ်ပါဠိတော် ဝေပစိတ္တိသုတ်၌ လေ့လာဖတ်ရှုရပေသည်။

ဤသည်တို့မှာ စတုမဟာရာဇ် နတ်ပြည်နှင့် စတုမဟာရာဇ် နတ်များအကြောင်း သိကောင်းစရာများ ဖြစ်ပေသည်။

□

# တာဝတိံသာနတ်ပြည်

တာဝတိံသာ ဆိုသည်မှာ တေတ္တိံသ ဟူသော ပါဠိဝေါဟာရမှ ဆင်းသက်လာသည့် ပါဠိသက် မြန်မာဝေါဟာရ ဖြစ်၏။ သုံးဆယ့်သုံး ယောက်သောသူတို့ နေရာဟု အဓိပ္ပာယ်ရ၏။

(တေတ္တိံသာ = တာဝတိံသာ = သုံးကျိပ်သုံးယောက်သောသူတို့ ဖြစ်ရာနေရာ)

မဂဓတိုင်း မာဃလုလင်နှင့် ကောင်းမှု ပြုဖက်ဖြစ်ကြသည့် သုံးဆယ့်သုံးယောက်သော မစလရွာသား အမျိုးသားတို့ သေဆုံး၍ ရှေးဦးစွာ ဖြစ်ကြသော နတ်သား ၃၃ ယောက်တို့ကို အကြောင်းပြု၍ တာဝတိံသာ ဟူသော အမည် ဖြစ်လာသည်။

ထိုတာဝတိံသာ နတ်ပြည်သည် စတုမဟာရာဇ် နတ်ဘုံနှင့် ယူဇနာ လေးသောင်းနှစ်ထောင် ကွာဝေးသော မြင့်မိုရ်တောင်ထိပ်တွင် တည်ရှိ၏။ အကျယ်အဝန်းမှာ ယူဇနာတစ်သောင်းရှိ၏။ အရှေ့အနောက် တံခါးနှစ်ခုတို့၏ အကြားသည် လည်းကောင်း၊ တောင်မြောက်တံခါးနှစ်ခု တို့၏ အကြားသည် လည်းကောင်း ယူဇနာတစ်သောင်း ကျယ်သည်။ တံခါးပေါင်း တစ်ထောင်ရှိ၍ ဥယျာဉ်ရေကန်တို့ဖြင့် တန်ဆာဆင်ထား၏။

နတ်ပြည်ကြီး၏ အလယ်ဗဟိုတွင် ရတနာခုနစ်ပါးဖြင့် ပြီး၍ ယူဇနာခုနစ်ရာမြင့်သော သိကြားမင်းစံရာ ဝေဇယန္တာနန်းပြာသာဒ်ကြီးရှိ၏။ ထိုနန်းပြာသာဒ်ကြီးကို ယူဇနာသုံးရာမြင့်သော တံခွန်တိုင်ကြီးများဖြင့် တန်ဆာဆင်ထား၏။





ကမ္ဘာ့သစ်ပင်ကြီး ခုနစ်ပင်တွင် အပါအဝင်ဖြစ်သော ပင်လယ် ကသစ်ပင်ကြီးလည်း ရှိ၏။ အဝန်း ယူဇနာသုံးရာ၊ လုံးပတ် တစ်ဆယ့်ငါး ယူဇနာ၊ အမြင့် ယူဇနာတစ်ရာ ရှိ၏။

ထိုသစ်ပင်ကြီး၏ အရင်း၌ လယ်ခေါင်ရန်းပွင့်အသွေး ကဲ့သို့ နီတွေးသော အဆင်းရှိသော ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာကြီး တည်ရှိ၏။ အလျား ယူဇနာ ၆၀၊ အနံ ယူဇနာ ၅၀ ကျယ်ဝန်း၍ ၁၅ ယူဇနာ မြင့်သည်။ ထိုကျောက်ဖျာကြီးသည် အလွန်နူးညံ့လှသဖြင့် သိကြားမင်းထိုင်လိုက်လျှင် ခန္ဓာကိုယ်ထက်ဝက် နစ်မြုပ်ဝင်သွား၍ ထလိုက်လျှင် ပြန်ဖောင်းလာရကား ခုခေတ် ဆိုဖာကြီးများနှင့် တူသည်ဟု ယူဆရ၏။

ဤနတ်ပြည်တွင် အလျား ယူဇနာသုံးရာ၊ အနံ ယူဇနာသုံးရာ၊ အဝန်း ယူဇနာကိုးရာရှိသော သုဓမ္မာ ခေါ် နတ်ဓမ္မာရုံကြီးလည်း ရှိ၏။

ထိုနတ်ဘုံသည် မြင့်မိုရ်တောင်ထိပ်တွင်တည်ရှိ၍ မြင့်မိုရ်တောင် မြေနှင့် ဆက်သွယ်၍ တည်နေသော ဘုမ္မဋ္ဌကဘုံ ဖြစ်သည်။

(ဘုမ္မဋ္ဌက = မြေ၌တည်ရှိသောဘုံ)

သို့သော် ထိုဘုံ၏ ထက်ဝန်းကျင်၌ကား စကြဝဠာတံတိုင်း ရောက်အောင် ကောင်းကင်ပြင်တွင် ပြာသာဒ်ယာဉ်ပျံ ဘုံဗိမာန်တို့ ပျံ့နှံ့ တည်ရှိနေသောကြောင့် မြေနှင့်မစပ်သော အာကာသဋ္ဌက ဗိမာန်များလည်း ရှိကြပေသေးသည်။

(အာကာသဋ္ဌက = ကောင်းကင်၌ တည်ရှိသော ဘုံဗိမာန်)

တာဝတိံသာနတ်တို့၏ မြို့တော်ကြီးကို မဟာသုဒဿန ဟု ခေါ်၏။ ထိုမြို့တော်ကြီးသည် ယူဇနာ တစ်သောင်းကျယ်၍ မြို့မျက်နှာစာ တစ်ဖက်လျှင် တံခါးပေါင်း(၂၅၀)စီ ရှိသဖြင့် လေးမျက်နှာတွင် တံခါးပေါင်း တစ်ထောင်စီရှိကြောင်း ဖော်ပြခဲ့ပြီး ဖြစ်၏။

မြို့တော်၏ အရှေ့မျက်နှာ၌ နန္ဒဝန် ဟုခေါ်ကြသော နန္ဒဝန် ဥယျာဉ်၊ အနောက်မျက်နှာ၌ စိတ္တလတာဥယျာဉ်၊ တောင်မျက်နှာ၌ ဖာရုသကတဥယျာဉ်၊ မြောက်မျက်နှာ၌ မိဿကဥယျာဉ် ဟူ၍ နတ်သစ်ပင် အမျိုးပေါင်း တစ်ထောင်တို့ စိမ်းလန်းစိုပြည် ပေါက်ရောက်နေကြသော ဥယျာဉ်ကြီးလေးခု ရှိ၏။

နန္ဒဝန်ဥယျာဉ်မှာ အဝန်း ယူဇနာတစ်ထောင်၊ ဖာရုသကတ ဥယျာဉ်မှာ အဝန်း ယူဇနာခုနစ်ရာကျယ်၍ စိတ္တလတာဥယျာဉ်နှင့် မိဿက ဥယျာဉ်တို့မှာ ယူဇနာ ငါးရာစီ ရှိကြသည်။

ဥယျာဉ်တစ်ခုစီနှင့် မြို့တော်၏ အကြားအကြား၌ အစဉ်အတိုင်း မဟာနန္ဒာနှင့် စူဠနန္ဒာ၊ ဝိစိတ္တာနှင့် စူဠဝိစိတ္တာ၊ ဘဒ္ဒါနှင့် သုဘဒ္ဒါ၊ ဓမ္မာနှင့် သုဓမ္မာ ဟူသော ကန်တော်ကြီး နှစ်ကန်စီ ရှိကြသည်။

ထို့ပြင် မြို့တော်၏ အရှေ့မြောက်ထောင့်၌လည်း အဝန်း ယူဇနာ ခုနစ်ရာရှိသော မဟာဝန်ဥယျာဉ်ကြီး ရှိသေး၏။

ထိုဥယျာဉ်ကြီးအတွင်း၌ သိကြားမင်းစံတော်မူရာ ရတနာခုနစ်ပါး ဖြင့်ပြီးသော ဘုံဗိမာန်တို့ကား တစ်ထောင်အရေအတွက်ရှိ၏။

ထို ဥယျာဉ်ကြီးငါးခုအနက် နန္ဒဝန် ခေါ် ဥယျာဉ်တော်ကား အထက် နတ်ပြည်လေးထပ်တို့၌လည်း ရှိပေသည်။

## နန္ဒဝန်ဥယျာဉ်တော်ကြီး

ထို ဥယျာဉ်တော်ကြီးများအနက် နန္ဒဝန်ဥယျာဉ်၏အကြောင်းကို အနည်းငယ် ဖော်ပြပါမည်။

ဤနန္ဒဝန်ဥယျာဉ်ကား ပုထုဇဉ်ခလေ့ မြင်တွေ့ခံစား၍ မငြီး ရင်တီးလက်ခတ် စုတ်သပ်အံ့သြ ပြောပြ၍ မကုန်နိုင်လောက်အောင်ပင် ရတနာနတ်ဖြစ် ပန်းပင်သစ်ပင်၊ ဘုံ၊ ယာဉ်ပဒေသာ၊ သုံးဆောင်ဖွယ် အဖြာ ဖြာတို့ဖြင့် သာယာဆန်းပြား ခမ်းနားတင့်တယ်သောဌာန ဖြစ်ပေသည်။

ထိုဥယျာဉ်ကြီးတွင် အရွယ်အမျိုးမျိုး၊ အဆင်းအမျိုးမျိုး၊ အသံ အမျိုးမျိုး၊ သဏ္ဌာန်အမျိုးမျိုး၊ ကိုယ်ရောင်ကိုယ်ဝါ အမျိုးမျိုးရှိသော နတ်ကချေသည်၊ နတ်သဘင်သည်တို့ကလည်း ကခုန်တီးမှုတ်သီဆိုမှု အမျိုးမျိုး တို့ဖြင့် မရိုးနိုင်လောက်အောင် ဖျော်ဖြေလျက် ရှိကြသည်။

နန္ဒာ ဟူသော နာမည်နှင့် လိုက်ဖက်အောင် ဥယျာဉ်တော်ကြီး အတွင်းသို့ ချဉ်းနင်းဝင်ရောက်လာကြသည့် နတ်သား၊ နတ်သမီးတိုင်းအား ခံစား၍မငြီးနိုင်သော အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိ ဆိုသည့် ပျော်မွေ့ဖွယ်ရာ အာရုံ ကာမဂုဏ်တို့ဖြင့် ရွှင်လန်းစုံမက် နှစ်သက်စေနိုင်





သော ဥယျာဉ်တော်ကြီး ဖြစ်ရကား နတ်ပြည်လောက၏ ကျက်သရေ မင်္ဂလာ အဆင်တန်ဆာကြီးတစ်ခု ဖြစ်ပေသည်။

(နန္ဒန = နတ်အပေါင်းအား နှစ်သက်ရွှင်လန်း ပီတိဖျန်းစေတတ် သောဥယျာဉ်)

အကြောင်းမျိုးစုံတို့ကြောင့် စိုးရိမ်ပူဆွေး ငိုကြွေးပူလောင်နေ ကြရသူများ ဖြစ်စေကာမူ နန္ဒဝန်ဥယျာဉ်အပေါက်ဝသို့ ရောက်သည်နှင့် တစ်ပြိုင်နက် ပူပင်သောက ကြောင့်ကြမှုမှန်သမျှ နေခြည်ထိရောက် နှင်းပေါက်ပမာ ပျက်သုဉ်းကွယ်ပျောက်သွားကြရသည်ဟု ဆိုပေသည်။

အထူးသဖြင့် ထိုဥယျာဉ်တော်ကြီးကား စုတေခါနီး၍ ပူဆွေး နေကြသည့် နတ်သား၊ နတ်သမီးများကိုပင် စုတေရမည့်အရေးကို မတွေးမိ နိုင်လောက်အောင် ပျော်မွေ့ဖွယ်ကို ဆောင်သတဲ့။

အားလုံး ခြုံ၍ဆိုရသော် လောက၌ အကောင်းဆုံးဟု သတ်မှတ် ထားသည့် ဝတ္ထုအာရုံ ကာမဂုဏ်ချမ်းသာ အမျိုးမျိုးတို့၏ စုဝေးတည်နေရာ ဖြစ်သော နန္ဒဝန်ဥယျာဉ်တော်သို့ မရောက်ဘူးသောသူသည် လောက၌ ချမ်းသာဆိုသောသဘောကို နားမလည်နိုင်ဟူ၍ ပြောစမှတ်ပြုရလောက် အောင်ပင် ကာမဂုဏ်သား ပုထုဇဉ်များအတွက် နှစ်သက်စရာ အာရုံအစုံစုံတို့ စုပုံတည်ရှိနေရာ ဥယျာဉ်တော်ကြီး ဖြစ်ပေသည်။

ဥယျာဉ်ကြီးနှင့် မြို့တော်၏အလယ်မှာ မဟာနန္ဒ၊ စူဠနန္ဒ ခေါ် သော ကန်တော်ကြီး နှစ်သွယ်ကလည်း ပင်ကိုကပင် တင့်တယ်လှပသည့် အပြင် ကြည်လင်သောရေများကို ရှုစားဖို့ရာ ကမ်းအစပ်၌ ဆန်းလှသော ရတနာထိုင်ခုံများကြောင့် တစ်မျိုး သားနားလျက်ရှိ၏။ မခြောက်မသွေ့ ပြကတေ့စိုစိမ်း၍ မြရည်လိမ်းထားသလို ပန်းပင်ပျိုတို့၏ အကြားအကြားဝယ် မောင်မယ်စုံနတ်များတို့ လှည့်လည်သွားလာနေကြသည့် အတွက်ကြောင့် ဥယျာဉ်တော်မှာ တစ်မျိုးကျက်သရေ တက်နေလေတော့သည်။

## နတ်တို့သနင်း သိကြားမင်း

ဤကဲ့သို့ ကြီးကျယ်ခမ်းနား ဆန်းပြားသော ဥယျာဉ်၊ ရေကန်၊ ဘုံဗိမာန်ကြီးများဖြင့် ငါးဖြာအာရုံ နတ်စည်းစိမ် ကာမဂုဏ်တို့ကို အစွမ်း

ကုန် ခံစားစံစားနေကြသည့် တာဝတိံသာနတ်အပေါင်းတို့၏ ဘုရင်ကား ဒေဝရာဇ ခေါ် သိကြားမင်းကြီး ဖြစ်ပေသည်။ သိကြားမင်းကြီးကား စတုမဟာရာဇ်နတ်ပြည်၊ တာဝတိံသာနတ်ပြည် နှစ်ပြည်လုံးကို အုပ်ချုပ်ရသော နတ်ဘုရင် ဖြစ်သည်။

ထိုသိကြားမင်းကြီးက –

သိကြားမင်း မဖြစ်မီ ရှေး လူဖြစ်စဉ်က မာဃ အမည်ရှိသော လုလင် ဖြစ်ခဲ့ဖူးသောကြောင့် မာဃဝါ ဟူ၍ လည်းကောင်း၊

အလှူဒါန ပေးလှူခဲ့ဖူးသောကြောင့် ပုရိန္ဒဒ ဟူ၍ လည်းကောင်း၊

အလှူကို ရိုသေလေးစားစွာ လှူခဲ့ဖူးသောကြောင့် သက္က ဟူ၍ လည်းကောင်း၊

ရှေး လူဘဝတွင် လမ်းဆုံလမ်းခွ လမ်းလေးဝ၌ လူအများတို့ တည်းခိုနေထိုင် အသုံးပြုရန် ဇရပ် တန်ဆောင်းတို့ကို ဆောက်လုပ်လှူဒါန်းခဲ့ဖူးသောကြောင့် ဝါသဝ ဟူ၍ လည်းကောင်း၊

တစ်ပြိုင်နက် မေးမြန်းလာသော တစ်ထောင်သော အကြောင်းအရာတို့ကို တစ်ခဏချင်း ကြံစည်စဉ်းစား၍ အဆုံးအဖြတ်ပေးနိုင်သောကြောင့် သဟဿက္ခ ဟူ၍ လည်းကောင်း၊

ဝေပစိတ္တိ အသုရာနတ်ကြီးသမီး သူဇာမည်သော နတ်ကညာ၏ လင် ဖြစ်သောကြောင့် သုဇမ္ပတိ ဟူ၍ လည်းကောင်း၊

တာဝတိံသာ နတ်များစွာတို့၏မင်း ဖြစ်သောကြောင့် ဒေဝါနမိန္ဒ ဟူ၍ လည်းကောင်း –

ခေါ်ဝေါ်ကြောင်း သက္ကသံယုတ်၊ သက္ကနာမသုတ်၌ မြတ်စွာဘုရား ဟောကြားထားပေသည်။

ဤပါဠိတော်လာ သိကြားအမည် ခုနစ်မျိုးတွင် သက္က ဟူသော အမည်မှ မြန်မာမှု သိကြား ဝေါဟာရဖြစ်လာသည်ဟု ရှေးပညာရှင်များ ယူဆကြပါသည်။

ပါဠိလို သက္ကသည် သက္ကတလို သကြ ဖြစ်၏။ သကြမှ သ– ၏အစိတ် အ – ကို ဣပြု။ က – အစိတ် အ – ကို အားပြုပြီး သိကြားဟု မြန်မာဝေါဟာရ ဖြစ်လာသည် ဆိုလို၏။





ထို့ကြောင့် အရှင်မဟာရဋ္ဌသာရအကျော် ဆရာတော်က ကိုးခန်းပျို့တွင် 'သက္က သကြ၊ မဂနေ့၊ သက္ကတဘာသာ၊ ဝေါဟာအပြား၊ ထိုနှစ်ပါးတွင်၊ ဣအား အက္ခရာ၊ လွဲကာလည်းပြု၊ မြန်မာမှုဖြင့်၊ ယခုလူတွင်၊ သိကြားထင်သည်'

ဟု စပ်ဆိုတော်မူခဲ့ခြင်း ဖြစ်သည်။

သိကြားနာမည်များတွင် သဟဿက္ခ နာမည်လည်း ပါသည်။ သဟဿက္ခကို ပုဒ်ခွဲလိုက်လျှင် သဟဿ+အက္ခ ဖြစ်သည်။ သဟဿက မြန်မာလို တစ်ထောင်။ အက္ခက မြန်မာလို မျက်စိဟု အဓိပ္ပာယ်ရ၏။

သရဘင်္ဂဇာတ် ပါဠိတော်မှာလည်း သိကြားမင်း၏နာမည်ကို သဟဿနေတ္တဟု ဟောထား၏။

ဤ၌လည်း သဟဿ = တစ်ထောင်၊ နေတ္တ = မျက်စိဟုပင် အဓိပ္ပာယ်ရ၏။

ထို့ကြောင့် သဟဿက္ခ၊ သဟဿနေတ္တ ဟူသော သိကြားမင်း၏ နာမည်များအရ 'သိကြားမင်းမှာ မျက်စိ တစ်ထောင်ရှိသည်' ဟု လူအများ ပြောဆိုတတ်ကြ၏။

ဇာတ်ခင်းကပြရာ၌ သိကြားမင်းအခန်းတွင်လည်း "နတ်မျက်စိတစ်ထောင်နဲ့ လူ့ဘောင်ကြည့်ဦးမှ တော်တော့မယ်" ဟု ဇာတ်သမားတို့ကလည်း ဇာတ်စကားကို ဆိုကြသည်။

အမှန်စင်စစ် ဤသဟဿက္ခ၊ သဟဿနေတ္တ ဟူသော ပါဠိဝေါဟာရများသည် မျက်စိတစ်ထောင်ဟု အဓိပ္ပာယ်မရပါ။

သဟဿက္ခ၏ အဓိပ္ပာယ်မှာ တစ်ထောင်သော အကြောင်းအရာတို့ကို တစ်ခဏချင်း ကြံစည်စဉ်းစား၍ အဆုံးအဖြတ်ပေးနိုင်သူ၊ မြင်စွမ်းနိုင်သူ၊ ကြံစည်ဖြေရှင်းပေးနိုင်သူ၊ သဟဿနေတ္တ၏ အဓိပ္ပာယ်မှာလည်း မျက်စိတစ်ထောင်ရှိတဲ့ နတ်သား (၅၀၀) တို့၏ မြင်နိုင်ရာအရပ်ကို လွန်ပြီး မြင်သိစွမ်းနိုင်သူဟု ဆိုလိုလေသည်။

ထို့ကြောင့် ထိုဇာတ်စကားများသည် တင်စား သုံးစွဲထားသည့် ဥပစာစကားများသာဖြစ်၍ သိကြားမင်းမှာ မျက်စိတစ်ထောင်ရှိသည်ဟု မချဧကန် မယူရပါ။

အမှန်စင်စစ် သိကြားမင်းမှာ မျက်စိတစ်ထောင်လည်း မရှိပါ။ ဤနေရာ၌ မှချစကား၊ ဥပစာစကားတို့ကို ခွဲခြား မှတ်သားသင့်ကြပေသည်။

## သိကြားဖြစ်ကြောင်း အကျင့်ကောင်းခုနစ်ပါး

သိကြားမင်းကား ရှေးလူ့ဘဝတွင် မဂဓတိုင်းဝယ် မစလရွာ၌ မာဃလုလင် ဖြစ်ခဲ့ဖူး၏။

မာဃလုလင်သည် မြော်မြင်ဉာဏ်ရှိ၏။ တစ်နေ့တွင် ရွာ၏ အလယ်ကွက်လပ်တစ်နေရာ အမှိုက်များကို ရှင်းလင်း သုတ်သင်ကာ မြေညီညာအောင် ညှိထား၏။ လူအများက ထိုနေရာကို ခံ့ခံ့မင်မင် နေချင်သည်ကို တွေ့ရသောအခါ အခြားအခြားသော နေရာများကိုလည်း တိုးချဲ့ပြုပြင် သုတ်သင်ထား၏။

ထို့နောက် တတ်စွမ်းနိုင်ချိန်တွင် တည်းခိုဇရပ်များ ဆောက်လုပ်ခြင်း၊ ရေတွင်းရေကန်များ တူးဖော်ခြင်း၊ တံတားခင်းခြင်း စသော လူထုအကျိုးပြု ကုသိုလ်ကောင်းမှုများကို ပြုလုပ်၏။ သူနှင့် စိတ်တူ သဘောတူ သူငယ်ချင်း ၃၂ ယောက်တို့ကလည်း သူ့ကို အားကျအတုယူ၍ သူနှင့်အတူ ကုသိုလ်ကောင်းမှုတို့ကို ပြုလုပ်အားထုတ်ကြသည်။

နှောင်းသောအခါ၌ မိမိတို့ မြို့ရွာ၌သာမက အခြားသော မြို့ရွာနယ်ပယ်များအထိ တိုးချဲ့ကာ ထိုမြို့များ၌ လမ်းများကို သုတ်သင်ရှင်းလင်းခြင်း၊ တည်းခိုဇရပ်ဆောက်ခြင်း စသော ကုသိုလ်ကောင်းမှုများကို ပြုလုပ်ကြ၏။ မာဃလုလင်ကမူ ထိုလူအများအကျိုးပြု ကုသိုလ်ကောင်းမှုများ အပြင် –

(၁) မိဘနှစ်ပါးကို အသက်ထက်ဆုံး လေးစားသမှု ပြုစုလုပ်ကျွေး၏။

(၂) မိဘက်၊ ဖဘက် အဆက်အသွယ် အမျိုးအနွယ်တွင် မိမိထက် အသက်ကြီးသူတို့ကို အသက်ထက်ဆုံး ရိုသေလေးစား၏။

(၃) အသက်ထက်ဆုံး သိမ်မွေ့ယဉ်ကျေး ချိုသာအေးမြသော စကားကိုသာ ပြော၏။





(၄) ချစ်သူနှစ်ယောက် ကွဲပြားလောက်အောင် ကောက်ကျစ်စိတ်ထား ကုန်းချောစကားမျိုးကို အသက်ထက်ဆုံး ပြောဆိုလေ့ မရှိ။

(၅) အသက်ထက်ဆုံး မပေးရက်လို နှမြောဝန်တိုတတ်သော စိတ်ထားကို ပယ်ရှားလျက် လွတ်လွတ်ကျွတ်ကျွတ် စွန့်ကြဲပေးကမ်းလှူဒါန်းလေ့ရှိ၏။

(၆) မှန်ကန်သော စကားကိုသာ အသက်ထက်ဆုံး ပြော၏။

(၇) အသက်ထက်ဆုံး ဒေါသအမျက် မပေါ်ထွက်အောင် ထိန်းသိမ်း၏။

တစ်ခါတစ်ရံ မထိန်းနိုင်ခြင်းကြောင့် ဒေါသထွက်လာလျှင်လည်း ထိုဒေါသကို အလျင်အမြန် ပယ်ဖျောက်လိုက်၏။

ဤသို့ သိကြားဖြစ်ကြောင်း ကျင့်ဝတ်ကောင်း ခုနစ်မျိုးကိုလည်း ဖြည့်ကျင့်ဆည်းပူး၏။

ထို့ကြောင့် ထိုဘဝမှ စုတေကြသောအခါ မာဃလုလင်မှာ သိကြားမင်းဖြစ်လာ၍ ကျန်သူငယ်ချင်း ၃၂ ယောက်တို့ကား သိကြား၏ အခြံအရံ နတ်မင်းကြီးများ ဖြစ်လာကြ၏။

## သိကြားမင်းစံရာ ဝေဇယန္တာနန်းတော်ကြီး

ထိုသိကြားနတ်မင်း စံနန်းတော်ကား ဝေဇယန္တာ အမည်ရှိ၏။ ထိုစံနန်းတော်သည် မဟာသုဒဿန နေပြည်တော်၏ အလယ်ဗဟိုတွင် တည်ရှိ၏။ ယူဇနာတစ်ထောင်မြင့်၍ ရတနာခုနစ်ပါးတို့ဖြင့် ပြုလုပ်ဖန်ဆင်းထား၏။

နန်းတော်ကြီး၏ပတ်လည်တွင် နတ်အသုရာစစ်ပွဲကြီးကို အောင်မြင်သည့် အထိမ်းအမှတ်အဖြစ်ဖြင့် တံခွန်အောင်လံကြီးများကို မားမားစွင့်စွင့် လွှင့်ထူထားသတဲ့။

ထိုတံခွန်အောင်လံကြီးမှာ ယူဇနာသုံးရာစီ မြင့်ကြ၍ ရွှေတံခွန်တိုင်ကြီးများ၌ ဆွဲထားသော ပတ္တမြားတံခွန်များ၊ ပတ္တမြားတံခွန်တိုင်ကြီးများ၌ ဆွဲထားသော ရွှေတံခွန်များ၊ သန္တာတံခွန်တိုင်ကြီးများ၌ ဆွဲထားသော ပုလဲတံခွန်များ၊ ပုလဲတံခွန်တိုင်ကြီးများ၌ ဆွဲထားသော သန္တာတံခွန်များ၊

ရတနာခုနစ်ပါးဖြင့်ပြီးသော တံခွန်တိုင်ကြီးများ၌ ဆွဲထားသော ရတနာခုနစ်ပါးဖြင့်ပြီးသော တံခွန်များ ဖြစ်ပါသည်။

ဤဝေဇယန္တာ နန်းပြာသာဒ်ကြီးကို မာဃလုလင်ဘဝက တည်းခိဇရပ်များ ဆောက်လုပ် လှူဒါန်းခဲ့သော ကုသိုလ်ကြောင့် ရရှိရခြင်း ဖြစ်သည်။

### ဝေဇယန္တာနှင့် ရဟန္တာကိုရင်ကလေး

ရှင်သံဃရက္ခိတ ခေါ် ရှင်သာမဏေငယ်မှာ မဟာသမုဒ္ဒရာ၌ သီတင်းသုံးလေ့ရှိသော မဟာနာဂ မထေရ်ကြီး၏ တူကလေး ဖြစ်၏။

ထို သံဃရက္ခိတ ကိုရင်ကလေးသည် ကိုရင်ဝတ်သည့်နေ့ ဆံချပြီးသည်နှင့် တစ်ပြိုင်နက် ရဟန္တာဖြစ်သွားခဲ့သည်။

ထိုအခါ ရဟန္တာ ကိုရင်ကလေးက ရဟန်းပြုတဲ့နေ့မှာပင် ရဟန္တာဖြစ်ပြီး ဝေဇယန္တာနန်းပြာသာဒ်ကို လှုပ်စေခဲ့ဖူးတဲ့ရဟန်း ရှိဖူးသလားဟု ဆင်ခြင်သတဲ့။ မည်သည့် ရဟန်းမှ မလှုပ်စေခဲ့ဘူးကြောင်းကို သိရသည့်အခါ 'ငါ သိကြားမင်းစံရာ ဝေဇယန္တာပြာသာဒ်ကြီးကို လှုပ်စေမယ်' ဟု အဘိညာဉ်တန်ခိုးဖြင့် ပျံတက်၍ ဝေဇယန္တာ နန်းပြာသာဒ်ကြီး၏ထိပ်ဖျားတွင် မတ်မတ်ရပ်ကာ ပြာသာဒ်ထိပ်ဖျားကို ခြေဖြင့် ပုတ်ခတ်သည်။

သို့သော် ဝေဇယန္တာပြာသာဒ်ကြီးမှာ မည်သို့မျှ မထူးခြား။ ခိုင်မြဲစွာ ရပ်တည်လျက်သားပင် ရှိနေ၏။

ထိုအခါ ကိုရင်ကလေး၏ အပြုအမူကို မြင်ကြရသော သိကြားမင်းကို ဖျော်ဖြေနေကြသည့် နတ်သမီးပျိုကလေးများက -

"ချစ်သားသံဃရက္ခိတ၊ ချစ်သားဟာ အမေမွေးဖွားလို့ ခေါင်းက ကြေးနံ့ မစင်သေးမီ ဘာဖြစ်လို့ ဝေဇယန္တာနန်းပြာသာဒ်ကြီးကို တုန်လှုပ်စေချင်ရတာလဲ။

ဒီပြာသာဒ်ကြီးဟာ အင်မတန် ခိုင်ခံ့ပါတယ် ချစ်သား။ ပြာသာဒ်လှုပ်အောင် ဘယ်လိုနည်းနဲ့ တတ်နိုင်မှာလဲ"

ဟု ဝိုင်း၍ ပြက်ရယ်ပြုကြ၊ လှောင်ပြောင်ကြသတဲ့။

ရဟန္တာ ကိုရင်ကလေးသည် -





"ငါမှာ ဆရာနည်း မရခဲ့တဲ့အတွက် ဒီနတ်သမီးတွေရဲ့ အပြောင်အလှောင်ကို ခံရတယ်။ ငါ့ဆရာဖြစ်တဲ့ မဟာနာဂမထေရ် အခု ဘယ်မှာ ရှိလေသလဲ"

ဟု ဆင်ခြင်ပြီး နေ့အချိန်တွင် မဟာသမုဒ္ဒရာတွင် ရေလိုဏ်ဂူကို ဖန်ဆင်း၍ သီတင်းသုံးနေသည့် ဆရာ့ထံသွားကာ ရှိခိုးဦးတင်လျက် ရပ်နေ၏။

ထိုအခါ မဟာနာဂမထေရ်က -

"ချစ်သား သံဃရက္ခိတ၊ သင်ဟာ ဆရာသမားထံ နည်းခံ မသင်ယူဘဲ စစ်တိုက်ခဲ့ပြီ မဟုတ်လား။ အခု ဝေဇယန္တာပြာသာဒ်ကြီးကို တုန်လှုပ်သွားအောင် မလုပ်နိုင်ခဲ့ဘူး မဟုတ်လား"

ဟု မေးရာ -

"မှန်ပါတယ် ဘုရား၊ လှုပ်အောင် မလုပ်နိုင်ခဲ့ပါ ဘုရား"

ဟု ကိုရင်ကလေးက ပြန်လျှောက်ထား၏။

ထိုအခါ မဟာနာဂမထေရ်က -

"ချစ်သား၊ ချစ်သားတို့လို ပုဂ္ဂိုလ်မျိုးကမှ တုန်လှုပ်အောင် မလုပ်နိုင်ရင် သည့်ပြင် ဘယ်လို ပုဂ္ဂိုလ်မျိုးက တုန်လှုပ်အောင် လုပ်နိုင်မှာလဲ။

ရေပြင်ပေါ်မှာ ပေါ်လောပေါ်မျောနေတဲ့ နွားချေးတုံးကို ချစ်သား မြင်ဖူးတယ် မဟုတ်လား။ အဲဒီ ဥပမာအတိုင်းပဲ"

ဟု မိန့်တော်မူလိုက်၏။

"အရှင်ဘုရား၊ ဤမျှလောက်ဖြင့် ဘုရားတပည့်တော် နားလည်သဘောပေါက်ပါပြီ ဘုရား"

ဟု လျှောက်ထားကာ -

"ဝေဇယန္တာ ပြာသာဒ်ကြီး တည်ရှိနေတဲ့ နေရာတစ်ခုလုံး ရေ ဖြစ်စေသတည်း"

ဟု အဓိဋ္ဌာန်တော်မူလျက် ဝေဇယန္တာပြာသာဒ်ရှိရာသို့ ကြွသွားလေသည်။

နတ်သမီးများသည် ကိုရင်ကလေး ပြန်ကြွလာသည်ကို မြင်ကြသည့်အခါ -

"အရှက်ရပြီး ပြန်သွားရတဲ့ ကိုရင်ကလေး တစ်ခါ ပြန်လာပြန်ပြီ၊ ပြန်လာပြန်ပြီ"

ဟု ဝိုင်းလှောင်ကြပြန်၏။

နတ်သမီးများ၏ ပြောင်လှောင်သံကို သိကြားမင်းကြီး ကြားရသည့်အခါ -

"ငါ့သားတော်ဖြစ်တဲ့ ကိုရင်ကလေးကို သင်တို့ ဒီလို မပြောကြနဲ့။ အခု သူ့ဆရာရှိလာပြီ။ မကြာမီ ဝေဇယန္တာပြာသာဒ်ကို တုန်လှုပ်အောင် လုပ်ပါလိမ့်မယ်"

ဟု မိန့်ကြား၏။

သံဃရက္ခိတ သာမဏေကလေးသည် ဝေဇယန္တာ ပြာသာဒ် အထွတ်ကို ခြေမဖြင့် ပုတ်ခတ်ရာ ပြာသာဒ်ကြီးမှာ ဟိုဘက်ယိမ်းလိုက်၊ သည်ဘက်ယိမ်းလိုက်ဖြင့် အရပ်လေးမျက်နှာသို့ ယိမ်းညွတ်နေ၏။

နတ်သမီးများမှာ တုန်လှုပ်ထိတ်လန့်သွားကြပြီး -

"ချစ်သား ကိုရင်ကလေး၊ ပြာသာဒ်ကြီးကို မလှုပ်ပါနဲ့၊ နေမြဲတိုင်း ပဲထားပါ"

ဟု အော်ဟစ်ပြောဆိုကြရသည်။

ထိုအခါ ရဟန္တာ ကိုရင်ကလေးသည် ဝေဇယန္တာပြာသာဒ်ကြီးကို မူလအတိုင်း ငြိမ်ငြိမ်သက်သက် ထားလိုက်ပြီး ပြာသာဒ်ထိပ်ပေါ်တွင် မတ်တတ်ရပ်ကာ -

"ငါဟာ ယနေ့ပင် ရှင်သာမဏေဖြစ်၊ ယနေ့ပင် ရဟန္တာဖြစ်ပြီး၊ ယနေ့ပင် သိကြားမင်းစံရာ ဝေဇယန္တာ ပြာသာဒ်ကြီးကို တုန်လှုပ်အောင် လုပ်နိုင်ခဲ့ပေတယ်၊ ဩော် - ဘုရား၊ တရား၊ သံဃာတော်မြတ်တွေရဲ့ ဂုဏ်တော်များကား လက်ဖျစ်တီး၍ အံ့ချီးဖွယ် ကောင်းလေစွတကား"

ဟု ဥဒါန်းကျူးရင့်တော်မူခဲ့လေသည်။

ထို့ပြင် သိကြားမင်းသည် မြတ်စွာဘုရားထံတွင် တရားနာပြီး တာဝတိံသာနတ်ပြည်သို့ ပြန်သွားသည့်အခါ အရှင်မောဂ္ဂလာန်က ဘုရားဟောလိုက်သည့်တရားကို သိကြားမင်း နားလည်၊ မလည် သိလိုသဖြင့် သိကြားမင်းထံ ခဏချင်းပင် သွားမေးသည်။





ဥယျာဉ်ထဲမှာ အပျော်ကြူးပြီး မေ့မူးနေသည့် သိကြားမင်းကြီးမှာ နာလာသည့်တရားကို မေ့သွား၍ ရှင်မောဂ္ဂလာန်၏အမေးကို မဖြေနိုင်သဖြင့် အခြား စကားများကိုသာ ရှောင်လွှဲ ပြောကြားနေ၏။

ထို့ကြောင့် အရှင်မောဂ္ဂလာန်က သိကြားမင်းကြီး ထိတ်လန့်သွားအောင် ဝေဇယန္တာ ပြာသာဒ်ကြီးထိပ်တွင် ရပ်ကာ ဝေဇယန္တာ ပြာသာဒ်ကြီးကို သွက်သွက်ခါသွားအောင် ပြုလုပ်ကြောင်း မူလပဏ္ဏာသပါဠိတော်၊ စူဠတဏှာသခ်ယသုတ်၌ တွေ့ရသည်။

### ဝေဇယန္တာနတ်ရထား

သိကြားမင်းစီးသည့် ဝေဇယန္တာ နတ်ရထားကြီးကား အံ့မခန်းဆန်းကြယ်လှပါသည်။ ရထားဦးပိုင်းမှ နောက်ဆုံး ပဲ့ပိုင်းအထိ ယူဇနာ ၁၅၀ ရှိ၏။ ဝေဇယန္တာနတ်ရထား၏ ဦးပိုင်းမှ အလယ်ရထားအိမ်အထိ ယူဇနာငါးဆယ်၊ အလယ်ရထားအိမ်ကြီးက ယူဇနာ ငါးဆယ်၊ အလယ်ရထားအိမ်မှ နောက်ဆုံး ပဲ့ပိုင်းအထိ ယူဇနာငါးဆယ်ရှိ၍ ဝေဇယန္တာရထားမှာ ယူဇနာ ၁၅၀ ရှိခြင်း ဖြစ်သည်။ ရထားကြီး၏အနံမှာ ယူဇနာငါးဆယ်ကျယ်၍ အဝန်းအားဖြင့် ယူဇနာ ၄၀၀ ရှိသည်ဟု ဆိုပါသည်။

ဝေဇယန္တာရထားအိမ်၏အလယ်မှာ သိကြားမင်းစံရန် ရတနာပလ္လင်ကြီး ရှိ၏။ ရတနာပလ္လင်ကြီးမှာ တစ်ယူဇနာမြင့်၍ တစ်ယူဇနာပင် ကျယ်ပါသည်။ ထိုရတနာပလ္လင်ကြီးတွင် အဝန်း သုံးယူဇနာရှိသည့် ထီးဖြူကြီးကို စိုက်ထူထားသည်။

ဝေဇယန္တာ နတ်ရထားကြီးမှာ ထမ်းပိုးတစ်ခုသာ ရှိပါသည်။ သို့သော် ထိုထမ်းပိုး တစ်ခုတည်းတွင်ပင် အာဇာနည် သိန္ဓောမြင်းပျံ တစ်ထောင်တို့ ကနိုင်ရန်အတွက် ရင်လွှမ်း၊ အုပ်ခက်၊ ဆက်သိုင်း၊ မွေးတွဲကြိုးကတန်ဆာတို့ကို ရတနာအမျိုးမျိုးတို့ဖြင့် စီခြယ်ထားပြီး တစ်ပေါင်းတည်း ကသွားနိုင်အောင် ပြုပြင်ထားပေသည်။ ထိုဝေဇယန္တာရထားကြီးကို မောင်းနှင်သူ ရထားထိန်းမှာ မာတလိနတ်သား ဖြစ်ပါသည်။

သိကြားမင်းသည် ဝေဇယန္တာ နန်းပြာသာဒ်မှ ထွက်ကြွတော်မူသည့်အခါ များသောအားဖြင့် ဝေဇယန္တာ နတ်ရထားကြီးကိုစီး၍ ထွက်ကြွ

တော်မူလေ့ရှိ၏။ တစ်ခါတစ်ရံ၌မူ ဝေဇယန္တာ နတ်ရထားကြီးကို မစီးဘဲ ဧရာဝဏ် ဆင်တော်ကိုစီး၍ ထွက်ကြွတော်မူပေသည်။

## ဧရာဝဏ် ခေါ် စီးတော်ဆင်ကြီး

ဧရာဝဏ် အမည်ရှိသည့် သိကြားမင်း၏ စီးတော်ဆင်ကြီးမှာ တကယ့် ဆင်အစစ် မဟုတ်ပေ။ ဆင် စသည့် အဟိတ်တိရစ္ဆာန် သတ္တဝါများမှာ တာဝတိံသာ စသော နတ်ပြည်များ၌ မဖြစ်နိုင်၊ မရှိနိုင်သောကြောင့် ဖြစ်သည်။

သိကြားမင်း ဥယျာဉ်ကစားရန် ထွက်သည့်အခါ ဧရာဝဏ် အမည်ရှိသည့် နတ်သားက ယူဇနာ တစ်ရာ့ငါးဆယ်ရှိသောဧရာဝဏ် ခေါ် စီးတော်ဆင်ကြီးကို ဖန်ဆင်းပေးခြင်း ဖြစ်သည်။ ဧရာဝဏ်နတ်သားကား မာဃလုလင်ဘဝတွင် ဘုရင်မင်းမြတ် ပေးသနားတော်မူသော ဆင်ကြီးမှ ဖြစ်လာသောနတ်သား ဖြစ်၏။

ထို ဆင်ကြီးတွင် သုံးကျိပ်သုံးယောက်သော နတ်မင်းကြီးတို့ စီးရန် ဆင်ဦးကင်း သုံးဆယ့်သုံးလုံး ပါရှိ၏။ အလယ်တွင် သိကြားမင်း ထိုင်တော်မူရန် ယူဇနာသုံးဆယ်ရှိသည့် သုဒဿန ခေါ် ဆင်ဦးကင်း တစ်လုံး ရှိ၏။ ထိုဆင်ဦးကင်း၏ အထက်တွင် ၁၅ ယူဇနာရှိသော ရတနာ မဏ္ဍပ်ကြီး ရှိ၏။

ထိုမဏ္ဍပ်အကြားအကြား၌ တဝင်းဝင်းတလက်လက် အရောင်ထွက်နေကြသော ရတနာခုနစ်ပါးတို့ဖြင့် ပြုလုပ်ထားသည့် အမြင့် တစ်ယူဇနာရှိသည့် တံခွန်တို့ကို စိုက်ထူထား၏။ တံခွန်များ၏ဘေးတွင် ရွှေခြူကွန်ရက်များ ဆွဲထား၏။ လေပြည်လေညင်းတို့ ဆော်သွင်းတိုက်ခတ်သည့်အခါတွင် ရွှေခြူကွန်ရက်တို့မှ နတ်တို့၏ သီချင်းသံ၊ တူရိယာသံကဲ့သို့ ငြိမ့်ငြောင်းသာယာသောအသံများ ထွက်ပေါ်လျက် ရှိပါသည်။

တစ်ဆယ့်နှစ်ယူဇနာရှိသော မဏ္ဍပ်ကြီးအလယ်တွင် သိကြားမင်း စံရန် တစ်ယူဇနာရှိသော ပတ္တမြားပလ္လင်ကို ကျက်သရေရှိရှိ ခင်းထား၏။ သိကြားမင်း ထွက်တော်မူသောအခါ ထိုပတ္တမြားပလ္လင်တွင် ထိုင်တော်မူပါသည်။





ဧရာဝဏ် ဆင်တော်ကြီးရှိ ၃၃ ခုသော ဆင်ဦးကင်းတို့တွင် ဦးကင်းတစ်ခုတစ်ခု၌ ဆင်စွယ်ခုနစ်ချောင်းစီ ပါရှိ၏။ ဆင်စွယ်တစ်ချောင်း တစ်ချောင်းသည် ယူဇနာ ၅၀ စီ ရှိသည်။

တစ်ချောင်း တစ်ချောင်းသော ဆင်စွယ်တွင် ရေကန် ခုနစ်ကန်စီ ရှိ၏။

ရေကန် တစ်ကန် တစ်ကန်တွင် ပဒုမ္မာကြာရုံ ခုနစ်ရုံစီ ပါရှိ၏။

ပဒုမ္မာကြာရုံ တစ်ရုံတစ်ရုံတွင် ပဒုမ္မာကြာပန်း ခုနစ်ပွင့်စီ ပါရှိ၏။

ပဒုမ္မာကြာပွင့် တစ်ပွင့် တစ်ပွင့်တွင် ပွင့်ချပ် ခုနစ်ခုစီ ရှိ၏။

ပွင့်ချပ် တစ်ခုစီ တစ်ခုစီ၌ နတ်သမီး ခုနစ်ဖော်တို့ ကခုန်နေကြသည်။

ဤသို့ ယူဇနာ ၅၀ ရှိသော ဆင်စွယ်များတွင် နတ်ပွဲသဘင်ကြီးကို ခင်းကျင်းထားပါသည်။

သိကြားမင်းသည် ဧရာဝဏ်ဆင်ကြီးကို စီးတော်မူကာ ကြီးကျယ်သော နတ်စည်းစိမ်ချမ်းသာကို ခံစားလျက် လှည့်လည်ကြွမြန်း စက်ဝန်းခြွေတော်မူလေ့ ရှိပါသည်။

သိကြားမင်းကြီး ဥယျာဉ်ကစားရာမှ ပြန်လာသည့် အခါ၌မူ ဧရာဝဏ်ဆင်ကြီးသည် ပင်ကို ပကတိအတိုင်း နတ်သားပြန်ဖြစ်၍ မိမိ ဘုံဗိမာန်၌ နေသည်ဟု ဆိုပေသည်။

## သုဓမ္မာ ခေါ် ဓမ္မာရုံကြီး

သုဓမ္မာ ခေါ် ဓမ္မာရုံကြီးကား သိကြားမင်း အမှူးရှိသော နတ်အပေါင်းတို့ အစည်းအဝေး ကျင်းပရာ ဌာနကြီး ဖြစ်၏။

ထိုဌာနကြီးသည် တာဝတိံသာနတ်ပြည် သုဒဿန နတ်မြို့တော်ကြီး၏ အရှေ့မြောက်ဘက် ပင်လယ်ကသစ်ပင်ရင်းမှာ ရှိသည်။ အလျားအနံ ယူဇနာ ၃၀၀ စီရှိ၍ အဝန်း ယူဇနာ ၉၀၀၊ အမြင့် ယူဇနာ ၅၀၀ ရှိ၏။

ဓမ္မာရုံကြီး၏ ကျက်သရေကား ရေးသား၍ ကုန်နိုင်ဖွယ်ရာ မရှိ။ ဓမ္မာရုံ အဆောက်အအုံ အားလုံး၌ ပတ္တမြား၊ နီလာ၊ သန္တာ၊ ဥဿဖရား၊

ကျောက်မျက်ရွဲ၊ မသာရဂလ် စသည့် ရတနာ အမျိုးမျိုးတို့ကို သူ့နေရာနှင့်သူ သုံးစွဲထား၏။

နတ်အပေါင်းတို့ အစည်းအဝေးကျင်းပရာ မြေအပြင်မှာ ဖန်သားအတိရှိသော ဖန်မြေပြင် ဖြစ်၏။

အမှန်စင်စစ် ဤ သုဓမ္မာ ဓမ္မာရုံကြီးမှာ နတ်သိကြားတို့ ဖန်ဆင်းပြုလုပ်ထားသည့် ဓမ္မာရုံကြီး မဟုတ်ပါ။

မာဃလုလင်ဖြစ်ခဲ့စဉ်က တံခွန်နှင့်တကွ ဇရပ်ကို ဆောက်လုပ်ခဲ့ဖူးသော အတိတ်ကုသိုလ်ကံနှင့် ဥတုတို့ကြောင့် ဖြစ်ပေါ်လာသည့် ကမ္မပစ္စယဥတုသမုဋ္ဌာန ဗိမာန်ကြီး ဖြစ်ပါသည်။

ထိုဓမ္မာရုံကြီး၏အနီးတွင် ပင်လယ်ကသစ်ပင်ကြီး ရှိ၏။ ကမ္ဘာ့သစ်ပင်ကြီး ခုနစ်ပင်တွင် ပါဝင်သောသစ်ပင်ကြီး ဖြစ်၏။ ကမ္ဘာကြီးပျက်စီးသည်အထိ တည်ရှိနေနိုင်သည့် သစ်ပင်ကြီးတည်း။

ထိုပင်လယ်ကသစ်ပင်ကြီးသည် အခြား ကမ္ဘာ့သစ်ပင်ကြီးများကဲ့သို့ပင် ပင်မလုံးပတ် ၁၅ ယူဇနာ၊ မြေမှ ခွဆုံအထိ ယူဇနာ ၅၀၊ ခွဆုံမှ ထိပ်ဖျားအထိ ယူဇနာ ၅၀ ရှိသည်။

ခွဆုံမှ ယူဇနာ ၅၀ စီရှိသော အကိုင်းကြီးလေးကိုင်း ထွက်လျက်ရှိ၏။ ထို့ကြောင့် ထိုပင်လယ်ကသစ်ပင်ကြီးသည် အမြင့် ယူဇနာ ၁၀၀၊ အဝန်း ယူဇနာ ၁၀၀ ရှိပါသည်။

မာဃလုလင် ဖြစ်ခဲ့စဉ်က ပင်လယ်ကသစ်ပင်ကို စိုက်ပျိုးလှူဒါန်းခဲ့သော ကုသိုလ်ကံကြောင့် ဤ တာဝတိံသာနတ်ပြည်တွင် ဤကဲ့သို့သော ပင်လယ်ကသစ်ပင်ကြီး ဖြစ်ပေါ်လာခြင်း ဖြစ်သည်။

ကသစ်ပွင့်များမှာ အလွန် ဆန်းကြယ် တင့်တယ် လှပကြ၏။ ထိုကသစ်ပွင့်တို့၏ မွှေးရနံ့ကား လေအောက်သို့ ယူဇနာတစ်ရာအထိ ပျံ့နံ့မွှေးကြိုင် ရနံ့လှိုင်လျက် ရှိ၏။

ထို ပင်လယ်ကသစ်ပင်ကြီး၏ ကသစ်ပန်းပွင့်များမှ မွှေးရနံ့များသည် ဓမ္မာရုံကြီးအတွင်းသို့ လေညင်းပို့သဖြင့် နစ်မြို့စဖွယ် တင့်တယ်စွာ ကြိုင်လှိုင်လျက်ရှိသည့်အပြင် သုဓမ္မာသဘင် ဓမ္မာရုံကြီးအတွင်းဘက်မှာလည်း ပင်လယ်ကသစ်ပွင့်များဖြင့် အမြဲတမ်း တင့်တယ်လျက် ရှိ၏။





ဓမ္မာရုံကြီး အလယ်ဗဟိုတွင် တစ်ယူဇနာရှိသော တရားဟောရာ ရတနာပလ္လင်ကြီးရှိ၍ ထိုရတနာပလ္လင်၏အထက်တွင် သုံးယူဇနာရှိသော ထီးဖြူကြီးကို စိုက်ထူထား၏။

ရတနာပလ္လင်ကြီး အနီး၌ သိကြားမင်းထိုင်ရန် သီးသန့်နေရာရှိ၏။ သိကြားမင်းနေရာဘေးတွင် လူ့ဘဝက သိကြားမင်းနှင့် ကောင်းမှုပြုဘက် ပဇာပတိနတ်မင်း၊ ဝရုဏနတ်မင်း၊ ဤသာနနတ်မင်း စသော သုံးကျိပ်သုံးပါးသော နတ်မင်းကြီးများအတွက် နေရာများကို စနစ်တကျစီစဉ်ထား၏။

ထို့နောက် တန်ခိုးကြီးမား ထင်ရှားသော နတ်မင်းများ၏ နေရာတို့ကို ခင်းကျင်းထား၏။ မထင်ရှားသော နတ်များအတွက်လည်း သာမန်နေရာများ အများအပြား ရှိပေသည်။

နတ်သဘင် အစည်းအဝေးကြီး ကျင်းပချိန် တန်သောအခါ သိကြားမင်းကြီးကိုယ်တိုင် အတောင် တစ်ရာ့နှစ်ဆယ်ရှိသော ဝိဇယုတ္တရ ခရုသင်းကြီးကိုမှုတ်၍ အချက်ပေး၏။

ထို အချက်ပေးသံကြီးကား ယူဇနာ တစ်သောင်းကျယ်သော သုဒဿန ခေါ် နတ်မြို့တော်ကြီးကို ရိုက်ဟည်း မြည်ဟိန်းလျက် လူ့အရေအတွက်အားဖြင့် လေးလကြာအောင် ဆက်လက် မြည်ဟည်းနေသည်ဟု ဆိုပါသည်။

ထို ဝိဇယုတ္တရ ခရုသင်းကြီး၏အသံကို တာဝတိံသာနတ်ပြည် တစ်ဝန်းလုံးရှိ နတ်အပေါင်းတို့ အားလုံး ကြားကြ၍ သုဓမ္မာဓမ္မာရုံကြီးမှာ နတ်သဘင် အစည်းအဝေးကြီးရှိကြောင်း သိကြရသည်။

ထို့နောက် သိကြားမင်းကြီးသည် ယူဇနာတစ်ရာ့ငါးဆယ်ရှိသော ဧရာဝဏ် ဆင်တော်ကြီးကိုစီးကာ သုဇာ၊ သုဓမ္မာ၊ သုနန္ဒာ၊ သုစိတ္တာ နတ်မိဖုရားကြီးလေးပါးနှင့် နတ်သား၊ နတ်သမီးအပေါင်း အမြောက်အမြား ခြံရံလျက် သုဓမ္မာ ခေါ် ဓမ္မာရုံကြီးသို့ ထွက်ကြွတော်မူလာ၏။

သိကြားမင်းနှင့်တကွ ဆိုင်ရာနတ်များ ဓမ္မာရုံကြီး အတွင်းသို့ ဝင်မိကြလျှင် ရတနာရောင်၊ ပန်းရောင်များ လွှမ်းသဖြင့် ဓမ္မာရုံကြီးတစ်ခုလုံး နီမြန်းလျက် ရှိနေတော့၏။

ထိုနတ်သဘင်အစည်းအဝေးကြီးတွင် ဗြဟ္မာ့ပြည်မှ သက်ဆင်းလျက် **သနင်္ကုမာရ ဗြဟ္မာမင်းကြီး** တရားဟောလေ့ ရှိပါသည်။ တစ်ခါတစ်ရံ သိကြားမင်းကြီးကိုယ်တိုင်သော် လည်းကောင်း၊ တရားဟောကောင်းသော နတ်သားတစ်ဦးကသော် လည်းကောင်း တရားဟောလေ့ ရှိပေသည်။

## ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာ

မာဃလုလင် ဖြစ်ခဲ့စဉ်က ကျောက်ဖျာ အင်းပျဉ်ကို ပင်လယ်ကသစ်ပင်ရင်း၌ခင်းထားပြီး လှူဒါန်းခဲ့ဖူးသောကုသိုလ်ကံ၏ အကျိုးဆက်အဖြစ်ဖြင့် တာဝတိံသာနတ်ပြည်တွင် ပင်လယ်ကသစ်ပင်ကြီး၏ အနီး၌ ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာကြီး ဖြစ်ပေါ်လာခြင်း ဖြစ်ပါသည်။

ထိုမြကျောက်ဖျာကြီးသည် မဟာသုဒဿန နတ်မြို့တော်၏ အရှေ့မြောက်ရှိ ပုဏ္ဍရိကဉယျာဉ်ကြီးထဲတွင် ပင်လယ်ကသစ်ပင်ကြီး၏ အနီး၌ တည်ရှိ၏။

ထိုပဏ္ဍုကမ္ဗလာ မြကျောက်ဖျာကြီးသည် အလျား ယူဇနာ ခြောက်ဆယ်၊ အနံ ယူဇနာငါးဆယ်၊ ထုအထူ တစ်ဆယ့်ငါးယူဇနာ ရှိ၏။ လယ်ခေါင်ရန်းပွင့် အသွေးကဲ့သို့ နီတွေးသောအဆင်း ရှိ၏။

ကျောက်ဖျာဟု ဆိုရသော်လည်း လေမွေ့ရာကြီးကဲ့သို့ အလွန်နူးညံ့သိမ်မွေ့၏။ ထို့ကြောင့် သိကြားမင်း ထိုင်လိုက်လျှင် ကိုယ်တစ်ဝက်မြုပ်ဝင်သွား၍ ပြန်ထလိုက်သည့်အခါ ပြန်၍ ပြည့်တက်လာပြီး ပကတိအတိုင်း တည်နေခြင်း ဖြစ်သည်။

ထိုကျောက်ဖျာကြီးမှာ ပကတိသဘောအားဖြင့် ချမ်းမြေ့ အေးမြသည့် အတွေ့ရှိ၏။ သီလတန်ခိုးရှိသော သူတော်ကောင်းတို့အား ကူညီစောင့်ရှောက်ရန် စသော အကြောင်းတစ်စုံတစ်ရာ ရှိလာသည့်အခါ၌မူ သိကြားမင်းကြီးအား အချက်ပေးသည့် အနေဖြင့် ကျောက်ဖျာကြီးမှာ သိကြားမင်း ထိုင်လိုက်သည့်အခါ ခါတိုင်းကဲ့သို့ မအေးမြဘဲ တင်းမာပူလောင်သောသဘော ရှိလာတတ်၏။

ထိုအခါ သိကြားမင်းသည် နတ်မျက်စိဖြင့် ကြည့်ရှု၍ ပေါ်လာသည့်ပြဿနာကို ဖြေရှင်းပေးလေ့ ရှိပေသည်။





ဤကဲ့သို့ ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာကြီး တစ်ခါတစ်ရံ ပူပြင်းခက်မာလာရာတွင် အကြောင်းသုံးမျိုး ရှိပါသည်။ ထိုအကြောင်းများမှာ–

၁။ သီလရှိသော သူတော်ကောင်းတို့အား ကူညီစောင့်ရှောက်ရန် ကျောက်ဖျာကြီး ပူပြင်းတင်းမာလာခြင်း၊

၂။ သိကြားမင်း၏ ကုသိုလ်ကံ (ဝါ) သက်တမ်းကုန်ဆုံးသည့်အခါကြောင့်လည်း ကျောက်ဖျာကြီး ပူပြင်းတင်းမာလာခြင်း၊

၃။ သိကြားမင်း၏နေရာကို တောင့်တကြသည့် တရားရှိသော ပုဂ္ဂိုလ်၊ တန်ခိုးကြီးသော ပုဂ္ဂိုလ်များ၏ သီလတန်ခိုးကြောင့်လည်း ကျောက်ဖျာကြီး ပူပြင်းတင်းမာလာခြင်း ဖြစ်ပါသည်။

ဤပဏ္ဍုကမ္ဗလာ မြကျောက်ဖျာကြီးကား ဗုဒ္ဓရှင်တော်မြတ်ဘုရား တာဝတိံသာနတ်ပြည်၌ ခုနစ်ဝါမြောက် ဝါကပ်တော်မူ၍ ဝါတွင်း သုံးလပတ်လုံး သိကြား၊ ဗြဟ္မာတို့အား အဘိဓမ္မာ တရားတော်ကို အသံမစဲ ဟောကြားတော်မူရာတွင် သီတင်းသုံးတော်မူခဲ့သည့် ဌာနမွန်ကြီးဖြစ်သည်။

## စူဠာမဏိစေတီတော်ကြီး

စူဠာမဏိ စေတီတော်ကြီးကား တာဝတိံသာနတ်ပြည် မဟာသုဒဿန နတ်မြို့တော်ကြီးတွင် သိကြားမင်း ခေါင်းဆောင်သော နတ်အပေါင်းတို့ တည်ထား ကိုးကွယ်ကြသည့် တစ်ဆူတည်းသော စေတီတော်ကြီး ဖြစ်၏။

ထိုစေတီတော်ကြီး ဖြစ်ပေါ်လာပုံ စေတီတော်သမိုင်းမှာ ကျွန်ုပ်တို့ကိုးကွယ်သော ဂေါတမ ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားသည် ကပိလဝတ်ပြည်ကြီး၌ ထီးနန်းစည်းစိမ်ကို ခံစားနေရာမှ သက်တော် ၂၉ နှစ်တွင် နိမိတ်ကြီးလေးပါးကိုမြင်၍ သံဝေဂကြီးစွာ ဖြစ်ခဲ့ပါသည်။

ထို့ကြောင့် အလောင်းတော်မင်းသားသည် မဟာသက္ကရာဇ် ၉၇ခု၊ ဝါဆိုလပြည့် တနင်္လာနေ့ သန်းခေါင်ယံအချိန်တွင် ဆန္နအမတ်ကို နောက်ပါခေါ်၍ ကဏ္ဍကမြင်းကို စီးတော်မူကာ တောထွက်တော်မူခဲ့၏။

တစ်ညတွင်းမှာပင် ယူဇနာသုံးဆယ်ခရီးကို ကျော်လွန်၍ ရှစ်ဥသဘကျယ်သော အနော်မာမြစ်ကြီးကို ကူးနိုင်ခဲ့၏။

မြစ်တစ်ဖက်ကမ်းသို့ ရောက်သောအခါ မြင်းတော်မှ ဆင်းသက်၍ မင်းဝတ်တန်ဆာများနှင့် မြင်းတော်ကို ဆန္နအမတ်အား အပ်နှံကာ ကပိလဝတ် နေပြည်တော်သို့ ပြန်လွှတ်လိုက်သည်။

ထို့နောက် ဆံတော်များကို လက်နှစ်သစ်မျှချန်ပြီး လက်စွဲတော် သန်လျက်ဖြင့် ဖြတ်ပြီးလျှင် –

**"ငါသည် စင်စစ်ကေန် ဘုရားဖြစ်မည် မှန်ပါလျှင် ဆံပင်သည် မြေသို့ မကျဘဲ အထက်ကောင်းကင်၌ တည်စေသတည်း"**

ဟု အဓိဋ္ဌာန်ကာ ကောင်းကင်သို့ မြှောက်တင်လိုက်ရာ ဆံပင်တို့ သည် တစ်ယူဇနာမြင့်သော ကောင်းကင်၌ တည်နေကြ၏။

ထိုအခါ သိကြားမင်းသည် ဆံတော်တို့ကို ရတနာပန်းတောင်းဖြင့် ခံယူကာ တာဝတိံသာနတ်ပြည်တွင် ဆံတော်များကိုဌာပနာ၍ ရတနာ ခုနစ်ပါး တို့ဖြင့် ခြယ်လှယ်လျက် စူဠာမဏိစေတီတော်ကို တည်ထားကိုးကွယ်၏။ ဉာဏ်တော်ကား သုံးယူဇနာမြင့်၏ဟု ဗုဒ္ဓဝံသအဋ္ဌကထာ၌ မိန့်ဆိုထား၏။

ထိုစူဠာမဏိစေတီတော်ကြီး၌ အလောင်းတော်၏ ဆံတော်ဓာတ် တစ်မျိုးသာ ဌာပနာထားသည် မဟုတ်။

ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူစဉ်က ကြွင်းကျန်ရစ်သော ဓာတ်တော်တို့ကို ရှစ်ပြည်ထောင်မင်းတို့အား ဒေါဏပုဏ္ဏားကြီးက ဝေ ပေးသည့်အခါ ဦးရစ်ကြား၌ ဝှက်ထားသည့် လက်ယာစွယ်တော်ကိုလည်း သိကြားမင်းပင် ယူဆောင်ကာ ဌာပနာသည်ဟု ဗုဒ္ဓဝံသအဋ္ဌကထာ၌ပင် ဆို၏။

အချို့ ပညာရှင်များက ပါရာဇိကကဏ်အဋ္ဌကထာ ဗာဟိရနိဒါန်း အရ ထိုစူဠာမဏိစေတီတော်၌ လက်ယာညှပ်ရိုးတော်ကိုလည်း သိကြားမင်း ပင် ယူဆောင်၍ ဌာပနာခဲ့သည်ဟု မိန့်ဆိုကြ၏။

ထို့ကြောင့် စူဠာမဏိ စေတီတော်မှာ ဗုဒ္ဓဓာတ်တော်သုံးမျိုး ဌာပနာ၍ တည်ထားသော စေတီတော်ကြီး ဖြစ်ပါသည်။

တာသိတာနတ်ပြည်၌ ရှိနေသော အရိမေတ္တေယျ အလောင်းတော် နတ်သားသည် တစ်ခါတစ်ရံ တာဝတိံသာသို့ သက်ဆင်း၍ စူဠာမဏိ စေတီတော်ကို လာရောက်ဖူးမြော်လေ့ရှိကြောင်း ကျမ်းဂန်များ၌ တွေ့ရ၏။





လူ့ဘဝတွင် ပါရမီဓာတ် ရခဲ့ကြ၍ သဒ္ဓါတရားထက်သန်သော နတ်သမီး၊ နတ်သား မောင်မယ်စုံ အချို့မှာ အသက်ဓာတ်ကလည်း ရှည်၊ စိတ်ဓာတ်ကလည်း ကြည်လင်သောကြောင့် စေတီတော်ကြီးကို ပန်း၊ ဆီမီး စသော ပူဇော်ဖွယ်များဖြင့် ပူဇော်ကြကာ ဆုတူးဆုမြတ်များ ပန်ဆင်ကြ၍ ကုသိုလ်တရား တိုးပွားအောင် ကြိုးစားလျက် ရှိသည်ဟု ဆိုပေသည်။

❐

## သောတာပန် သိကြားမင်း

စတုမဟာရာဇ်နတ်ဘုံနှင့် တာဝတိံသာနတ်ဘုံနှစ်ဘုံကို အစိုးရသော သိကြားမင်းကြီးကား လူ့ပြည်တွင် မြတ်စွာဘုရား ပွင့်တော်မူလာသည့် အချိန်အထိ ပုထုဇဉ်ပုဂ္ဂိုလ်အဆင့်သာ ရှိသေး၏။

တစ်နေ့တွင် သိကြားမင်းကြီး၌ –

(၁) နတ်ပန်းများ ညှိုးနွမ်းခြင်း၊

(၂) နတ်ဝတ်တန်ဆာများ ညစ်နွမ်းခြင်း၊

(၃) လက်ကတီး(ချိုင်းကြား)တို့မှ ချွေးယိုကျခြင်း၊

(၄) ရုပ်ရည်အဆင်းဖောက်ပြန်ခြင်း(ဝါ)ရုပ်ဆိုးခြင်း၊

(၅) မိမိနေရာ၌ မမွေ့မလျော် မပျော်ပိုက်ခြင်း

ဟူသော ပုဗ္ဗနိမိတ်ငါးမျိုး ထင်လာခဲ့သည်။

ထိုအခါ သိကြားမင်းကြီးသည် သိကြားမင်းဘဝမှ စုတေရတော့မည်ကို သိရှိ၍ –

ယူဇနာတစ်သောင်း ကျယ်ဝန်းသော တာဝတိံသာနတ်ပြည်၊ ယူဇနာတစ်ထောင်မြင့်သော ဝေဇယန္တာနန်းပြာသာဒ်ကြီး၊ ယူဇနာသုံးရာ ကျယ်ဝန်းသော သုဓမ္မာ ဓမ္မာရုံကြီး၊ ယူဇနာတစ်ရာမြင့်သော ပင်လယ်ကသစ်ပင်၊ အလျား ယူဇနာခြောက်ဆယ်, အနံ ယူဇနာငါးဆယ်, အထု တစ်ဆယ့်ငါးယူဇနာရှိသော ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာ၊ နှစ်ကုဋေငါးသန်းရှိသော ကချေသည် နတ်သမီးများ၊ စတုမဟာရာဇ်, တာဝတိံသာ နတ်ပြည် နှစ်ထပ်ရှိ မိမိ၏ အခြွေအရံနတ်ပရိသတ်ကြီး၊ နန္ဒဝန်ဥယျာဉ်၊





စိတ္တလတာဥယျာဉ်၊ မိဿကဥယျာဉ်၊ ဖာရုသကဥယျာဉ် ဟူသော နတ်ဥယျာဉ်ကြီးများ စသည့် သိကြားမင်းစည်းစိမ် အားလုံးကိုကြည့်ကာ –

'ဩော်–ငါ့ရဲ့ ကြီးကျယ်ခမ်းနားလှတဲ့ ဒီသိကြားမင်းစည်းစိမ်ကြီးကို လက်လွှတ်ဆုံးရှုံးရတော့မှာပါတကား'

ဟု စိုးရိမ်ပူဆွေး သေရတော့မည့်ဘေးကို တွေးကာ ကြောက်သွေးမွှန်လျက် ရှိပေသည်။

သိကြားမင်းသည် မိမိသန္တာန်၌ ဖြစ်နေသည့် ကြောက်စိတ်၊ စိုးရိမ်စိတ်များကို ဖယ်ရှားပေးနိုင်မည့်သူကို စဉ်းစားဆင်ခြင်ရာ မြတ်စွာဘုရားမှတစ်ပါး အခြား တစ်စုံတစ်ယောက်သောသူကိုမျှ မမြင်သည့်အတွက် ဘုရားရှင်ကို သွားရောက်ဖူးမြော်ရန် စိတ်ဆန္ဒ ပြင်းစွာ ဖြစ်ပေါ်လာ၏။

ထိုအချိန်ကား ဘုရားရှင်သည် ရာဇဂြိုဟ်ပြည် သရက်တောရွာကလေးအနီး ဝေဒီယတောင်စောင်းရှိ ဣန္ဒသာလ လိုဏ်ဂူကြီးထဲမှာ သီတင်းသုံးတော်မူနေခိုက် ဖြစ်သည်။

သိကြားမင်းသည် လွန်ခဲ့သော သုံးရက်ခန့် ကာလကတည်းက နတ်ပရိသတ် မပါဘဲ အခြံအရံ မာတလိနတ်သား စသည်တို့နှင့် မြတ်စွာဘုရားကို ဖူးမြော်ရန် ဇေတဝန်ကျောင်းတော်ကြီးသို့ ရောက်ခဲ့သေး၏။

ထိုအချိန်၌ သိကြားမင်း၏ ဣန္ဒြေများ မရင့်ကျက်သေးသဖြင့် ဘုရားရှင်သည် သိကြားမင်းကို အဖူးအတွေ့မခံဘဲ အချိန်ဖြင့် ပိုင်း၍ ဖလသမာပတ်ကို ဝင်စားနေတော်မူလေသည်။

ထို့ကြောင့် သိကြားမင်းသည် မြတ်စွာဘုရားကို ရှိခိုးဝတ်ပြုနေသည့် ဘူဇတိနတ်သမီးကို –

"မြတ်စွာဘုရား၊ နတ်တို့သနင်း သိကြားမင်းသည် အခြံအရံပရိသတ်နှင့်တကွ မြတ်စွာဘုရား၏ ခြေတော်တို့ကို ဦးခေါင်းဖြင့် ရှိခိုးပါ၏ဟု ငါ့ကိုယ်စား မြတ်စွာဘုရားကို နှမက လျှောက်ထားပေးပါ"

ဟု ပြောဆို၏။ ထိုအခါ ဘူဇတိနတ်သမီးက –

"အရှင်သိကြားမင်း၊ မြတ်စွာဘုရားကို ဖူးမြော်ရန် အခါမဟုတ်ပါ။ မြတ်စွာဘုရားသည် တစ်ပါးတည်း ကိန်းအောင်းလျက် ရှိပါသည်"

ဟု ပြန်ပြော၏။

"နှမ၊ ထိုသို့ ဖြစ်လျှင် 'မြတ်စွာဘုရား၊ နတ်တို့သနင်း သိကြားမင်းသည် နတ်အခြံအရံ ပရိသတ်နှင့်တကွ မြတ်စွာဘုရား၏ ခြေတော်တို့ကို ဦးခေါင်းဖြင့် ရှိခိုးပါ၏' ဟု မြတ်စွာဘုရား ဖလသမာပတ်မှ ထတော်မူတဲ့ အခါ ငါ့ကိုယ်စား လျှောက်ထားပေးပါ"

ဟု မှာကြား၍ ပြန်လာခဲ့ရသည်။

ဘဒ္ဒါစတိနတ်သမီးကား ဝေဿဝဏ်နတ်မင်းကြီး၏ နတ်မိဖုရားတစ်ပါးတည်း။

ထိုနတ်မိဖုရားသည် သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ် ဟူသော အောက်အရိယဖိုလ်နှစ်ပါးသို့ ရောက်ရှိကာ သကဒါဂါမ် အရိယာသာဝိကာမ ဖြစ်သောကြောင့် နတ်ပြည်၌ မွေ့လျော်ပျော်ပိုက်ခြင်း မရှိပေ။

ထို့ကြောင့် အမြဲတမ်းလိုပင် မြတ်စွာဘုရားထံတော်သို့ ချဉ်းကပ်လျက်' လက်အုပ်ကို ဦးခေါင်း၌ တင်ထားပြီးလျှင် မြတ်စွာဘုရားကို ရှိခိုးကာ ရပ်တည် ဝတ်ပြုနေလေ့ရှိသော နတ်သမီး ဖြစ်ပေသည်။

ယခု အကြိမ်တွင် သိကြားမင်းသည် သူကိုယ်တိုင် မသွားသေးဘဲ ဘုရားရှင်နှင့် အကျွမ်းဝင်သည့် ပဉ္စသိခ နတ်သားကို ရှေးဦးစွာ စေလွှတ်ပြီး ဖူးမြော်ခွင့်တောင်းစေသည်။

ဖူးမြော်ခွင့်ရသည့်အခါမှ တာဝတိံသာနတ်အပေါင်း ခြံရံလျက် ဣန္ဒသာလ လိုဏ်ဂူကြီးထဲသို့ဝင်ကာ မြတ်စွာဘုရားကို ရိုသေစွာ ရှိခိုးပြီး အပြစ်လွတ်ရာ တစ်ခုသောနေရာ၌ ရပ်တည်၏။

ထို့နောက် သိကြားမင်းသည် ဘုရားရှင်အား လျှောက်ထားစရာများကို လျှောက်ထားပြီး နောက်ဆုံးတွင် အမေးပုစ္ဆာ ပြဿနာများကို လျှောက်ထားခွင့်ပြုရန် ဆက်လက် လျှောက်ထားပေသည်။

မြတ်စွာဘုရားက -

"အို-သိကြားမင်း၊ သင် မေးလိုရာ အမေးပုစ္ဆာ ပြဿနာတွေကို ငါဘုရားကို မေးနိုင်ပါတယ်။ သင်မေးတဲ့ အမေးပုစ္ဆာ ပြဿနာအားလုံးကို သင် ယုံမှားသံသယ ကင်းပျောက် ဆုံးခန်းတိုင်ရောက်တဲ့အထိ ငါဖြေကြားတော်မူမယ်"

ဟု မေးခွင့်ပြုတော်မူလိုက်ပါသည်။





ထိုအခါ သိကြားမင်းသည် -

"မြတ်စွာဘုရား၊ များစွာသော နတ်လူတို့သည် ရန်ငြိုးဖွဲ့ခြင်း၊ အမျက်ထွက်ခြင်း၊ စိတ်ဆင်းရဲခြင်း စသည် ကင်း၍ ဆင်းရဲမရှိ ချမ်းသာစွာ နေလိုကြပါလျက် အဘယ်ကြောင့် ရန်ငြိုးဖွဲ့ခြင်း စသည် မကင်းဘဲ ဆင်းရဲပင်ပန်းစွာ နေကြရပါသလဲ ဘုရား"

စသည်ဖြင့် မေးခွန်းပေါင်း ၁၄ ခု မေးလျှောက်ခဲ့ရာ ထိုမေးခွန်းအားလုံးကို သိကြားမင်းကြီး ယုံမှားကင်းပျောက် နားလည် သဘောပေါက်သည်အထိ ဖြေဆို ဟောကြားတော်မူပါသည်။

ထိုကဲ့သို့ ဟောကြား ဖြေဆိုတော်မူရာ ဆန္ဒမ၊ သတ္တမ၊ အဋ္ဌမ မေးခွန်းများကို ဖြေဆို ဟောကြားရာတွင် သိကြားမင်း အမှူးရှိသော နတ်အပေါင်းတို့၏ အလိုဆန္ဒ အဇ္ဈာသယအလိုက် ရှေးဦးစွာ ရုပ်ကမ္မဋ္ဌာန်းကို ဟောတော်မူပြီးမှ နာမ်ကမ္မဋ္ဌာန်းကို ဝေဒနာသုံးပါး၏အစွမ်းဖြင့် ခွဲခြမ်းစိတ်ဖြာ၍ ဟောကြားတော်မူပါသည်။

"နတ်တို့သနင်း သိကြားမင်း၊ ဤသို့ ကျင့်သောရဟန်းသည် သံသရာ၌ ချဲ့ထွင်တတ်သည့် ပပဉ္စတရားနှင့်ယှဉ်သော သညာတရားစု၏ ချုပ်ဆုံးခြင်းအားလျော်၍ ထိုချုပ်ရာနိဗ္ဗာန်သို့ ရောက်ကြောင်းအကျင့်ကို ကျင့်သည် မည်ပေ၏"

ဟု ဒေသနာတော်မြတ် နိဂုံးကမ္ပတ် အဆုံးသတ်တော်မူရာ သိကြားမင်းသည် သောတာပန် အရိယာပုဂ္ဂိုလ် ဖြစ်သွားပေသည်။

သိကြားမင်းသည် သောတာပန်ဖြစ်ပြီး မကြာမီ တရားနာနေနိုက်မှာပင် နတ်သက်ကြွေ စုတေ၍ သိကြားမင်းအသစ် ပြန်ဖြစ်၏။

နတ် သိကြားများ သေဆုံးကြသည့်အခါ လူသား စသော သတ္တဝါများကဲ့သို့ အသေကောင် မကျန်ရစ်တော့ဘဲ ဆီမီးများ ငြိမ်းသွားသကဲ့သို့ ရုပ်ခန္ဓာကြီး တစ်ခုလုံး ကွယ်ပျောက်သွားခြင်းမျိုးဖြစ်၍ သိကြားမင်းကြီး ဘဝဟောင်းမှ ဘဝအသစ်သို့ ပြောင်းလဲသွားသည်ကို ဘုရားရှင်နှင့်သိကြားမင်းကြီးမှတစ်ပါး အခြားနတ်များ မသိလိုက်ကြချေ။

ထို့ကြောင့် ယခုရှိသော သိကြားမင်းမှာ မူလ သိကြားမင်း မဟုတ်ဘဲ သိကြားမင်းအသစ် ဖြစ်သည်။

သိကြားမင်းဟောင်းဘ၀တွင် သောတာပန်တည်ခဲ့သူဖြစ်၍ ယခု သိကြားမင်းအသစ်ဘ၀၌လည်း သောတာပန် အရိယာပင် ဖြစ်၏။

## ဘုံစဉ်စံမည့် သောတာပန်

ထို့နောက် သောတာပန် အရိယာဖြစ်သော သိကြားမင်းက –

"မြတ်စွာဘုရား၊ ရှင်တော်ဘုရား၏ ဖြေကြားချက်ကို ကြားနာရသောကြောင့် ဤပြဿနာများ၌ အကျွန်ုပ်သည် ယုံမှားလွန်မြောက်သို့လော သို့လော တွေးတောခြင်း ကင်းပျောက်သွား၍ အလွန် ဝမ်းမြောက်ဝမ်းသာ ဖြစ်ရပါသည် ဘုရား"

ဟု ဘုရားရှင်ကို လျှောက်ထား၏။

မြတ်စွာဘုရားက –

"သိကြားမင်း၊ သင်သည် ရှေးအခါက ယခုလို ဝမ်းမြောက်ဝမ်းသာ ဖြစ်ခြင်းမျိုး ဖြစ်ခဲ့ဖူးသည်ကို မှတ်မိပါသလား"

ဟု မေးရာ သိကြားမင်းက –

"မြတ်စွာဘုရား၊ တပည့်တော် မှတ်မိပါသည် ဘုရား၊ တစ်ချိန်က တာဝတိံသာနတ်တို့နှင့် အသုရာနတ်တို့ စစ်ပွဲကြီး ဖြစ်ခဲ့ဖူးပါသည်။ ထိုစစ်ပွဲ၌ တာဝတိံသာနတ်တို့ကနိုင်၍ အသုရာနတ်တို့ စစ်ရှုံးကြပါသည်။ ထိုစစ်ပွဲကို နိုင်သောကြောင့် 'ယခုအခါ တာဝတိံသာနတ်တို့၏ အစာအာဟာရ၊ အသုရာနတ်တို့၏ အစာအာဟာရနှစ်မျိုးလုံးကိုပင် တာဝတိံသာနတ်တို့ချည်းသာ သုံးဆောင်ကြရပေမည်'

ဟု ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ပါ၏။

ဤဝမ်းမြောက်ဝမ်းသာဖြစ်မှုသည် တုတ်၊ ဓား၊ လက်နက်ကိုင်ဆောင်ရသော ချမ်းသာမျိုး ဖြစ်ပါ၏။ သံသရာဝဋ်၌ ငြီးငွေ့ရန်၊ ဝဋ်ဆင်းရဲချုပ်ငြိမ်းရန်၊ ရာဂ စသည် ငြိမ်းရန်၊ ထူးသောဉာဏ်ဖြင့် သစ္စာလေးပါးကို သိရန်၊ နိဗ္ဗာန်ကို မျက်မှောက်ပြုရန် မဖြစ်နိုင်ပါ။

မြတ်စွာဘုရား၊ ရှင်တော်ဘုရား၏ တရားတော်ကို နာကြားရ၍ ယခု အကျွန်ုပ် ရရှိသော နှစ်သက် ဝမ်းမြောက်ခြင်းမျိုးကသာ တုတ်၊ ဓား၊ လက်နက် မကိုင်ဆောင်ရသော ချမ်းသာခြင်းမျိုး ဖြစ်ပါ၏။





အမှန်စင်စစ် သံသရာဝဋ်၌ ငြီးငွေ့ရန်၊ ဝဋ်ဆင်းရဲချုပ်ငြိမ်းရန်၊ ရာဂ စသည်ငြိမ်းရန်၊ ထူးသောဉာဏ်ဖြင့် သစ္စာလေးပါးကိုသိရန်၊ နိဗ္ဗာန်ကို မျက်မှောက်ပြုရန် ဖြစ်ပါသည်"

ဟု လျှောက်ထား၏။

ထိုအခါ မြတ်စွာဘုရားက –

"သိကြားမင်း၊ သင်သည် အဘယ် အကျိုးထူးကိုမြင်၍ ဤကဲ့သို့သော နှစ်သက်ဝမ်းမြောက်မှုမျိုး ဖြစ်ရခြင်းကို ချီးကျူးပြောဆိုရပါသလဲ"

ဟု မေးရာ သိကြားမင်းက –

"မြတ်စွာဘုရား၊ အကျွန်ုပ်သည် အကျိုးထူး ခြောက်မျိုးကိုမြင်၍ ယခုလို ချီးကျူးပြောဆိုရခြင်း ဖြစ်ပါသည်။ အကျိုးထူး ခြောက်မျိုးမှာ –

(၁) ဤနတ်ကလေး (ကြွ)ကလေး ... 

(၁) ဣန္ဒသာလလိုဏ်ဂူ၌ တရားနာရ၍ သောတာပန် အရိယာဖြစ်ပြီး ထိုနေရာမှာပင် နတ်သက်ကြွေ စုတေကာ သိကြားနတ်မင်း တစ်ဖန်ပြန်ဖြစ်ရခြင်း၊

(၂) ထိုသိကြား ဘ၀မှ စုတေသည့်အခါ လူ့ပြည်တွင် မိမိနှစ်သက်ရာ မင်းမျိုး စသည်၌ သောတာပန် အဖြစ်ဖြင့်ပင် ပဋိသန္ဓေ မတွေမဝေ တည်နေရခြင်း၊

(၃) ထိုလူ့ဘ၀၌ မေ့လျော့ခြင်းမရှိဘဲ အရိယာဖြစ်သည့်အတိုင်း တရားအလုပ် အားထုတ်နေထိုင်ခြင်း၊

(၄) ယင်းသို့ တရားအားထုတ်သဖြင့် သကဒါဂါမိမဂ်ဉာဏ်ကို ရရှိကာ လူ့ဘ၀အဆုံးသတ်ခြင်း၊

(၅) သကဒါဂါမ် အရိယာအဖြစ်ဖြင့် လူ့ဘ၀မှ စုတေသည့်အခါ တာဝတိံသာနတ်ပြည်၌ တစ်ဖန် သိကြားနတ်မင်း ဖြစ်ရခြင်း၊

(၆) ထိုသိကြားဘ၀၌ အနာဂါမိမဂ်ကို ရရှိပြီးလျှင် သိကြားမင်းဘ၀မှ စုတေသည့်အခါ ဥဒ္ဓံသောတ အကနိဋ္ဌဂါမီ အနာဂါမ်အရိယာဖြစ်၍ အဝိဟာဘုံ စသော သုဒ္ဓါဝါသ ငြိမ့်ဘုံငါးဘုံ၌ အစဉ်အတိုင်းဖြစ်ကာ နောက်ဆုံး အကနိဋ္ဌဘုံ၌ ရဟန္တာဖြစ်၍ ဘ၀ဇာတ်သိမ်းရမည်ဖြစ်ခြင်း ဆိုသည့် အကျိုးထူးများ ဖြစ်ပါသည် ဘုရား"

ဟု ပြန်ကြား လျှောက်ထားလေသည်။

သိကြားမင်း လျှောက်ထားသည့် အကျိုးထူး ခြောက်မျိုးအနက် ခြောက်ခုမြောက် အကျိုးထူးအရ သိကြားမင်းသည် အနာဂါမ် အရိယာ သိကြားမင်းဘဝမှ စုတေသည့်အခါ သုဒ္ဓါဝါသ ငါးဘုံတွင် ပထမဆုံး အဝိဟာဗြဟ္မာ့ဘုံ၌ မဟာကပ်တစ်ထောင်၊ ထိုဘုံမှ စုတေ၍ အတပ္ပာ ဗြဟ္မာ့ဘုံ၌ မဟာကပ်နှစ်ထောင်၊ ထိုဘုံမှ စုတေ၍ သုဒဿာဗြဟ္မာ့ဘုံ၌ မဟာကပ်လေးထောင်၊ ထိုဘုံမှ စုတေ၍ သုဒဿီဗြဟ္မာ့ဘုံ၌ မဟာကပ် ရှစ်ထောင်၊ ထိုဘုံမှ စုတေ၍ ဘဝဂ် ခေါ် အကနိဋ္ဌဗြဟ္မာ့ဘုံ၌ မဟာကပ် ပေါင်း တစ်သောင်းခြောက်ထောင်၊ ဤသို့အားဖြင့် ဗြဟ္မာသက် မဟာ ကပ်ပေါင်း သုံးသောင်းတစ်ထောင်တို့ ကာလပတ်လုံး ဗြဟ္မာ့စည်းစိမ်ကို ခံစားသုံးဆောင်ရမည့် သိကြားမင်း၊ အနာထပိဏ်သူဌေးကြီး၊ ဝိသာခါ ဒါယိကာမကြီး ဟူသော အရိယာသုံးဦးတို့သည် ဘဝ အသက်တမ်းချင်း တူမျှကြသော ဘုံစဉ်စံ အရိယာများ ဖြစ်ကြ၏။

ဤသုံးဦးတို့နှင့်တူသော ချမ်းသာသုခအဖို့ရှိသော ဝဋ္ဋာဘိရက (ဝဋ်ဆင်းရဲ၌ အလွန်မွေ့လျော်သူ) သတ္တဝါတို့ မရှိဟု သက္ကပဉှသုတ် အဋ္ဌကထာ၌ ဖွင့်ဆိုထားပေသည်။

## သိကြားမင်း၏ နတ်မိဖုရားကြီးလေးပါး

သိကြားမင်းသည် ဘုရားမပွင့်မီ မဂဓတိုင်း မစလရွာ၌ မာဃ လုလင် ဖြစ်ခဲ့စဉ်က အပေါင်းအသင်း ရောင်းရင်း သုံးကျိပ်သုံးယောက်တို့ နှင့်အတူ အများအကျိုးအတွက် လမ်းများကို ပြုပြင်သုတ်သင်ခြင်း၊ ရေကန် များကို တူးဖော်ခြင်း၊ တံတားများကို တည်ဆောက်ပေးခြင်း၊ တည်းခို နားနေရန် ဇရပ်များကို ဆောက်လုပ်ခြင်း စသည်ဖြင့် လူထုအကျိုးကို စေတနာထက်သန်စွာ ဆောင်ရွက်ခဲ့သည်။

တစ်နေ့တွင် မာဃလုလင်အဖွဲ့သားတို့သည် အပန်းဖြေဇရပ်ကြီး တစ်ဆောင် ဆောက်လုပ်ရန်အတွက် တောသို့ဝင်ကာ သစ်ပင်များကို ခုတ်လှဲကြ၏။ ခုတ်ပြီးသော သစ်ပင်များကို ဆင်တော်နှင့်ဆွဲ၍ လှည်းလမ်း အနား၌ ချထားကြ၏။ ထို့နောက် သစ်ပင်များကို ရွေ့ကြ၍ အပန်းဖြေ ဇရပ်ကြီး တည်ဆောက်မှုကို စတင် အားထုတ်ကြ၏။





## မသုဓမ္မာ၏ ပိန္နဲတိုင်အလှူ

မာဃလုလင်၏အိမ်၌ မသုဇာ၊ မသုဓမ္မာ၊ မစိတ္တာ၊ မနန္ဒာ ဟူ၍ မယားလေးယောက် ရှိ၏။

ထိုလေးယောက်အနက် မသုဓမ္မာက လက်သမားဆရာကြီးကို -

"ဆရာကြီး၊ ကိုမာဃတို့ သူငယ်ချင်း သုံးကျိပ်လေးဦးတို့ဟာ နံနက်စောစော တောထဲဝင်ပြီး မိုးချုပ်မှ အိမ်ပြန်လာကြပါတယ်၊ ဘာလုပ် နေကြပါလဲ" ဟု မေး၏။

လက်သမားဆရာကြီးက -

"သမီး၊ မာဃလုလင်တို့အဖွဲ့ဟာ လူတွေနားနေဖို့ အပန်းဖြေဇရပ် ကြီး ဆောက်လုပ်နေကြတာ ဖြစ်ပါတယ်"

ဟု ပြောသည့်အခါ သုဓမ္မာက -

"ဆရာကြီး၊ အပန်းဖြေဇရပ်ကြီး ဆောက်လုပ်ရာမှာ ကျွန်မလည်း ကုသိုလ် ပါဝင်ပါရစေ" ဟု တောင်းပန်စကား ပြောကြားသတဲ့။

လက်သမားဆရာကြီးက -

"သမီး၊ ဒီဇရပ် ဆောက်လုပ်ရာမှာ အိမ်ရှင်မိန်းမတွေနှင့် ကောင်းမှု ရောစက်မပါအောင် ဆောက်လုပ်မယ်လို့ အဖွဲ့သားတွေ ပြောကြား ထားတယ်"

ဟု ဆိုလျှင် သုဓမ္မာသည် လက်သမားဆရာကြီးအား ငွေရှစ်ကျပ် တံစိုးလက်ဆောင်ပေး၍ ကုသိုလ်ကောင်းမှု၌ ရောစက်ပါအောင် ပြုလုပ်ပေးဖို့ တောင်းပန်၏။

လက်သမားဆရာကြီးသည် အဖွဲ့သားများနှင့်အတူ တောထဲသို့ ဝင်သည့်အခါ အဖွဲ့သားတို့ကို ဥပါယ်တံမျဉ်ဖြင့် ရှေ့က သွားစေပြီး မိမိကမူ အခြား ခရီးတစ်ခုသို့သွားကာ ပိန္နဲတိုင် ပြုလုပ်ရန် သင့်သည့် သစ်ပင်ကို ခုတ်လှဲ၏။ ထို့နောက် ချောမွေ့အောင်ရွေပြီး သုဓမ္မာထံသို့ ပေးအပ်ကာ ကျွန်ုပ်က 'ပေးလိုက်ပါ' ဟု လာတောင်းတဲ့နေ့မှာ အိမ်က ထုတ်ပေး လိုက်ရန် သုဓမ္မာအား မှာကြားထား၏။

မာဃလုလင်အဖွဲ့သားတို့သည် စုဆောင်းထားရာ သစ်အဆောက် အအုံများဖြင့် အပန်းဖြေဇရပ်ကြီးကို ဆောက်လုပ်ကြရာ အုတ်ခံတည့်

ဆောက်ခြင်း၊ သည်တိုင်စိုက်ထူခြင်း၊ ထုပ်လျှောက်တင်ခြင်း၊ ငြမ်းဖွဲ့ခြင်း အမှုများ ပြီးစီးသည့်အခါ လက်သမားဆရာကြီးက -

"အမောင်တို့၊ ပိန္နဲတိုင် ကျန်သေးတယ်၊ ပိန္နဲတိုင်ရမှဖြစ်မယ်၊ ပိန္နဲတိုင်ကို ရွာထဲမှာ ရနိုင်ပါတယ်၊ အိမ်ပေါက်စေ့မေးပြီး ယူခဲ့ကြပါ"

ဟု ပြော၏။

အဖွဲ့သားတို့သည် ရွာထဲ၌ မေးမြန်းရာ သုဓမ္မာ အမျိုးသမီး၏ အိမ်တွင် ပိန္နဲတိုင်ကို တွေ့ကြရ၏။ သို့သော် သုဓမ္မာ အမျိုးသမီးက ပိန္နဲတိုင်ကို ပိုက်ဆံကြေးငွေနှင့် မရောင်း၊ သူ ပါဝင် ကုသိုလ်ပြုလိုသည်ဟု ဆိုသဖြင့် သူတို့ ဇရပ်ဆောက်မှုတွင် အမျိုးသမီးများ မပါဝင်စေလိုသည့် အဖွဲ့သားတို့မှာ အခက်အခဲတွေ့ကြရ၏။

ထို့နောက် လက်သမားဆရာကြီးက -

"အမောင်တို့၊ ဒီနေ့ပဲ နက္ခတ်ကောင်းတယ်၊ ဒီနေ့ ပိန္နဲတိုင် မထူရင် မဖြစ်ဘူး၊ နတ်ပြည်ဖြစ်ကြတဲ့အခါ သုဓမ္မာအမျိုးသမီးအတွက် လည်း တစ်ထောင့်တစ်နေရာက ဗိမာန်ဇရပ်ဖြစ်ပါစေ၊ ထိုအမျိုးသမီးအိမ်က ပိန္နဲတိုင်ကိုပဲ ယူခဲ့ကြပါ"

ဟု ဆိုရာ အဖွဲ့သားများမှာ ထိုပိန္နဲတိုင်ကို သွားယူကြရသည်။ သုဓမ္မာအမျိုးသမီးသည် အဖွဲ့သားတို့ မလာမီ ပိန္နဲတိုင်အောက်ခြေတွင် **ဤဇရပ်သည် သုဓမ္မာဇရပ်မည်၏** ဟု အက္ခရာကမ္ပည်း ထွင်းထားပြီး ထိုနေရာကို အဝတ်သစ်ဖြင့် ရစ်ပတ်ဖုံးအုပ်ထား၏။ အဖွဲ့သားများ လာယူသည့်အခါ ပိန္နဲတိုင်ကို ထိုအတိုင်း ပေးလှူလိုက်၏။

အဖွဲ့သားတို့သည် ပိန္နဲတိုင်အပေါ် အခြင်ရနယ်များ တင်ပြီး၍ အဝတ်ကို ဖယ်ရှားလိုက်သည့်အခါ သုဓမ္မာအမျိုးသမီး ရေးထွင်းထားသည့် အက္ခရာများကို တွေ့ရှိကြရာ များစွာ မကျေမနပ်ဖြစ်ကြပြီး ပိန္နဲတိုင်ကို ဖယ်ရှားပစ်ရန် ပြောနေကြ၏။

ထိုအခိုက်တွင် လက်သမားဆရာကြီးက သူတို့စကားကို နား မထောင်ဘဲ ဆက်လက် လုပ်ဆောင်ရာ ဇရပ်ကြီး မကြာမီ ပြီးစီးသွားတော့၏။

မာဃလုလင်အဖွဲ့သားတို့သည် ဆောက်လုပ် ပြီးစီးသွားသည့် အပန်းဖြေဇရပ်ကြီးကို အခန်းသုံးခန်း ခွဲခြား ကန့်သတ်မှုပြုထားကြ၏။





မင်းအစိုးရများ နေထိုင်ရန်အခန်း၊ ဆင်းရဲသူ ဆင်းရဲသားများ နေထိုင်ရန် အခန်းနှင့် မကျန်းမမာသူ ရောဂါသည်များ နေထိုင်ရန်အခန်းတို့ ဖြစ်ပါသည်။

## မာဃလုလင်မိသားစု၏ ကောင်းမှုကုသိုလ်

မာဃလုလင်သည် ဇရပ်ကြီးမှမနီးမဝေးတွင် ပင်လယ်ကသစ်ပင် ကို စိုက်ပျိုး၏။ ထို ပင်လယ်ကသစ်ပင်အရင်း၌ ကျောက်ဖျာကြီးကိုလည်း ခင်းထား၏။ မာဃလုလင်၏ နန္ဒာမည်သော အိမ်ရှင်မက ဇရပ်ကြီးနှင့် မနီးမဝေးသော အရပ်၌ ရေကန်ကြီးတစ်ကန် တူးဖော်စေ၏။ စိတ္တာ ခေါ်သည့် အိမ်ရှင်မကမူ ဇရပ်ကြီးနှင့် မနီးမဝေးတွင် ပန်းဥယျာဉ်ကြီးကို စိုက်ပျိုးစေ၏။

မာဃလုလင်၏ အကြီးဆုံး အိမ်ရှင်မဖြစ်သူ သုဇာကတော့ ကုသိုလ်ရေးကို စိတ်မဝင်စား၊ မှန်တစ်ချပ်နှင့် မိမိကိုယ်ကိုသာ အလှဆင် ကာ ဝံ့ဝံ့ကြွားကြွား လှည့်ပတ်သွားလာနေ၏။

မာဃလုလင်က မယားကြီးသုဇာကို -

"ရှင်မ သုဇာ၊ သုဓမ္မာ, နန္ဒာ, စိတ္တာတို့ သုံးယောက်လုံး ကုသိုလ် ကောင်းမှု ကိုယ်စီကိုယ်ငြေပြုကြပြီး သင့်မှာ ကုသိုလ်ကောင်းမှု တစ်ခုမှ မပြုရသေး။ ကုသိုလ်ကောင်းမှုတစ်ခုခုကို ပြုပါလား သုဇာ"

ဟု တိုက်တွန်း၏။

"အရှင်၊ အရှင် အခုပြုနေတဲ့ ကုသိုလ်ကောင်းမှုတွေဟာ ဘယ်သူ့ အတွက်ပါလဲ၊ အရှင်ပြုတဲ့ကောင်းမှုဟာ ကျွန်မရဲ့ကောင်းမှုပင် မဟုတ် ပါလား"

ဟုဆိုကာ သူ့ကိုယ်ကိုသာ တန်ဆာဆင် အလှပြင်၍သာ နေလေ သည်။

မာဃလုလင် ကွယ်လွန်သောအခါ တာဝတိံသာနတ်ပြည်၌ သိကြားမင်း ဖြစ်၏။ အဖွဲ့သား သုံးကျိပ်သုံးယောက်တို့လည်း ကွယ်လွန် ကြသည့်အခါ တာဝတိံသာနတ်ပြည်မှာပင် သိကြားမင်းအနီးပါး၌ နတ်မင်းကြီး သုံးကျိပ်သုံးယောက် ဖြစ်ကြ၏။

မာဃလုလင်၏ ဇနီးလေးယောက်တို့အနက် သုဓမ္မာ၊ နန္ဒာ၊ စိတ္တာ ဟူသော ဇနီးသုံးဦးတို့သည် ကွယ်လွန်ကြသည့်အခါ သိကြားမင်း၏နတ်မိဖုရားကြီးများ ဖြစ်လာကြ၏။ ဇနီးအကြီးဆုံး သူဇာမှာမူ ကွယ်လွန်သည့်အခါ တောင်ကြားတစ်ခု၌ ဗျိုင်းအောက်မကလေး သွားဖြစ်သည်။

မာဃလုလင်ဘဝက ပင်လယ်ကသစ်ပင် စိုက်လှူခဲ့ခြင်းကြောင့် အဝန်း ယူဇနာ သုံးရာ၊ လုံးပတ် တစ်ဆယ့်ငါး ယူဇနာ၊ အမြင့် ယူဇနာ တစ်ရာရှိသော ပင်လယ်ကသစ်ပင်ကြီး ဖြစ်ပေါ်လာ၏။

ကျောက်ဖျာကို လှူခဲ့သော ကောင်းမှုကြောင့် ပင်လယ်ကသစ်ပင်ကြီး အရင်း၌ အလျား ယူဇနာခြောက်ဆယ်၊ အနံ ယူဇနာငါးဆယ်၊ အထု တစ်ဆယ့်ငါးယူဇနာရှိသော ပဏ္ဍုကမ္ဗလာမြကျောက်ဖျာကြီး ဖြစ်ပေါ်လာသည်။

သုဓမ္မာအမျိုးသမီး၏ ပိန္နဲတိုင်လှူဒါန်းခဲ့သည့် ကောင်းမှုကြောင့် ယူဇနာသုံးရာရှိသော သုဓမ္မာ ဓမ္မာရုံကြီး ဖြစ်ပေါ်လာသကဲ့သို့ နန္ဒာအိမ်ရှင်မ၏ ရေကန်တူးဖော်ခဲ့သည့် ကောင်းမှုကြောင့် ယူဇနာငါးဆယ် ကျယ်သော နန္ဒာ မည်သည့် ရေကန်ကြီး ဖြစ်ပေါ်လာ၏။

စိတ္တာအိမ်ရှင်မ၏ ဥယျာဉ်စိုက်ပျိုး လှူဒါန်းခဲ့သော ကောင်းမှုကြောင့် ယူဇနာခြောက်ဆယ်ကျယ်သော စိတ္တာမည်သည့် နတ်ဥယျာဉ်ကြီး ဖြစ်ပေါ်လာသတဲ့။

**ဗျိုင်းမကလေး မသူဇာ**

သိကြားမင်းသည် သုဓမ္မာ ဓမ္မာရုံကြီးတွင် သုံးယူဇနာရှိသော နတ်ထီးဖြူကြီး ဆောင်းမိုးထားသော တစ်ယူဇနာရှိသော ရွှေပလ္လင်မှာ ထိုင်လျက် သုံးကျိပ်သုံးဦးသော နတ်မင်းကြီးတို့ဖြင့် လည်းကောင်း၊ သုံးဦးသော နတ်မိဖုရားတို့ဖြင့် လည်းကောင်း၊ နှစ်ကုဋေငါးသန်းသော ကချေသည် နတ်သမီးတို့ဖြင့် လည်းကောင်း၊ စတုမဟာရာဇ်၊ တာဝတိံသာ နတ်ပြည် နှစ်ထပ်၌ ရှိကြကုန်သော နတ်အပေါင်းတို့ဖြင့် လည်းကောင်း ခြံရံလျက်ရှိသော မိမိ၏ သိကြားမင်းစည်းစိမ်ကို ကြည့်ရှုလေရာ သုဓမ္မာ၊ နန္ဒာ၊ စိတ္တာ နတ်မိဖုရားကြီး သုံးယောက်တို့ကိုသာမြင်၍ ဇနီးအကြီးဆုံး ဖြစ်သူ မသူဇာကို မမြင်ရဘဲ ရှိ၏။





သို့ဖြစ်၍ သူဇာတစ်ယောက် ဘယ်ရောက်နေသလဲဟု ဆင်ခြင်ကြည့်ရာ သူဇာမှာ မိမိစကား နားမထောင်တဲ့အတွက် တောင်ကြား၌ ဗျိုင်းအောက်မကလေးဖြစ်နေသည်ကို တွေ့မြင်ရ၍ သူဇာထံသို့ ဆင်းသက်လာခဲ့သည်။

သူဇာ ဗျိုင်းအောက်မကလေးသည် သိကြားမင်းကိုမြင်လျှင် မျက်နှာအောက်ချနေရှာ၏။ သိကြားမင်းက သူ့စကားကို မလိုက်နာ၍ ဤသို့ ဖြစ်ရကြောင်း၊ သုဓမ္မာ၊ နန္ဒာ၊ စိတ္တာတို့ သုံးယောက်လုံး နတ်မိဖုရားကြီးများ ဖြစ်နေကြောင်း ပြောဆိုပြီး နတ်စည်းစိမ်များကို လိုက်ကြည့်ရန် ဗျိုင်းအောက်မကလေးကို တာဝတိံသာနတ်ပြည်သို့ ခေါ်ဆောင်လာကာ နန္ဒာရေကန်ကြီး၌ ခေတ္တ လွှတ်ထားခဲ့သည်။

ကချေသည် နတ်သမီးတို့သည် ထိုအကြောင်းကို သိရှိကြရသည့်အခါတွင် သူဇာ ဗျိုင်းမကလေးကို ကြည့်ရှုရန် နန္ဒာရေကန်ကြီးသို့ ရောက်လာကြသည်။ ကချေသည် နတ်သမီးတို့သည် သူဇာ ဗျိုင်းမကို တွေ့မြင်ကြရသည့်အခါ –

"အို...ရှင်မတို့၊ ငါတို့အရှင်သခင် မသူဇာရဲ့ ပုစွန်လုံးကိုထိုးတဲ့ သံတံကျင်နှုတ်သီးကို ကြည့်ကြပါ"

ဟု ပြောဆိုကာ ပြက်ရယ်လှောင်ပြောင်ကြ၏။

သူဇာ ဗျိုင်းမကလေးသည် အလွန်ရှက်လှ၊ နာကြည်းလှသောကြောင့် သိကြားမင်းကို –

"အရှင်သိကြားမင်း၊ ဒီရွှေ၊ ငွေ၊ ပတ္တမြားဗိမာန်ကြီးတွေနဲ့ ဒီရေကန်ကြီးတွေဟာ ကျွန်မအဖို့ ဘာမှ အသုံးမကျပါဘူး။ သတ္တဝါတိုင်း မိမိဖွားရာ ဌာနမှာသာ ပျော်မွေ့လေ့ ရှိကြပါတယ်။ ကျွန်မကို ကျွန်မရဲ့ ဇာတိရပ်မြေကိုပဲ ပြန်ပို့ပေးပါ" ဟုဆို၏။

သိကြားမင်းသည် ဗျိုင်းမလေး သူဇာကို သူ့အလိုအတိုင်း နေရင်းတောင်ကြားသို့ သွားပို့ကာ –

"ငါးပါးသီလကို ခံယူဆောက်တည်ပြီး မကျိုးပေါက်အောင် စောင့်ထိန်းပါ၊ နှစ်ရက် သုံးရက်ကြာရင်ပင် သင့်ကို အဲဒီပြက်ရယ်ပြုကြတဲ့ နတ်သမီးတွေရဲ့အကြီးအကဲ တင်မြှောက်မယ်" ဟု မှာကြားခဲ့၏။

ဗျိုင်းမကလေး သူဇာသည် သိကြားမင်း မှာသည့်အတိုင်း ငါးပါးသီလကို မကျိုးပေါက်အောင် စောင့်ထိန်း၏။

သိကြားမင်းသည် နှစ်ရက်၊ သုံးရက်ကြာသောအခါ သူဇာ ဗျိုင်းမကလေး၏ သီလကို စမ်းသပ်ရန် သူဇာ ဗျိုင်းမကလေးရှေ့မှာ ငါးယောင်ဆောင်ကာ ပက်လက်ပေါလော ရေစုန်မျှောပြီး လိုက်လာ၏။

သူဇာ ဗျိုင်းမကလေးက ငါးသေထင်ပြီး ဦးခေါင်းကို ကိုက်ယူရာ အမြီးလှုပ်နေ၍ ပြန်လွှတ်လိုက်၏။ သိကြားမင်းသည် ကောင်းကင်၌ ရပ်တည်၍ သာဓုခေါ်ပြီး အားပေးစကား ပြောကြားကာ တာဝတိံသာသို့ ပြန်ခဲ့လေ၏။

## အိုးထိန်းသည်သမီး မသူဇာ

သူဇာ ဗျိုင်းမကလေးသည် ငါးပါးသီလကို မကျိုးပေါက်အောင် စောင့်ထိန်း၍ သေဆုံးသွားသည့်အခါ တရာဏသီပြည်တွင် အိုးထိန်းသည်၏သမီး သွားဖြစ်သည်။ သိကြားမင်းသည် သူဇာတစ်ယောက် အိုးထိန်းသည်သမီးဘဝ ရောက်နေသည်ကို သိသောအခါ တာဝတိံသာနတ်ပြည်သို့ ခေါ်ဆောင်ရန် မသင့်သေး၍ ဥစ္စာပစ္စည်းများကိုသာပေးရန် ရွှေသခွားသီးများ လှည်းအပြည့် တင်ဆောင်ကာ အိုးထိန်းသည်ရွာတွင် အဘိုးအိုအသွင်ဖြင့် သခွားသီးများကို ထိုင်ရောင်းနေ၏။

ဝယ်သူ လာသည့်အခါ သီလစောင့်ထိန်းနေသူကိုမှ သခွားသီးများ ရောင်းမည်ဆိုသဖြင့် ဝယ်သူများက –

"အဲဒီ အဘိုးကြီးဟာ ဘယ်လို အဘိုးကြီးမှန်း မသိပါဘူး"

ဟု ပြောဆိုကာ ပြန်သွားကြ၏။

ဤသတင်းကို အိုးထိန်းသည်သမီး ကြားသိရသောအခါ –

"ဒီ သခွားသီးတွေဟာ ငါလို သီလစောင့်ထိန်းသူအတွက် ဖြစ်မှာပဲ" ဟုဆိုပြီး အဘိုးအိုထံ သခွားသီး သွားဝယ်၏။

အဘိုးအိုက သီလ စောင့်ထိန်းသူ ဖြစ်၊ မဖြစ် မေးမြန်းပြီး သီလစောင့်ထိန်းသူဖြစ်ကြောင်း သိရသောအခါ –

"ဒီရွှေသခွားသီးတွေကို သမီးအတွက် ယူလာခဲ့တာပဲ"





ဟုဆိုကာ အိုးထိန်းသည်သမီး၏ အိမ်တံခါးဝ၌ တစ်လှည်းလုံးထားခဲ့ပြီး တာဝတိံသာသို့ ပြန်ခဲ့၏။

## အသုရာနတ်မင်းကြီး၏သမီး မသူဇာဘဝမှ သိကြားနတ်မိဖုရားကြီးဘဝ

အိုးထိန်းသည်သမီးဘဝမှ ကွယ်လွန်သောအခါ အသုရာနတ်ပြည်တွင် ဝေပစိတ္တိ အသုရာနတ်မင်းကြီး၏ သမီးတော် ဖြစ်လာ၏။

ဗျိုင်းမဘဝ၊ အိုးထိန်းသည်သမီးဘဝတို့၌ စောင့်ထိန်းခဲ့သော သီလ၏အကျိုးဆက်ကြောင့် အလွန်တင့်တယ် ရှုချင်စဖွယ် အဆင်းရှိ၏။ အသုရာနတ်မင်းကြီးက သမီးတော် ထိမ်းမြားမင်္ဂလာပွဲအတွက် အသုရာနတ်အစည်းအဝေးကြီး ကျင်းပ၏။

သိကြားမင်းသည် ထိုအကြောင်းကို သိရှိရသောအခါ အသုရာနတ်သမီးကို တာဝတိံသာသို့ဆောင်ယူရန် အသုရာနတ်အသွင် ဖန်ဆင်းကာ အသုရာနတ်အစည်းအဝေးတွင် ပါဝင်ရောနှောနေသတဲ့။

ဖခင် ဝေပစိတ္တိ အသူရာနတ်မင်းကြီးက –

"ချစ်သမီး၊ သမီးအလိုရှိသူရဲ့အထက်၌ ဒီပန်းကုံးကို ပစ်လိုက်ပါ"

ဟု ဆိုပြီး သမီးလက်သို့ ပန်းကုံးကို အပ်နှင်း၏။

သူဇာ အသုရာနတ်သမီးသည် အသူရာ နတ်ပရိသတ်တို့အလယ်တွင် သိကြားမင်းကို မြင်သောအခါ ရှေးရှေးဘဝတို့က အတူပေါင်းဖော်နေထိုင်ခဲ့ဖူးသောကြောင့် ချစ်စိတ်ဝင်လာကာ သိကြားမင်းအထက်၌ ပန်းကုံးကို ပစ်ချလိုက်လေ၏။

ထိုအခါ သိကြားမင်းသည် သူဇာ အသုရာနတ်သမီးကို လက်မောင်းတွင် တအားဆွဲကိုင်၍ ကောင်းကင်သို့ ပျံတက်သွားလေ၏။

အသုရာနတ်တို့သည် ထိုအခါမှ သိကြားမင်းဖြစ်ကြောင်းသိရာ အသုရာ သူဇာကညာကို လုယူရန် လိုက်ကြလေသည်။ အသုရာနတ်မင်းကြီး တားမြစ်မှ ပြန်လာကြ၏။

သိကြားမင်းသည် သူဇာနတ်သမီးကို တာဝတိံသာနတ်ပြည်သို့ ခေါ်ဆောင်သွားပြီးလျှင် ကချေသည် နတ်သမီးပေါင်း နှစ်ကုဋေငါးသန်း

တို့၏ အကြီးအကဲ နတ်မိဖုရားကြီးအရာ၌ တင်မြှောက်ထား၏။

သူဇာက -

"အရှင် သိကြားမင်း၊ ကျွန်မဟာ ဒီတာဝတိံသာနတ်ပြည်မှာ မိဖ မောင်ဖွား၊ ညီအစ်မများ မရှိပါ။ အရှင်သိကြားမင်း သွားလေရာ ကျွန်မကို ခေါ်သွားပါ"

ဟု တောင်းဆိုပြုရာ သိကြားမင်းက "ကောင်းပါပြီ" ဟု ပဋိညာဉ် ဝန်ခံချက် ပေးလေသတည်း။

ဤသို့လျှင် သိကြားမင်းကြီး၌ သုဓမ္မာ၊ နန္ဒာ၊ စိတ္တာ ဟူသော တာဝတိံသာ နတ်မိဖုရားကြီးသုံးယောက်နှင့် သူဇာ ခေါ် အသုရာနတ် မိဖုရားကြီးတစ်ယောက် ဟူ၍ နတ်မိဖုရားကြီးလေးယောက် ရှိပေသည်။ ဝိမာနအဋ္ဌကထာ၌မူ သိကြားမင်းကြီး၌ နတ်မိဖုရားကြီးပေါင်း ၁၆၀၀ ရှိကြောင်း မိန့်ဆိုထားပေသည်။

## ဆွမ်းခိုးလောင်းသော သိကြားအိုလင်မယား

နတ်ပြည်၌ရှိသော နတ်တို့တွင် သာသနာပအခါက ဖြစ်ခဲ့ကြသည့် နတ်များထက် သာသနာတွင်းကျမှဖြစ်သော နတ်များက အစစအရာရာ သာကြ၏။ အချို့ နတ်များမှာ သိကြားမင်းထက်ပင် ပို၍ တန်ခိုးကြီးကြ၏။ ကိုယ်ရောင်ကိုယ်ဝါ ပို၍ ထွန်းလင်းတောက်ပကြ၏။

မြတ်စွာဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ်က တစ်နေ့တွင် အရှင်မဟာကဿပ မထေရ်ကြီးသည် နိရောဓသမာပတ်မှ ထတော်မူပြီး ဆင်းရဲသူတို့ကို ချီးမြှောက်ရန် ရာဇဂြိုဟ်မြို့သို့ ရှေးရှု ဆွမ်းခံကြွလာခဲ့ လေသည်။

သိကြားမင်း၏ အလုပ်အကျွေး နတ်သမီးငါးရာတို့သည် အရှင် မဟာကဿပမထေရ်ကြီးအား ဆွမ်းလှူဒါန်းရန် လမ်းခရီးအကြားတွင် စောင့်နေကြသည်။

မထေရ်မြတ် ကြွလာသည့်အခါ -

"အရှင်ဘုရား၊ တပည့်တော်မတို့ရဲ့ ဆွမ်းကို အလှူခံတော်မူပါ၊ တပည့်တော်မတို့ကို ချီးမြှောက်တော်မူပါ" ဟု လျှောက်ထားကြသည်။





မထေရ်မြတ်က -

"ငါဟာ ဆင်းရဲသူ ဆင်းရဲသားတွေကို ချီးမြှောက်မလို့ပါ။ ဒကာမတွေ သွားကြပါ"

ဟု နှင်ထုတ်လိုက်သော်လည်း နတ်သမီးများက မသွားကြဘဲ ထပ်တလဲလဲ ဆွမ်းအလှူခံဖို့ တောင်းပန်လျှောက်ထားနေကြသည်။

ထို့ကြောင့် မထေရ်မြတ်က -

"ဒကာမတွေဟာ ကိုယ့်ပမာဏကို ကိုယ်မသိကြဘူး၊ ထွက်သွား ကြပါ"

လို့ဆိုပြီး လက်ဖျစ်တီးလိုက်၏။ ထိုအခါမှ နတ်သမီးများ အားလျှော့ပြီး နတ်ပြည်သို့ ပြန်သွားကြသည်။

သိကြားမင်းသည် ထိုအကြောင်းကို နတ်သမီးများထံမှ ကြားသိ ရသည့်အခါ -

"မင်းတို့လို နတ်သမီးအသွင်အပြင်တွေနဲ့ သွားပြီး မထေရ်မြတ်ကို ဘယ်လို ဆွမ်းလှူလို့ ရမှာလဲ။ ငါ ကိုယ်တိုင် သွားလှူပြမယ်"

ဟုဆိုပြီး သူဇာ နတ်မိဖုရားကြီးကိုခေါ်ကာ နှစ်ယောက်လုံး လူအို ယောင်ဆောင် ဖန်ဆင်းပြီး လူ့ပြည် ဆင်းလာခဲ့ကြသည်။

ရက်ကန်းသည် အဘိုးအို လင်မယားဟန် ဖန်ဆင်းပြီး သိကြားအို က ရက်ကန်းဖြန့်နေသလို သူဇာ မိန်းမအိုကလည်း ရက်ဖောက်ကို လုံး၍ နေ၏။

မထေရ်မြတ်သည် ရာဇဂြိုဟ်မြို့သို့ ဆက်လက်ကြွလာရာ မြို့ ဝင်ခါနီး မြို့ပြင်၌ သိကြားအိုဇနီးမောင်နှံ၏ အိမ်ရှေ့သို့ ရောက်သောအခါ-

'ဒီဒကာ၊ ဒကာမ နှစ်ယောက်ဟာ အိုမင်းမစွမ်းအရွယ်အထိ အလုပ် လုပ်နေကြရတုန်းပဲ ရှိကြသေးတယ်။ ဒီမြို့မှာတော့ သူတို့ထက် ဆင်းရဲတဲ့လူ ရှိမှာ မဟုတ်ဘူး။ သူတို့နှစ်ယောက်ရဲ့ ဆွမ်းယာဂု ဟင်းရွက် ပြုတ် တစ်မှုတ်မျှကို ခံယူပြီး သူတို့ကို ချီးမြှောက်မယ်'

ဟု စဉ်းစားပြီး အိမ်ရှေ့မှာ ရပ်တော်မူလိုက်လေသည်။

သိကြားအို လင်မယားနှစ်ယောက်လုံး ခဏခေတ္တမျှ မမြင်ယောင် ဆောင်နေပြီးမှ သိကြားအိုက အိမ်ရှေ့ ထွက်လာပြီး မထေရ်မြတ်အား

တည်ခြင်းငါးပါးဖြင့် ရှိခိုးကာ လူအိုကြီးပုံဟန် လက်နှစ်ဖက်ဖြင့် ဒူးကို ထောက်လျက် "အြော်-ဒုက္ခ၊ ဒုက္ခ" ဟု ညည်းတွား၏။

ထို့နောက် -

"ငါ့မျက်စိတွေကလည်း မှုန်လိုက်တာ" ဟု ဆိုကာ -

"ဘယ်က ကိုယ်တော်များပါလိမ့်"

ဟု နဖူးပေါ် လက်ကလေးတင်လျက် မော့ကြည့်လိုက်ပြီး -

"အို-တို့ကိုယ်တော်ကြီးပဲ၊ ကိုယ်တော်ကြီး တို့အိမ် မကြွတာ ကြာပြီ။ ဟော့-ရှင်မ၊ ဘာများ ရှိသေးတုံး" ဟု လှမ်းမေးလိုက်သတဲ့။

အမယ်အိုကလည်း ဟိုဟိုဒီဒီ ရှာဖွေနေဟန်ဖြင့် အတန်ကြာမှ -

"ရှိသေးရဲ့တော့" ဟု ပြန်ပြော၏။

သိကြားအိုက -

"အရှင်မြတ်ဘုရား၊ လှူဖွယ်ပစ္စည်းကို ကောင်းကောင်းဆိုးဆိုး စဉ်းစားတော်မမူဘဲ တပည့်တော်တို့ ဆင်းရဲသူအိုလင်မယားအား ချီးမြှောက်တော်မူပါဘုရား"

ဟု လျှောက်ထားပြီး သပိတ်ကို လှမ်းယူလိုက်၏။

မထေရ်မြတ်ကလည်း 'ဟင်းရွက်ပြုတ်ကိုပဲလှူလှူ၊ ဆန်ကွဲရောတဲ့ ပုန်းရည်ဟင်းကိုပဲလှူလှူ ငါ သူတို့ကို ချီးမြှောက်မယ်'

ဟု စဉ်းစားပြီး သပိတ်ကို ပေးသနားလိုက်၏။

သိကြားအိုသည် ဆွမ်းဘောဇဉ်နှင့် များစွာသော ဟင်းလျာတို့ကို သပိတ်ထဲ ထည့်ယူလာပြီး မထေရ်မြတ်အား ဆက်ကပ်လိုက်၏။

ထိုသိကြားအို ဇနီးမောင်နှံတို့ လှူဒါန်းလိုက်သည့် ဆွမ်းဟင်းလျာတို့သည် ရာဇဂြိုဟ်မြို့ကြီး တစ်မြို့လုံး မွှေးကြိုင်သွားလေတော့၏။

ထိုအခါ -

"ဒီ လူအိုကြီးဟာ ဘုန်းကံနည်းပါး ဆင်းရဲသားပဲ၊ ဒါပေမယ့် သူလှူလိုက်တဲ့ ဆွမ်းကတော့ ဘုန်းကံကြီးမား လူချမ်းသာများရဲ့ ဆွမ်းအတိုင်းပဲ၊ သိကြားမင်းရဲ့ ဘောဇဉ်နဲ့လည်း အတူတူပဲ။ ဒီအလှူရှင်ဟာ ဘယ်လို ပုဂ္ဂိုလ်မျိုးပါလိမ့်"

ဟု ဆင်ခြင်ကြည့်လိုက်ရာ သိကြားမင်းဖြစ်မှန်း သိသွားတော့၏။





ထိုအခါ မထေရ်မြတ်က -

"သိကြားမင်း၊ သင်ဟာ ဆင်းရဲသားတွေ ရရှိခံစားရမယ့် စည်းစိမ်ချမ်းသာကို လုယက်ယူတဲ့အတွက် ဝန်လေးတဲ့အလုပ်ကို လုပ်တဲ့သူပဲ။ ဆင်းရဲသားတစ်ယောက်ဟာ ဒီနေ့ ငါ့ကို ပေးလှူမယ်ဆိုရင် စစ်သေနာပတိရာထူးကို ဖြစ်စေ၊ သူဌေးကြီးရာထူးကို ဖြစ်စေ ရနိုင်တယ်"

ဟု မိန့်တော်မူရာ -

"ဘုရားတပည့်တော်လည်း ဆင်းရဲသားပါပဲ၊ တပည့်တော်ထက် ပိုပြီး ဆင်းရဲသူမရှိဟု ထင်ပါတယ် ဘုရား"

ဟု သိကြားမင်းက ပြန်လျှောက်၏။ မထေရ်မြတ်က -

"နတ်ပြည်မှာ နတ်မင်းကြီးစည်းစိမ်ကို ခံစား စံစားနေရတဲ့ သိကြားမင်းက ဘာဖြစ်လို့ ဆင်းရဲသားဖြစ်ရမှာလဲ"

ဟု မိန့်တော်မူသည့်အခါ သိကြားမင်းက -

"တပည့်တော်မှာ သိကြားမင်း ဖြစ်ပေမယ့် သာသနာပအခါမှာ ပြုလုပ်ခဲ့တဲ့ ကုသိုလ်ကြောင့်ဖြစ်ရတဲ့ သိကြားမို့ သာသနာတွင်း ကုသိုလ်ရှင်တွေလောက် စည်းစိမ်မကြီးပါ၊ တန်ခိုးမကြီးပါ၊ ကိုယ်ရောင်ကိုယ်ဝါ မတောက်ပပါ။

တပည့်တော်နားမှာ စူဠရထနတ်သား၊ မဟာရထနတ်သား၊ အနေကဝဏ္ဏ နတ်သားရယ်လို့ စည်းစိမ်တန်ခိုး တူညီကြတဲ့ နတ်သား သုံးယောက် ရှိပါတယ်။

သူတို့ သုံးယောက်ဟာ မြတ်စွာဘုရား ပွင့်ပြီးတဲ့အချိန်မှာပြုတဲ့ ကုသိုလ်ကောင်းမှုကြောင့် နတ်သားဖြစ်လာကြလို့ သူတို့ဟာ တပည့်တော်ထက် ပိုပြီး တန်ခိုးကြီးကြပါတယ်။ ကိုယ်ရောင်ကိုယ်ဝါ တောက်ပကြပါတယ်။

အဲဒီ နတ်သားသုံးယောက် နက္ခတ်ကစားရန် အလုပ်အကျွေး၊ အခြွေအရံတွေနဲ့ ထွက်လာကြတဲ့အခါ တပည့်တော်ဟာ ပြေးလွှားပြီး ဗိမာန်ထဲ ဝင်ပုန်းနေရပါတယ်။ သူတို့ရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေကြောင့် တပည့်တော်ရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေဟာ မှေးမှိန်သွားကြပါတယ်။ တပည့်တော်ထက် ဆင်းရဲသူ ဘယ်မှာ ရှိဦးမလဲ ဘုရား"

ဟု ဟုတ်တိုင်းမှန်စွာ ပြန်လျှောက်၏။

မထေရ်မြတ်က –

“ဒကာတော် သိကြားမင်း၊ ဘယ်လိုပဲ ဖြစ်ဖြစ် ဒီနေ့ကစပြီး နောက်နောင် ဒီလို ငါ့ကို လှည့်ပတ်ပေးလှူတာမျိုး မလုပ်ပါနဲ့”

ဟု အမိန့်ရှိသောအခါ –

“အရှင်ဘုရား၊ အခုလို လှည့်ပတ်ပေးလှူတဲ့အတွက် တပည့်တော်မှာ ကုသိုလ် ရ၊ မရ သိလိုပါတယ် ဘုရား”

ဟု သိကြားမင်းက ပြန်လျှောက်၏။

“ကုသိုလ်တော့ ရပါတယ်”

လို့ မထေရ်မြတ်က အမိန့်ရှိသည့်အခါ –

“ဒီလိုဆိုရင် ကုသိုလ်ကောင်းမှုပြုတာဟာ ဒကာတော်ရဲ့ တာဝန်ပါဘုရား”

ဟု လျှောက်ထားပြီး မထေရ်မြတ်ကို ရှိခိုးကာ သုဇာနှင့်အတူ ကောင်းကင်သို့ တက်သွား၏။

ကောင်းကင်သို့တက်ရင်း –

“အရှင်မဟာကဿပမထေရ်ကြီး၌ တည်မိတဲ့ ဒါနဟာ အံ့ဖွယ်ဒါန၊ အလွန်အကြူး ထူးမြတ်လှတဲ့ ဒါနပါတကား”

‘အဟောဒါနံ ပရမဒါနံ ကဿပေ သုပ္ပတိဋ္ဌိတံ’ ဟု ဥဒါန်းကျူးရင့်ကာ တာဝတိံသာနတ်ပြည်သို့ ပြန်သွားလေတော့၏။

## ဤဝတ္ထုလာ မှတ်သားစရာများ

ဤဝတ္ထုကို ဥဒါန်းပါဠိတော် သတ္တဒါနသုတ်နှင့် ဓမ္မပဒအဋ္ဌကထာ မဟာကဿပတ္ထေရ ပိဏ္ဍပါတဒိန္နဝတ္ထုတို့မှာ တွေ့ရပါသည်။

ဤဝတ္ထု၌ သာသနာပ ဒါနကုသိုလ်ထက် သာသနာတွင်း ဒါနကုသိုလ်က ပို၍ အကျိုးကြီးကြောင်း သိရသည်။

သာသနာပကား အကုသိုလ်တရားဆိုးတို့ လွှမ်းမိုးနေသည့် ကာလ ဖြစ်၏။ ထို့ကြောင့် အလှူခံပုဂ္ဂိုလ်ကလည်း သရဏဂုံနှင့် သီလ မရှိ။ အလှူရှင်ကလည်း သရဏဂုံနှင့် သီလ မရှိ။





လှူသည့်ပစ္စည်းကလည်း မတရားသဖြင့် ရထားသည့် ပစ္စည်းမျိုးဖြစ်၍ မစင်ကြယ်။ သာသနာတွင်း ကာလ၌မူ အများအားဖြင့် အလှူခံ၊ အလှူရှင်နှစ်ဦးလုံး သီလရှိသူများ ဖြစ်သည့်အပြင် လှူဖွယ်ပစ္စည်းကလည်း စင်ကြယ်နိုင်ကြသည်။

ဤအကြောင်းများကြောင့် သာသနာပဒါနကုသိုလ်နှင့် သာသနာတွင်း ဒါနကုသိုလ်တို့ အကျိုးပေး ကွာခြားကြခြင်း ဖြစ်သည်။

ဒုတိယအချက်မှာ နတ်ပြည်တွင် ကာမဂုဏ် ခံစားပျော်ပါးနေကြသည့် နတ်သမီးများ ရှိကြသကဲ့သို့ ကုသိုလ်ပြုမှုဓလေ့၌ ပျော်မွေ့ကြသည့် နတ်သမီးများလည်း ရှိသေးကြောင်း သိရှိရ၏။

တတိယအချက်ကား အရှင်မဟာကဿပ မထေရ်ကြီးကဲ့သို့ ဒိဗ္ဗစက္ခုအဘိညာဉ် စသည့် အဘိညာဉ်များရသည့် တန်ခိုးရှင် ရဟန္တာ မထေရ်မြတ်ကြီးများပင် ဖြစ်စေကာမူ ဆင်ခြင်တော်မူမှ အမှန်အတိုင်း သိသည်။ မဆင်ခြင်ဘဲ အမှတ်တမဲ့နေပါက လူသာမန်တို့ကဲ့သို့ပင် အမှန်အတိုင်း မသိနိုင်ဟူသောအချက် ဖြစ်သည်။

## သိကြားမင်းနှင့် အရှင်မဟာမောဂ္ဂလာန်

တစ်နေ့တွင် သိကြားမင်းသည် ဧရာဝဏ်ဆင်တော်ကြီးကိုစီးလျက် စတုမဟာရာဇ် နတ်မင်းကြီးလေးပါးကို အစောင့်အရှောက်ချထားကာ နတ်ပြည်နှစ်ရပ်ရှိ အလုပ်အကျွေး နတ်သား, နတ်သမီးများ၊ နှစ်ကုဋေငါးသန်းသော ကချေသည်နတ်များ ခြံရံလျက် ဥယျာဉ်ကစားရန် ထွက်လာခဲ့သည်။

ဥယျာဉ်သို့ ရောက်သောအခါ –

‘တဏှာကုန်ခန်း နိဗ္ဗာန်နန်းသို့ လွတ်လွတ်ကျွတ်ကျွတ် ကြွမြန်းနိုင်သော ရဟန္တာ၏ကျင့်စဉ်ဟာ ဘယ်လောက်ရှိသလဲ’

ဟု စိတ်ထဲ၌ ပေါ်လာခဲ့၏။

‘ဒီမေးခွန်းဟာ အလွန် ကျက်သရေ မင်္ဂလာရှိတဲ့မေးခွန်း ဖြစ်တယ်။ ဒီမေးခွန်းကို မစုံစမ်း မမေးမြန်းဘဲ ဥယျာဉ်တော်ထဲ ဝင်သွားခဲ့ရင် ဒီမေးခွန်းကို ငါမေ့သွားလိမ့်မယ်။ ဘုရားရှင်ထံ ဒီမေးခွန်းကို မေးမြန်းလျှောက်ထားပြီးမှ ဥယျာဉ်ကစားတော့မယ်’

ဟု စဉ်းစားပြီး ရောဝဏ်ဆင်ပေါ်မှ ကွယ်ပျောက်၍ ဘုရားရှင်ထံမှောက်သို့ ရောက်သွားခဲ့သည်။

ထိုအချိန်ကား ဗုဒ္ဓရှင်တော်မြတ်ဘုရား ပုဗ္ဗာရုံကျောင်းတိုက်တွင် သီတင်းသုံးတော်မူနိုက် ဖြစ်သည်။

သိကြားမင်းသည် ဘုရားရှင်ထံမှောက်သို့ ရောက်သွားသည့်အခါ ဥယျာဉ်ကစားပွဲက နောက်ဆံတင်းလျက် ရှိသောကြောင့် -

"တဏှာကုန်ခန်း နိဗ္ဗာန်နန်း၌ လွတ်လွတ်ကျွတ်ကျွတ် အာရုံပြုနိုင်သော ရဟန္တာပုဂ္ဂိုလ်ကျင့်ခဲ့သည့် ကျင့်စဉ်တရားကို ခပ်တိုတို အမိန့်ရှိတော်မူပါ" ဟု လျှောက်ထား၏။

ဘုရားရှင်က -

"သိကြားမင်း၊ ရဟန္တာဖြစ်မည့် ရဟန်းသည် အလုံးစုံသောတရားကို ငါ,ငါ့ဥစ္စာဟု နှလုံးသွင်းခြင်း၊ စွဲလမ်းခြင်းငှာမထိုက်ဟု ကြားမြင်သုတရှိ၏။ ထိုရဟန်းသည် ခန္ဓာငါးပါး ရုပ်နာမ်တရား အားလုံးကို မမြဲ၊ ဆင်းရဲ၊ အတ္တ မဟုတ်ဟု ကြိုးစားအားထုတ်၍ သိ၏။

ထို့နောက် ရုပ်နာမ်တရား အားလုံး အမြဲမရှိ ဖြစ်ပျက်လျက်သာနေသောကြောင့် ဒုက္ခချည်းဟု ပိုင်းခြား သိမြင်၏။ ဒုက္ခချည်းဟု သိပြီးနောက် ဘာမဆို ခံစားရသမျှ ဝေဒနာကို အနိစ္စ စသည်ဖြင့် ရှု၍ ရှု၍နေ၏။

ထိုသို့ ရှုဖန်များသော် ဘာတစ်ခုမှ မစွဲလမ်းတော့ဘဲ နောက်ဆုံး၌ ရဟန္တာဖြစ်ကာ တဏှာကုန်ခန်း နိဗ္ဗာန်နန်းသို့ လွတ်လွတ်ကျွတ်ကျွတ် ကြွမြန်းနိုင်ပါတယ်" ဟု တိုတိုပင် ဖြေဆိုတော်မူသည်။

သိကြားမင်းသည် ဘုရားရှင်၏ အတိုချုပ် ဟောကြား ဖြေဆိုချက်ကို လွန်စွာ သဘောကျ ဝမ်းမြောက်လှသဖြင့် "သာဓု၊ သာဓု" ဟု အသံပြုလျက် နတ်ပြည်သို့ ပြန်သွား၏။

ထိုသာဓုခေါ်သံကို ဘုရားရှင်နှင့် မနီးမဝေး ဝဲဘက်အခန်းဆောင်မှာ သီတင်းသုံးနေသည့် အရှင်မဟာမောဂ္ဂလာန်ကြား၍ -

'ဒီသိကြားဟာ တရားတော်ကို တကယ်သိလို့ သာဓုခေါ်တာလား၊ မသိဘဲနှင့် သာဓုခေါ်တာလား'





ဟုစဉ်းစားပြီး သိကြားကို စုံစမ်းလိုသောကြောင့် သိကြားနှင့်ရှေ့ဆင့်နောက်ဆင့် တာဝတိံသာသို့ လိုက်တက်သွားလေသည်။

ဘုရားထံမှ တရားနာ၍ ပြန်သွားသော သောတာပန် သိကြားမင်းသည် ဥယျာဉ်တွင်း၌ တူရိယာငါးမျိုးတို့ဖြင့် တီးကြ၊ မှုတ်ကြ၊ ကကြ၊ ခုန်ကြသည်ကို နှစ်သက်အားရ ရှုမဝ ဖြစ်နေစဉ် အရှင်မဟာမောဂ္ဂလာန်ကိုမြင်၍ အတီးအမှုတ်များကိုရပ်စေပြီး မထေရ်မြတ်ကို ခရီးဦး ကြိုဆိုလျက် နှုတ်ဆက်စကား လျှောက်ထားရသည်။

အရှင်မဟာမောဂ္ဂလာန်မထေရ်မြတ်ကလည်း တွေ့လျှင်တွေ့ချင်း-

"သိကြားမင်း၊ မြတ်စွာဘုရားက သင့်အား တဏှာသင်္ခယဝိမုတ္တိတရားကို ဘယ်လို ဟောလိုက်ပါသလဲ။ ငါတို့လည်း အဲဒီ တရားတော်ကိုတစ်ဆင့် နာပါရစေ"

ဟု အမိန့်ရှိတော်မူလိုက်သည်။

ထိုအခါ သိကြားမင်းသည် သူ နာယူခဲ့သည့်တရားကို ပြန်စဉ်းစား၏။ ပေါ်မလာချေ။ အထပ်ထပ်စဉ်းစားသော်လည်း လုံးလုံးသတိမရတော့သဖြင့် -

"တပည့်တော် နာယူခဲ့တုန်းက မှတ်မှတ်သားသား နာယူခဲ့ပေမယ့် နတ်ပြည်မှာ နတ်ကိစ္စတွေက များလွန်းလို့ ခဏကလေးနဲ့ မေ့သွားပါတယ် ဘုရား"

ဟု ပြန်လျှောက်ကာ ဝေဇယန္တာ နန်းပြာသာဒ်ကြီး၏ ကြီးကျယ်ခမ်းနားပုံကို လျှောက်ထားပြီး ဝေဿဝဏ်နတ်မင်းကြီးကိုခေါ်လျက် မထေရ်မြတ်ကို ဝေဇယန္တာ နန်းပြာသာဒ်သို့ ပင့်ဆောင်သွား၏။

သိကြားမင်းက ဝေဇယန္တာ နန်းပြာသာဒ်ကြီးကို လှည့်လည် ပြနေစဉ် မထေရ်မြတ်က -

"ဒီသိကြားမင်းကြီးဟာ တယ်မိုက်မဲလှပါတကား၊ ဒီပြာသာဒ်ကြီးမှာပဲ အခြွေအရံတွေနဲ့ ပျော်ပါးရွှင်မြူး မေ့မူးနေတဲ့ သိကြားပဲ။ သတိရအောင် လုပ်ဦးမှ"

ဟု စဉ်းစားပြီး အာပေါကသိုဏ်းကို ဝင်စားကာ ပြာသာဒ်တည်ရာအရပ်အားလုံး ရေဖြစ်စေသတည်းဟု အဓိဋ္ဌာန်လိုက်၏။

ထို့နောက် ခြေမဖြင့် ပြာသာဒ်အထွတ်ကို ပုတ်လိုက်ရာ ဝေဇယန္တာ ပြာသာဒ်ကြီးတစ်ခုလုံး ပြိုပျက်ကျလုမတတ် သွက်သွက်ခါ တုန်လှုပ်လျက်ရှိသည်။

ထိုအခါ သိကြားမင်းကြီးနှင့်တကွ နတ်များအားလုံး ရွှင်ပြုံးကြည်နူး၊ ရွှင်မြူးဝမ်းသာဖြစ်ကာ မထေရ်မြတ်၏ တန်ခိုးအာနုဘော်ကြီးပုံကို ချီးကျူးကြသည်။

ထိုအခါ မထေရ်မြတ်က ဝမ်းမြောက်ရွှင်မြူး စိတ်ကြည်နူးနေသည့် သိကြားမင်းကို ဘုရားထံမှ နာခဲ့ရသည့် တရားအကြောင်းကို ပြန်မေးရာ သိကြားမင်းကြီးမှာ မိမိမေးပုံ၊ ဘုရားဖြေပုံ အလုံးစုံကို သတိရပြီး မထေရ်မြတ်အား ပြန်ကြားလျှောက်ထားနိုင်တော့၏။

ဤသို့ စူဠတဏှာသင်္ခယသုတ်၌ မြတ်စွာဘုရား ဟောကြားထား၏။

ဤ တရား ဒေသနာတော်အရ နတ်ပြည်က အာရုံများသည် တရားမေ့အောင် မှိုင်းတိုက်နိုင်ကြောင်း သိရှိနိုင်ပေသည်။ သိကြားမင်းမှာ ပင်ကိုအားဖြင့်ပင် သတိကောင်း ဉာဏ်ထက်၍ အလွန် သွက်လက်သူဖြစ်၏။ သောတာပန်လည်း ဖြစ်၏။ နာခဲ့ရသောတရားမှာလည်း တရားအကျဉ်းကလေး ဖြစ်၏။ ရှင်မောဂ္ဂလာန်မေးချိန်နှင့် တရားနာခဲ့ချိန်မှာလည်း မိနစ်ပိုင်းမျှသာ ကြာပေမည်။

သို့ပါလျက် ဥယျာဉ်ပွဲ၏ မှိုင်းတိုက်မှုကြောင့် စဉ်းစားမရအောင် မေ့ရှာ၏။

ထို့ကြောင့် နတ်ပြည်၌ ဖြစ်ရလျှင် သိကြားမင်းလို အရိယာပုဂ္ဂိုလ်ပင် မေ့ရပုံကိုထောက်၍ မိမိတို့အတွက် သိပြီး တရားကလေးများ မမေ့ပျောက်ရအောင် ယခု လူ့ဘဝတွင် နတ်ပြည်ရောက်လျှင် တရားမမေ့နိုင်လောက်သည့် အဆင့်အတန်းရောက်အောင် ကြိုးစားသင့်ပေသည်။

▢



## နတ်သိကြားနှင့် မြတ်ဘုရားသာသနာ

ရာဇဂြိုဟ်မြို့ သရက်တောရွာကလေးအနီး ဝေဒိယတောင်စောင်းရှိ ဣန္ဒသာလာ လိုဏ်ဂူကြီးထဲမှာ မြတ်စွာဘုရား ကိန်းအောင်းမွေ့လျော်သီတင်းသုံး စံနေတော်မူစဉ် သိကြားမင်းကြီး ဘုရားရှင်ထံမှောက်သို့ ရောက်လာခဲ့သည်။

မိမိ စုတေရတော့မည့်အရေးကို တွေးကြောက်နေသည့် သိကြားမင်းကြီးသည် ဘုရားရှင်အား မေးခွန်း ၁၄ မျိုး မေးလျှောက်ခဲ့ပါသည်။

မေးခွန်း ၈ ခု လျှောက်ထားပြီး ဝေဒနာနုပဿနာ သတိပဋ္ဌာန်တရားဒေသနာတော် အဆုံးတွင် သိကြားမင်းကြီးသည် သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်သွားခဲ့၏။ သောတာပန်ဖြစ်ပြီး မကြာမီ တရားတော်နာယူနေခိုက်မှာပင် စုတေပြီး သိကြားအသစ် ပြန်ဖြစ်သည်။ သိကြားမင်းကြီး ဘဝဟောင်းမှ ဘဝသစ်သို့ ပြောင်းလဲသွားသည်ကို နတ်သိကြားနှင့် မြတ်ဘုရားမှတစ်ပါး အခြားနတ်များ မသိလိုက်ချေ။

ထို့ကြောင့် ယခု ရှိနေသော သိကြားမင်းမှာ မူလ သိကြားမင်းမဟုတ်ဘဲ သောတာပန် သိကြားမင်းအသစ် ဖြစ်ကြောင်း ရှေ့ပိုင်းတွင် အကျယ်တင်ပြခဲ့ပြီး ဖြစ်ပါသည်။

ထိုသိကြားမင်းကြီးသည် သောတာပန် အရိယာ ဖြစ်သည့်အလျောက် ဘုရားသာသနာတော်ကို စောင့်ရှောက်ရန် တာဝန်ရှိပေသည်။ သိကြားမင်းကြီးကား သောတာပန် မဖြစ်မီကပင် သဒ္ဓါတရား အလွန်ထက်သန်သည့် ပုဂ္ဂိုလ်ဖြစ်၏။

သိကြားမင်းဟောင်းဘ၀မှာပင် သာသနာတော်ကို စောင့်ရှောက်ပါမည်ဟု နှစ်ကြိမ်တိုင်တိုင် ဘုရားရှင်ထံတွင် ၀န်ခံကတိပြုခဲ့ကြောင်း အဋ္ဌကထာကျမ်းများ၌ တွေ့ရ၏။

ပထမအကြိမ်မှာ ဘုရားပွင့်တော်မူပြီးစ ဇောဓိပင်ရင်းမှာ သီတင်းသုံးတော်မူနေချိန်တွင် ဖြစ်သည်။

မြတ်စွာဘုရားသည် ဇောဓိပင်ရင်း၌ သီတင်းသုံးတော်မူစဉ် ဗုဒ္ဓစက္ခု (ဘုရားမျက်လုံးတော်) ဖြင့် လောကကြီးကို ကြည့်ရှုတော်မူရာ နောင်အခါတွင် အရှင်မဟာမဟိန္ဒ ရဟန်းတော်သည် သီဟိုဠ်ကျွန်းသို့ ကြွ၍ သာသနာပြုမည်။ ထိုအခါ သီဟိုဠ်ကျွန်းတွင် သာသနာတော် ထွန်းလင်းမည်ဟု မြင်တော်မူ၏။

အရှင်မဟာမဟိန္ဒ သီဟိုဠ်ကျွန်းသို့ သာသနာပြုကြွသည့်အခါ 'သင်လည်း မထေရ်၏အဖော်အဖြစ်ဖြင့် သာသနာကို ကူညီစောင့်ရှောက်ပါ' ဟု သိကြားမင်းကြီးကို မိန့်ကြားတော်မူရာ သိကြားမင်းကြီးက ကူညီစောင့်ရှောက်ပါမည်ဟု ၀န်ခံ ကတိပြုခဲ့ကြောင်း ပါရာဇိကဏ် အဋ္ဌကထာ၊ ဇာဟိရ နိဒါနကထာ၌ တွေ့ရှိရ၏။

နောက် ဒုတိယအကြိမ်မှာ ဘုရားဖြစ်ပြီး ၄၉ ရက်အကြာတွင် ဖြစ်သည်။

ဘုရားရှင်သည် ဘုရားဖြစ်တော်မူပြီး ၄၉ ရက်အကြာတွင် -

'ငါဘုရားကိုယ်တိုင် ဆရာမကူ သယမ္ဘူဉာဏ်ဖြင့် ထိုးထွင်းသိမြင်သော သစ္စာလေးပါး တရားတော်ကား အလွန်နက်နဲ၏။

တစ်ပါးသူတို့ သိနိုင်ခဲ၏။ သတ္တ၀ါများမှာလည်း အ၀ိဇ္ဇာမှောင်ထုအောက်တွင် ပညာရောင် အလင်းပျောက်နေကြ၍ ရာဂ၊ ဒေါသ ထူပြောနေကြသည့် သတ္တ၀ါက များပေသည်။

ငါဟောသည့်တရားကို ထိုသတ္တ၀ါများ နားလည်နိုင်ကြမည် မဟုတ်။ ယခု လောလောဆယ် တရားဟောရန် မဖြစ်သေး'

ဟု တရားဟောမှု၌ ကြောင့်ကြမှု မပြုဘဲ နေတော်မူသည်။

ထိုအခါ သိကြားမင်းကြီးသည် သဟမ္ပတိဗြဟ္မာမင်းကြီးနှင့်အတူ မြတ်စွာဘုရားထံမှောက်သို့ လာရောက်ကာ -





"ဗုဒ္ဓ ရှင်တော်မြတ်ဘုရား၊ ၀ေနေယျ သတ္တ၀ါများအား တရားဟောကြားတော်မူပါ။ အရှင်ဘုရားတို့ အာဏာတော် မတည်မှီပါလျှင် အာဏာတော်တည်အောင် တပည့်တော်များ ကူညီပါမည်။ ရှင်တော်မြတ်ဘုရားကသာ ဓမ္မစက်ကို လည်တော်မူပါ၊ အာဏာစက်အတွက် တပည့်တော်တို့ တာ၀န်ယူပါမည် ဘုရား"

ဟု ၀န်ခံ ကတိပြုခဲ့ကြောင်းကို သီလက္ခန္ဓ၀ဂ္ဂအဋ္ဌကထာ၊ အမ္ဗသုတ်အဖွင့်၌ လေ့လာတွေ့ရှိရသည်။

## သိကြားဒေ၀ါနှင့် သီဟိုဠ်သာသနာ

ဤသို့ 'သာသနာတော်ကို ကူညီစောင့်ရှောက်ပါမည်' ဟု နှစ်ကြိမ်တိုင်တိုင် ဘုရားရှင်ထံ ၀န်ခံကတိပြုခဲ့အတိုင်း တတိယ သံဂါယနာတင်အပြီး၌ အသောကမင်းတရားကြီး၏ သားတော် အရှင်မဟာမဟိန္ဒ ရဟန္တာမထေရ် သီရိလင်္ကာနိုင်ငံသို့ သာသနာပြုကြွခါနီးတွင် သိကြားမင်းသည် အရှင်မဟာမဟိန္ဒထေရ်ထံ ရောက်လာပြီး -

"အရှင်ဘုရား၊ ဗုဒ္ဓမြတ်စွာက နောင်သောအခါတွင် မဟိန္ဒမည်သောမထေရ်သည် သီဟိုဠ်ကျွန်းသို့ကြွ၍ သာသနာပြုလိမ့်မည်။

ထိုအခါ သင် သိကြားလည်း သာသနာပြုဖော်ပြုဖက်အဖြစ် ကူညီဆောင်ရွက်ပါဟု မိန့်ကြားတော်မူခဲ့ရာ ဘုရားတပည့်တော်ကလည်း ကူညီပါမည့်အကြောင်း တာ၀န်ယူခဲ့ဖူးပါသည်။

ယခု သီဟိုဠ်ကျွန်းတွင် မုဋသိ၀မင်း နတ်ရွာစံပြီး ဒေ၀ါနံပိယတိဿမင်းမြတ် နန်းစံချိန်ဖြစ်၍ သာသနာပြုသွားရန် အချိန်တန်ပါပြီ။ သီဟိုဠ်ကျွန်းသို့ ကြွတော်မူပါ။

ဘုရားတပည့်တော်လည်း ဘုရားရှင်ထံ ၀န်ခံ ကတိပြုခဲ့သည့်အတိုင်း ကူညီ၍ သာသနာပြုပါမည်"

ဟု လျှောက်ထားပြီး သီဟိုဠ်ကျွန်းသာသနာ ထွန်းလင်းအောင် ကူညီစောင့်ရှောက်ခဲ့လေသည်။

သာသနာနှစ် ၄၃၀ ပြည့်တွင် သီဟိုဠ် (သီရိလင်္ကာ) ကျွန်း၌ ၀ဋ္ဋဂါမဏိမင်းကြီး နန်းတက်သည်။

ထိုမင်း နန်းတက်ပြီး ငါးလအကြာတွင် စဏ္ဍာလတိဿ သူပုန်ဘေးကြီး ပေါ်လာသဖြင့် တိုင်းပြည် မငြိမ်မသက် ဖြစ်လာသည်။

ထိုအတောအတွင်း တစ်ကျွန်းလုံး မိုးခေါင်၍ ငတ်မွတ်ခေါင်းပါးသောကပ်ကြီး ဆိုက်ရောက်လာပြန်၏။ ဤသို့ ဖြစ်လာမည်ကို သိကြားမင်းကြိုတင် သိရှိ၍ မဖြစ်လာမီကပင် သာသနာ့ဝန်ထမ်း ရဟန်းတော်များကို ဤသို့ လျှောက်ထားခဲ့သည်။

"ဒီကျွန်းမှာ မကြာမီ လက်နက်ဘေးနှင့် ငတ်မွတ်ခေါင်းပါးတဲ့ ဘေးကြီးတွေ ဖြစ်လာပါလိမ့်မယ်။ အဲဒီအခါမှာ အရှင်ဘုရားများဟာ ပစ္စည်းလေးပါး အခက်အခဲတွေကြောင့် ပရိယတ္တိ ကျမ်းဂန်စာပေတွေကို ဆောင်ထားနိုင်ကြမှာ မဟုတ်ပါ။

ဒါကြောင့် တခြား နေရာသို့ကြွပြီး ကျန်းမာသက်ရှည်စွာ ပရိယတ္တိကို အားထုတ်သင့်ကြပါတယ်။ အနုပဲ တပည့်တော်၏ ဖောင်ကြီးပေါ်သို့ ကြွတော်မူပါ" ဟု လျှောက်ထားသတဲ့။

ထို့နောက် သီဟိုဠ်(သီရိလင်္ကာ)ကျွန်းရှိ သံဃာတော်အားလုံးကို အခြားဒေသသို့ ဖောင်ကြီးဖြင့် ပို့ဆောင်ပေးခဲ့သည်။

သီဟိုဠ် (သီရိလင်္ကာ) ကျွန်း၌ မလိုက်လိုသည့် ရဟန်းတော် ခြောက်ကျိပ်မျှသာ ကျန်ခဲ့သည်။

ဤသို့လည်း သာသနာတော်ကို စောင့်ရှောက်ခဲ့သည်။

## ဘုရားရှင်နှင့် အမ္ဗဋ္ဌလုလင်

အမ္ဗဋ္ဌလုလင်ကား ဥက္ကဋ္ဌမြို့ကြီးကို စိုးမိုးအုပ်ချုပ်နေသော ပေါက္ခရသာတိ ပုဏ္ဏားဆရာကြီး၏ တပည့်ကြီးတစ်ဦး ဖြစ်၏။

ဗေဒင်သုံးပုံကို တစ်ဖက်ကမ်းခပ်တတ်မြောက်သူ ဗေဒပါရဂူဖြစ်၏။ လောကာယတကျမ်း၊ မဟာပုရိသလက္ခဏာကျမ်းတို့ကိုလည်း အကြွင်းမဲ့ တတ်မြောက်သူ ဖြစ်၏။

မဟာပုရိသလက္ခဏာကျမ်းကား ဘုရားရှင် စသည်တို့၏ လက္ခဏာကိုဖော်ပြသော အခန်းအဖွဲ့ (၇၅) ပေါင်း တစ်သောင်းနှစ်ထောင် ပမာဏရှိသောကျမ်းကြီး ဖြစ်၏။





ထိုကျမ်းကြီးတွင် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အဂ္ဂသာဝက၊ မဟာသာဝက၊ ဘုရားမယ်တော်၊ ခမည်းတော်၊ မြတ်သော အလုပ်အကျွေးတပည့်, တပည့်မ၊ စကြာမင်းတို့၏လက္ခဏာကိုညွှန်ပြသည့် ဂါထာပေါင်းတစ်သောင်းခြောက်ထောင် ပါဝင်သော ဗုဒ္ဓမန္တန် ပါရှိ၏။

ဆရာကြီးဖြစ်သူ ပေါက္ခရသာတိ ပုဏ္ဏားကြီးသည် ဂေါတမမြတ်စွာဘုရား၏အကြောင်းကို ကြားသိရသည့်အခါ ကပည့်ကြီး အမ္ဗဋ္ဌလုလင်အား မြတ်စွာဘုရားထံ စေလွှတ်၍ ဘုရားစစ် ဟုတ်၊ မဟုတ် စုံစမ်းခိုင်းသည်။

အမ္ဗဋ္ဌသည် အခြား ပုဏ္ဏားလုလင်အပေါင်းနှင့်တကွ ဘုရားရှင်သီတင်းသုံးတော်မူရာ ကောသလတိုင်း၊ ဣစ္ဆာနင်္ဂလ ခေါ် ပုဏ္ဏားရွာကြီးအနီးရှိ ဣစ္ဆာနင်္ဂလတောအုပ်သို့ ထွက်ခွာသွား၏။

မြတ်စွာဘုရား ထံတော်မှောက်သို့ ရောက်ကြသည့်အခါ ဘုရားရှင်အား နှုတ်ဆက်စကား ပြောကြားကာ သင့်လျော်သောအရပ်မှာ ထိုင်ကြလေသည်။

ထို့နောက် အမ္ဗဋ္ဌလုလင်သည် ထိုင်နေတော်မူသည့် မြတ်စွာဘုရားနှင့် မတ်တတ်ရပ်လျက် လည်းကောင်း၊ ထိုင်လျက် လည်းကောင်း အမှတ်တရစကားကို အနည်းအပါး ပြောဆို၏။

ထိုအခါ ဘုရားရှင်က -

"အမ္ဗဋ္ဌ၊ သင်သည် ထိုင်လျက်၊ ရပ်လျက်ပင် ထိုင်နေသည့် ငါဘုရားနှင့် စကားပြောဆိုသကဲ့သို့ အသက်အရွယ် ကြီးရင့်ကြ၊ ဆရာ့ဆရာဖြစ်ကြသည့် ပုဏ္ဏားကြီးများနှင့်လည်း အဲဒီလိုပဲ စကားပြောဆိုပါသလော"

ဟု မေးတော်မူလိုက်သည်။

"ဒီလို မပြောပါ အရှင်ဂေါတမ၊ သွားနေသော ပုဏ္ဏားသည် သွားနေသော ပုဏ္ဏားနှင့်သာ စကားပြောပါတယ်။ ထို့အတူ ရပ်နေသူသည် ရပ်နေသူနှင့်သာ၊ ထိုင်နေသူသည် ထိုင်နေသူနှင့်သာ၊ အိပ်နေသူသည် အိပ်နေသူနှင့်သာ စကားပြောပါတယ်။ ဇာတ်နိမ့်ဖြစ်ကြ၊ မည်းညစ်ကြ၊ ဗြဟ္မာရဲ့ခြေဖမိုးမှ ပေါက်ဖွားလာတဲ့ ဦးပြည်း ရဟန်းတို့နှင့် ကျွန်ုပ်စကားပြောဆိုခြင်းသည် ယခု အရှင်ဂေါတမနှင့် ပြောသလိုပင် ဖြစ်ပါတယ်"

ဟု အမ္ဗဋ္ဌက ပြောဆိုသည်။

"အမ္ဗဋ္ဌ၊ သင်ဟာ ဒီကို လာရင်းကိစ္စကိုသာ နလုံးသွင်းပါ။ အို...လုလင်တို့၊ အမ္ဗဋ္ဌဟာ အကြားအမြင် နည်းပါး၊ မယဉ်ကျေး၊ မလိမ္မာသူ ဖြစ်နေရက်သားနဲ့ သူ့ကိုယ်သူ အကြားအမြင်ရသူ၊ လိမ္မာယဉ်ကျေးသူလို့ မှတ်ထင်နေတယ်။ ဒီလို ဖရုသဝါစာ စကားမျိုးကို ပြောဆိုတဲ့အတွက် မလိမ္မာ၊ မယဉ်ကျေးသည်မှလွဲပြီး ဘာမှ အကြောင်းမရှိ"

ဟု မြတ်စွာဘုရားက မိန့်ကြားတော်မူလိုက်သည်။

ထိုအခါ အမ္ဗဋ္ဌသည် ဆတ်ဆတ်ခါနာသွားကာ -

"အရှင်ဂေါတမ၊ သာကီဝင်မင်းမျိုးသည် ခက်ထန်ကြမ်းတမ်းပါတယ်။ သဘောထားကလည်း နကြတယ်၊ စကားလည်း များကြတယ်၊ ဇာတ်နိမ့်တွေဖြစ်လျက်နဲ့ ပုဏ္ဏားတွေကို မရိုသေကြ၊ အလေးမပြုကြ၊ မမြတ်နိုး မပူဇော်ကြ၊ မတုပ်ဝပ်ကြ။ ဇာတ်နိမ့်ဖြစ်တဲ့ သာကီဝင်မင်းတွေရဲ့ ဒီအပြုအမူမျိုးဟာ မသင့်တော်လွန်းပါ"

ဟု ဇာတ်နိမ့်စကားဖြင့် ရှုတ်ချ ပြောဆိုသည်။

ထို့နောက် ဤနည်းအတိုင်း သာကီဝင်မင်းမျိုးကို ဇာတ်နိမ့်စကားဖြင့် သုံးကြိမ်တိုင်တိုင် ရှုတ်ချပြောဆိုသည်။

ထိုအခါ ဘုရားရှင်က -

"အမ္ဗဋ္ဌ၊ သင်ရဲ့ အမျိုးအနွယ်ကို ပြောစမ်းပါ"

လို့ မိန့်တော်မူရာ အမ္ဗဋ္ဌက -

"အကျွန်ုပ်သည် ကဏှာယနအမျိုးအနွယ် ဖြစ်ပါသည်"

ဟု ပြန်ပြော၏။

ဗုဒ္ဓ ရှင်တော်မြတ်ဘုရားက သာကီဝင်မင်းမျိုးသည် ဩက္ကာကမင်းကြီး၏ သားတော်၊ သမီးတော်များဖြစ်၍ အမျိုးမြတ်ပုံနှင့် ကဏှာယနပုဏ္ဏားမျိုးသည် ဩက္ကာကမင်းကြီး၏ ဒိသာမည်သော ကျွန်မမှ မွေးသော ကဏှာအမည်ရှိသူ၏ သားစဉ်မြေးဆက် အမျိုးအနွယ်များဖြစ်၍ ယုတ်ညံ့ကြောင်းတို့ကို အထင်အရှားဖြစ်ခဲ့သည့် အတိတ် လူ့သမိုင်းအနေဖြင့် ဖော်ထုတ်ဟောကြားတော်မူသည်။

ထို့နောက် အမ္ဗဋ္ဌလုလင်အား -





"အမ္ဗဋ္ဌ၊ အကြောင်းယုတ္တိ ရှိသည့် မေးခွန်းကို ငါ မေးမည်။ သင် မဖြေချင်ပေမယ့်လည်း ဖြေရမည်။ မဖြေဘဲနေလျှင်၊ ဆိတ်ဆိတ်နေလျှင်၊ ထွက်ခွာသွားလျှင်၊ လှီးလွှဲပြောနေလျှင် ဒီနေရာမှာပင် သင့်ဦးခေါင်း ခုနစ်စိတ်ကွဲမည်။

အမ္ဗဋ္ဌ၊ အသက်အရွယ်ကြီးရင့်ကြ၊ ဆရာ, ဆရာ့ဆရာတွေဖြစ်ကြသည့် ပုဏ္ဏားများ ပြောဆိုသည်ကို သင် ဘယ်လို ကြားဖူးသလဲ။ ကဏှာအနွယ်ဝင်များဟာ ဘယ်ကစပြီး ဖြစ်လာကြသလဲ။ ကဏှာအနွယ်ဝင်များရဲ့ ရှေးဦးယောကျ်ားကား ဘယ်သူလဲ"

ဟု မေးတော်မူရာ အမ္ဗဋ္ဌမှာ မဖြေဘဲ ဆိတ်ဆိတ်နေ၏။ နှစ်ကြိမ်မြောက် မေးလည်း မတုန်မလှုပ်၊ မဖြေဘဲ ငုတ်တုတ်ထိုင်နေ၏။

ထိုအခါ ဘုရားရှင်က အမ္ဗဋ္ဌအား -

"အခုဖြေပါ၊ သုံးကြိမ်တိုင်တိုင် ငါ ဘုရား မေးပါလျက် မဖြေဘဲ နေသူရဲ့ ဦးခေါင်းဟာ အဲဒီနေရာမှာပဲ ခုနစ်စိတ်ကွဲမည်"

ဟု မိန့်တော်မူစဉ် သိကြားမင်းသည် ဘီလူးအသွင်ဖြင့် ရဲရဲလောင်ပြီး မီးလျှံသော ဝရဇိန်လက်နက်ကြီးကို စွဲကိုင်လျက် -

'မဖြေဘဲ နေလျှင် ဦးခေါင်းကို ခုနစ်စိတ်ခွဲမယ်' ဟန်ဖြင့် အမ္ဗဋ္ဌ၏ အပေါ်ကောင်းကင်မှ ရပ်နေသတဲ့။

ဘီလူးအသွင် သိကြားဘုရင်ကို ဘုရားရှင်နှင့် အမ္ဗဋ္ဌလုလင်တို့သာ မြင်ကြရ၏။

ထိုအခါ အမ္ဗဋ္ဌသည် အလွန်ကြောက်ရွံ့ထိတ်လန့်ကာ ဘုရားရှင်အနီး ကပ်ထိုင်လျက် ဘုရားရှင် မေးတော်မူသည့်မေးခွန်းကို ပြန်လည်မိန့်ကြားတော်မူပါရန် လျှောက်ထားရာ ဘုရားရှင်က ပြန်လည် မေးတော်မူရာ အမ္ဗဋ္ဌက -

"အရှင်ဂေါတမ မိန့်တော်မူသည့်အတိုင်းပင် အကျွန်ုပ် ကြားဖူးပါ၏။ ကဏှာအနွယ်တို့သည် ထိုကျွန်မ၏သား ကဏှာမှစ၍ ဖြစ်ကြပါ၏။ ထိုကျွန်မသားသည်ပင် ကဏှာအနွယ်ဝင်တို့၏ ရှေးဦးပုဂ္ဂိုလ် ဖြစ်ပါသည်"

ဟု လျှောက်ထားရပေသည်။

ဤသို့ သိကြားမင်းသည် ဘုရားရှင်အား မိမိဝန်ခံကတိပြုခဲ့သည့်အတိုင်း အာဏာစက်ဖြင့် ဘုရားရှင်၏ သာသနာကို ကူညီစောင့်ရှောက်ခဲ့ပေသည်ကို သီလက္ခန္ဓဝဂ္ဂပါဠိတော်၊ အမ္ဗဋ္ဌသုတ်၌ လေ့လာ တွေ့ရှိရပေသည်။

## မြတ်ဗုဒ္ဓနှင့် သစ္စကပရိဗိုဇ်

သိကြားမင်းသည် အမ္ဗဋ္ဌလုလင်ကို ဆုံးမတော်မူခန်း၌ ဘုရားရှင်အား ကူညီကာ သာသနာပြုသကဲ့သို့ သစ္စကပရိဗိုဇ်ဆရာကြီး ချုတ်ခန်း၌လည်း ဘုရားရှင်အား ကူညီကာ သာသနာပြုခဲ့သည်ကို မူလပဏ္ဏာသပါဠိ၊ အဋ္ဌကထာ၊ စူဠသစ္စကသုတ်အဖွင့်၌ လေ့လာဖတ်ရှုရ၏။

သစ္စကပရိဗိုဇ်ကား တကယ့် အတ္တဝါဒီဆရာကြီးတစ်ဦး ဖြစ်၏။ သူသည် ဖခင် ပရိဗိုဇ်ကြီးထံမှ အယူဝါဒငါးရာ၊ မိခင် ပရိဗိုဇ်မကြီးထံမှ အယူဝါဒငါးရာ၊ ပေါင်း အယူဝါဒတစ်ထောင်အပြင် သာသနာပြင်ပ အခြားအယူဝါဒများကိုပါ သင်ကြားတတ်မြောက်ထားသူ ဖြစ်၏။

သူ့ဝမ်းဗိုက်ထဲမှာ အယူဝါဒဆိုင်ရာ ပညာရပ်တွေ ပြည့်နှက်နေတဲ့အတွက် ဝမ်းဗိုက်ကြီး ကွဲထွက်သွားမှာ စိုးသဖြင့် သံခါးပတ်ကြီးနှင့် ဝမ်းဗိုက်ကြီးကို ပတ်ထားပြီး သွားလာနေသူဟု ဆိုပါသည်။

သစ္စကသည် ဝေသာလီပြည်အနီး မဟာဝုန်တောကြီးထဲမှာ အေးချမ်းစွာ သီတင်းသုံးနေသည့် မြတ်ဗုဒ္ဓ၏ အနတ္တဝါဒအကြောင်းကို တပည့်တွေထံမှ တစ်စွန်းတစ်စ သိရှိထား၏။

ထို့ကြောင့် ဗုဒ္ဓနှင့် တွေ့ဆုံပြီး အယူဝါဒ ပြိုင်ချင်နေ၏။

ဝါဒပြိုင်လျှင်လည်း သူကပင် အနိုင်ရမည်ဟု တထစ်ချ တွက်ဆထား၏။ သူ အနိုင်ရသည်ကိုလည်း လူအများ သိစေချင်သေး၏။

ထို့ကြောင့် လိစ္ဆဝီမင်း ငါးရာတို့ စည်းဝေးနေကြသည့် လွှတ်ရုံးတော်သို့သွားပြီး ဝါဒပြိုင်ပွဲသို့ လိုက်ရန် ဖိတ်ခေါ်၏။ လိစ္ဆဝီမင်း ငါးရာလုံးပင် သူ့နောက်သို့ လိုက်ပါသွားကြ၏။

သစ္စကပရိဗိုဇ်တို့လူသိုက် ဘုရားရှင်ထံမှောက်သို့ ဆိုက်ရောက်သွားကြချိန်ကား မွန်းတည့်ရှိန်ရှိန် နေ့လယ်ချိန်ကြီး ဖြစ်၏။





ပြိုင်ပွဲလာပရိသတ်မှာ အပိုင်းအခြားမရှိ အလွန် များလှဘိ၏။ လိစ္ဆဝီမင်းငါးရာအပြင် နောက်ထပ် လိုက်လာကြသည့် ဝေသာလီလူထုပရိသတ်ကြီးသည် မြတ်ဗုဒ္ဓ၏ပတ်ဝန်းကျင်ရှိ သစ်ပင်များအောက်တွင် ကြည့်၍မဆုံးနိုင်အောင်ပင် ရှိနေ၏။ သစ္စကပရိဗိုဇ်က -

"အရှင်ဂေါတမ၊ အရှင်ဂေါတမဟာ တပည့်တွေကို ဘယ်လိုဆုံးမနေပါသလဲ"

ဆိုသည့် မေးခွန်းနှင့် ပြိုင်ပွဲကို စတင်လိုက်သည်။

"သစ္စက၊ ရုပ်, ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဉ်ဆိုတဲ့တရားတွေဟာ မမြဲတဲ့ အနိစ္စသဘောတရားတွေ၊ အတ္တကောင်မဟုတ်တဲ့ အနတ္တသဘောတရားတွေပဲလို့ ငါ ဆုံးမနေပါတယ်။ အဲဒီလိုပဲ အကြိမ်များစွာ ငါညွှန်ကြားနေတယ်"

ဟု ဘုရားရှင်က ဖြေကြားလိုက်သည့်အခါ သစ္စကပရိဗိုဇ်က -

"အရှင်ဂေါတမ၊ မျိုးစေ့တွေ, သစ်ပင်တွေဟာ မြေကြီးမှာ တည်မှီပြီး ပေါက်ပွားစည်ပင်ကြရတယ် မဟုတ်လား။ ခွန်နဲ့အားနဲ့ လုပ်ကြရတဲ့လုပ်ငန်းတွေကိုလည်း မြေကြီးပေါ်မှာပဲ ရပ်တည်ပြီး လုပ်ကြရတယ် မဟုတ်လား။

အဲဒီလိုပဲ ကောင်းမှုကုသိုလ်ကံ၊ မကောင်းမှုအကုသိုလ်ကံတွေကိုလည်း ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်ဆိုတဲ့ အတ္တကောင်ရှိတဲ့သူက ဒီအတ္တကောင်ကိုမှီပြီး လုပ်ကြရပါတယ်။ ကောင်းကျိုး၊ ဆိုးကျိုးကိုလည်း ဒီအတ္တကောင်ကပဲ ခံစားရပါတယ်။ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်ဆိုတဲ့ ခန္ဓာတွေဟာ အတ္တ မဟုတ်ရင် ကောင်းမှု၊ မကောင်းမှုက ဘယ်ဟာကိုမှီပြီး ဖြစ်မလဲ။ ကောင်းကျိုး၊ ဆိုးကျိုးကိုရော ဘယ်သူက ခံစားမလဲ"

ဟု ဝါဒတင်လိုက်သည်။

ထိုအခါ ဗုဒ္ဓမြတ်စွာက -

"သစ္စက၊ ပသေနဒီကောသလမင်း, အဇာတသတ်မင်းတွေလို အာဏာရှင် ဘုရင်တွေဟာ သူ့ပိုင်နက်မှ သတ်သင့်သူကို သတ်ဖို့၊ ဒဏ်ပေးသင့်သူကို ဒဏ်ပေးဖို့၊ နှင်ထုတ်သင့်သူကို တိုင်းပြည်မှ နှင်ထုတ်ဖို့ အာဏာရှိကြတယ်။ အစိုးရကြတယ် မဟုတ်လား"

ဟု သစ္စကာ၏ အတ္တဝါဒကို ပြင်းပြင်းထန်ထန် နှိမ်နင်းတော်မူရန် စကားပလ္လင်ခံလိုက်ရ၏။

"အရှင်ဂေါတမ၊ အရှင်ဂေါတမ ပြောသည့်အတိုင်း အားလုံး မှန်ပါတယ်" ဟု သစ္စက ထောက်ခံ ဖြေကြားလိုက်သည်။

"သစ္စက၊ သင်က ရုပ်ဟာ ငါရဲ့အတ္တလို့ ဆိုတယ်။ ဒီလိုဆိုရင် အဲဒီ ရုပ်အပေါ်မှာ ငါရဲ့ရုပ်ဟာ ဒီလို ချောချောလှလှလေး ဖြစ်ပါစေ။ ငါရဲ့ ရုပ်ဟာ ဒီလို မလှမပတဲ့ရုပ်မျိုး မဖြစ်ပါစေနဲ့လို့ သင် အာဏာထားနိုင်ရဲ့လား"

ဟု ရှင်တော်ဗုဒ္ဓက အချက်ပိုင်ပိုင် မေးတော်မူလိုက်၏။

ဘုရားရှင်၏ မေးခွန်းကို ကြားရသည့်အခါ -

ဓားပြမှ ဓားပြမှန်းသိ ဆိုသကဲ့သို့ သူ့အမှားကို သူသိသွားပြီး သစ္စကကြီး ငိုင်သွားတော့၏။

'အာဏာထားနိုင်ပါတယ်လို့ ဖြေလျှင်လည်း သင့်ရုပ်ခန္ဓာဟာ လိစ္ဆဝီမင်းပျိုကလေးတွေရဲ့ ခန္ဓာကိုယ်လို ဘာကြောင့် မလှမပ မတင့်တယ်ဘဲ ဖြစ်နေရသလဲလို့ ဝိုင်းမေးကြမယ်။

အာဏာမထားနိုင်ပါလို့ ဖြေရင်လည်း သင့်စကားဟာ ရှေ့နောက် မညီပါလားလို့ ဝိုင်းမေးကြမယ့်အပြင် ရုပ်ဟာ အစိုးမရတဲ့အတွက် အတ္တ မဟုတ်ဘူးလို့ ဝန်ခံရာလည်း ရောက်သွားမယ်'

ဟု စဉ်းစားမိပြီး သစ္စကကြီး၏နှုတ်မှ စကားတစ်လုံးမှ ထွက်မလာတော့ဘဲ တုဏှိဘာဝေ ဆိတ်ဆိတ်ဖြစ်နေတော့၏။

ဘုရားက ဒုတိယအကြိမ် ထပ်မေးလည်း ဘာမှ မပြော။

"သစ္စက၊ ခုအခါဟာ ဘာမှမဖြေဘဲ ဆိတ်ဆိတ်ပေနေရမယ့်အခါမျိုး မဟုတ်ဘူး၊ ဘုရားရှင်တို့က သုံးကြိမ်မြောက် မေးလို့မှ မဖြေဘဲနေရင် မဖြေသူရဲ့ဦးခေါင်းဟာ ဒီနေရာမှာပဲ ခုနစ်စိတ် ကွဲသွားတတ်ပါတယ်"

ဟု မြတ်ဗုဒ္ဓက သတိပေးစကား ပြောကြားလိုက်၏။

ထိုအချိန်မှာပင် သိကြားမင်းသည် ဘီလူးကြီးယောင်ဆောင်ပြီး သံဝရဇိန် လက်နက်ကြီး စွဲကိုင်ကာ ပစ်ခွဲတော့မည့်ဟန်ဖြင့် သစ္စကကြီး၏ ရှေ့တည့်တည့် ကောင်းကင်ပြင်မှာ ရပ်နေသည်။





ထိုသို့ ရပ်နေသည်ကို ဘုရားရှင်နှင့် သစ္စကတို့သာ မြင်ကြရ၏။

ထိုအခါမှ -

"အရှင်ဂေါတမ၊ အတ္တလို့ဆိုတဲ့ရုပ်ဟာ ဒီလိုပဲ ဖြစ်ပါစေ။ ဟိုလို မဖြစ်ပါစေနဲ့လို့ အာဏာမထားနိုင်ပါ။ အစိုးရခြင်းလည်း မရှိပါ"

ဟု ညှိုးငယ်သည့် မျက်နှာထားနှင့် ဖြေကြားရှာရသည်။

ဤသို့ဖြင့် ပြိုင်ပွဲတွင် သစ္စက၏ အတ္တဝါဒ ရှုံးနိမ့်ပြီး ဘုရားရှင်၏ အနတ္တဝါဒ အောင်ပွဲခံခဲ့သည်။

ဤအကြိမ်၌လည်း သိကြားမင်းသည် ဝန်ခံ ကတိပြုခဲ့သည့်အတိုင်း အာဏာစက်ဖြင့် ဘုရားရှင်၏ သာသာနာတော်ကို ကူညီစောင့်ရှောက်ကြောင်း လေ့လာဖတ်ရှုရသည်။

## မြန်မာ့သာသနာနှင့် သိကြားဒေဝါ

တတိယအကြိမ် မြန်မာနိုင်ငံတော်ကို တည်ထောင်တော်မူသည့် အလောင်းမင်းတရားကြီးလက်ထက် ဖြစ်သည်။

ထိုအချိန်တွင် သာသနာတော်နှင့်ပတ်သက်၍ အတင်၊ အရုံ ပြဿနာ ပြန်ပေါ်လာ၏။ သံဃာတော်များ အတင်ဂိုဏ်း၊ အရုံဂိုဏ်း ကွဲကြ၏။ အလောင်းမင်းတရားကြီးက မိမိနှင့်အတူ နိုင်ငံတည်ထောင်ဖက် ဖြစ်သည့် အတုလဆရာတော်ကို သာသနာပိုင် တင်မြှောက်ကိုးကွယ်၏။ အတုလဆရာတော်ကား အတင်ဂိုဏ်း၏ ခေါင်းဆောင်ဆရာတော်ကြီး ဖြစ်၏။ ထို့ကြောင့် အရုံဂိုဏ်း သံဃာတော်များ အနှိပ်စက်ခံကြရသည်။

အလောင်းမင်းတရားကြီးသည် နိုင်ငံတော်အတွင်းရှိ ရဟန်းတော်အားလုံး အတုလဆရာတော်၏အလိုသို့ လိုက်၊ မလိုက် စုံစမ်းစစ်ဆေးလေ့ရှိ၏။ မလိုက်နာသော ရဟန်းသံဃာတွေ့ရှိလျှင် ကြီးလေးသော ပြစ်ဒဏ်ကို ပေးတော်မူ၏။

တစ်ချိန်တွင် ကူးခန်းနယ် အရှင်မုနိန္ဒဃောသမည်သော မထေရ်သည် တပည့် ပရိသတ်တို့ကို ဆုံးမ၍ များစွာသော အရုံဂိုဏ်းသံဃာကို ဖွဲ့စည်း တည်ထောင်နေသည်ဟု ကြားသိရ၍ ထိုမထေရ်ကို ပင့်ခေါ်စေပြီး သုဓမ္မာသဘင်၌ မဟာထေရ်တို့၏ အဆုံးအဖြတ်ကို ခံယူစေသည်။

သုဓမ္မာသဘင်တွင် မထေရ်ကြီးတစ်ပါးက -

"ငါ့ရှင်၊ အခု မြန်မာနိုင်ငံ၌ ရဟန်း သံဃာ အားလုံးတို့သည် ရေမြေ့ရှင် မင်းဧကရာဇ်နှင့် သံဃရာဇာဆရာတော်တို့၏ အာဏာတော်သို့ လိုက်၍ သင်္ကန်းကို အတင်ပြုကြရ၏။ သင်တစ်ပါးတည်းသာ အရုံဝတ်ကို ဖြည့်နေသည်။ သင်သည် အဘယ်ကြောင့် ခက်ထန်သောမာနဖြင့် မပြုသင့်သောအမှုကို မစွန့်ဘဲ နေရသလဲ" ဟု မေး၏။

အရှင်မုနိန္ဒယောသမထေရ်က မေးမြန်းသည့် မထေရ်၏ မျက်နှာကို တည့်တည့်ကြည့်ပြီး -

"အရှင်သည် လဇ္ဇီပေသလ သိက္ခာကာမပုဂ္ဂိုလ်ပဲလို့ ရေးက ကြားဖူးပါတယ်။ ဒီအတိုင်း မှန်ပါလျှင် ဒီစကားမျိုး မပြောသင့်ပါ။

မုနိန္ဒယောသဟာ ဘုန်းတန်ခိုး အရှိန်အဝါ မရှိ၊ အားကိုးအားထား မရှိလို့ အောက်မေ့ပြီး ဆိုချင်ပေမယ့် တပည့်တော်ရဲ့ ဆရာ မျက်နှာကိုထောက်၍ ဆရာရဲ့ ဂုဏ်ကျေးဇူးကို သိတဲ့အနေဖြင့် ဒီလိုအဓမ္မိက စကားမျိုးကို မဆိုကောင်းပါ"

ဟု ပြန်လျှောက်သတဲ့။

မထေရ်ကြီးက -

"သင့်ဆရာ ဘယ်သူလဲ"

ဟု မေးသည့်အခါ အရှင်မုနိန္ဒယောသ မထေရ်သည် သုဓမ္မာသဘင်၌ရှိသော ဘုရားရုပ်ပွား ဆင်းတုတော်ကိုရှိခိုး၍ -

"ဤသည်ပင်လျှင် အကျွန်ုပ်၏ဆရာပေတည်း"

ဟုဆိုကာ ကိုယ်ဝတ်ကို လက်ကတော့တင်တော်မူ၍ ဆောင့်ကြောင့်ထိုင်လျက် လက်အုပ်ချီပြီး -

"အရှင်မြတ်ဘုရား၊ တပည့်တော်သည် တပည့်တော်၏ အသက်ကိုသာ စွန့်ပါမည်။ အသက်ထက်ဆုံး မြတ်စွာဘုရား၏ သိက္ခာပုဒ်တော်များကို မစွန့်ပါ" ဟု လျှောက်ထားပေ၏။

ဤအကြောင်းကို အလောင်းမင်းတရားကြီး ကြားသိရသည့်အခါ -

"ဤမထေရ်ကား မာန်မာန ခက်ထန်လှ၏။ ငါ့တိုင်းနိုင်ငံ၌ မနေသင့်" ဟု ဆိုကာ နယ်ခြားသို့ ပို့စေ၏။





သို့သော် မင်းချင်းတို့သည် နယ်စပ်ဖြစ်သည့် ဗဟောင်မည်သော အရပ်၌ထားပြီး ပြန်လာကြ၏။ မထေရ်မြတ်လည်း အရုံဂိုဏ်းထောင်ကာ စာပေ ပရိယတ္တိကို ပို့ချနေ၏။ အဘိဓမ္မတ္ထသင်္ဂဟ နိဿယကိုလည်း ရေးသားတော်မူ၏။ ဗဟောင် အရှင်မုနိန္ဒယောသဟု နာမည်တွင်၏။

အလောင်းမင်းတရားကြီးသည် အရှင်မြတ်၏အကြောင်းကို ကြားရပြန်သည့်အခါ -

"ဤမထေရ်ဟာ ငါ့တိုင်းနိုင်ငံမှာပင်နေပြီး ငါတို့ တားမြစ်ပိတ်ပင်ထားတဲ့ အမှုကို ပြုနေကြပြန်ပြီ။ ထိုမထေရ်ကိုခေါ်စေ"

ဟု အမိန့်ချ၏။ မင်းချင်းယောက်ျားတို့ သွားပင့်သောအခါ မထေရ်မြတ်သည် သိက္ခာချကာ လူဝတ်လဲပြီး လိုက်လာခဲ့၏။

မင်းကြီးက -

"သင်သည် အရုံဂိုဏ်း ထောင်နေသည်ဟု ကြား၏။ ယခု ဘာကြောင့် လူဖြစ်နေရသလဲ"

ဟုမေးရာ -

"သင်မင်းကြီး၊ ငါ့ကို သတ်လို၍ ခေါ်သည်ဟု ထင်မှတ်၏။ ငါ့ကို ရဟန်းအဖြစ်၌ မင်းကြီးသတ်လျှင် သင်မင်းကြီးအား ကြီးလေးသော အပြစ် ဖြစ်လိမ့်မည်။ ဒါကြောင့် သင်မင်းကြီးအား အပြစ်ပေါ့ရန် သိက္ခာချ၍ လာခဲ့ပါတယ်။ သတ်လိုပါက ယခုပင် သတ်နိုင်ပါတယ်"

ဟု သာသနာ့အာဇာနည်ပီပီ ပြန်ပြော၏။

အလောင်းမင်းတရားသည် အရှင်မုနိန္ဒယောသကို နှောင်အိမ်၌ သွင်းထား၍ ရွှေတိဂုံစေတီတော် စောင်းတန်းနှင့် ရွှေဇရပ်ကြီးသုံးဆောင် ပြီးစီးသည်ကို ရေစက်ချရန် ရန်ကုန်မြို့သို့ စုန်တော်မူခဲ့သည်။

ထိုအချိန်မှာပင် မောင်းထောင်ရွာ၌လည်း မထေရ်နှစ်ပါးတို့သည် အတင်ဝါဒကို မလိုက်နာဘဲ အရုံဂိုဏ်းထောင်နေကြ၏။

ထိုသတင်းကို သာသနာပိုင် အတုလ ဆရာတော် ကြားရသည့်အခါ ထိုမထေရ်နှစ်ပါးကို မင်းအာဏာဖြင့် ခေါ်စေ၏။

ထိုမထေရ်တို့ရောက်လျှင် အတုလဆရာတော်က ထိုမထေရ်နှစ်ပါးကို သံဒဏ်ပေး၏။

မထေရ်နှစ်ပါးတို့သည် သဲထမ်းစဉ် တစ်ပါးက –

"အရှင်ဘုရား၊ ဝိနည်းတော်နှင့်အညီ ကျင့်ကြံနေထိုင်ကြတဲ့ တပည့်တော်တို့အဖို့ အခုလို သဲဒကာထမ်းရတာဟာ မလျော်ကန် မသင့်မြတ်ပါ။ လောကကြီးဟာ အင်မတန် အံ့ဩစရာပါပဲ"

ဟု ဆိုသည့်အခါ ကျန်တစ်ပါးကလည်း –

"ငါ့ရှင်၊ လောကစောင့်တဲ့နတ်တွေဟာ ဒီလို အဓမ္မမှုမျိုးကို မြင်ပါလျက် လျစ်လျူရှုနေတာတော့ မကောင်းပါဘူး။

အခုလောကကို စောင့်နေကြတဲ့နတ်တွေ မေ့လျော့နေကြသလား မသိပါ"

ဟု ပြန်လျှောက်သတဲ့။

ထိုခဏ၌ပင် မိုးကောင်းကင်ကြီး အုံ့မည်းတက်လာပြီး အတုလဆရာတော်၏ကျောင်း၌ လည်းကောင်း၊ အလောင်းမင်းတရားကြီး၏ နန်းတော်၌ လည်းကောင်း တစ်ပြိုင်နက် မိုးကြိုးပစ်တော့၏။

နေပြည်တော်၌ တံခါး၊ လှစင်၊ ဆင်ချည်တိုင်၊ မြင်းတင်းကုပ် စသော တစ်ဆယ့်သုံးဌာနကို မိုးကြိုး တစ်ဆယ့်သုံးချက် ပစ်သည်ဟု ရာဇဝင်၌ဆို၏။

နန်းတော်၌ မိုးကြိုးကျချိန်ကား အလောင်းမင်းတရားကြီး ရေစက်ချရန်အတွက် ရန်ကုန်သို့ စုန်ရာတွင် ပြည်မြို့သို့ ဆိုက်ရောက်သည့်အချိန်အခါပင် ဖြစ်၏။

အလောင်းမင်းတရားကြီးသည် ရန်ကုန်မှတစ်ဆင့် ယိုးဒယားသို့ ချီတော်မူရာ ယိုးဒယားမှအပြန် နတ်ရွာစံတော်မူသည်။

ဤသို့ သာသနာပိုင်ကျောင်းနှင့် နန်းတော်တို့ကိုမှ ရွေးပြီး ဆန်းဆန်းကြယ်ကြယ် အချက်ပေါင်းများစွာ မိုးကြိုးပစ်သည့်အကြောင်းနှင့်ပတ်သက်၍ –

"သာသနာအတွက် အမှန်တရားဘက်၌ ရပ်တည်နေသော အရှင်မြတ်များဘက်မှ သိကြားမင်းက ကူညီ၍ သာသနာပြုခြင်း ဖြစ်ပေမည်"

ဟု ထိုခေတ်က ပြည်သူအပေါင်းတို့ ယူဆပြောဆိုခဲ့ကြကြောင်း သာသနာဝင်ကျမ်းများ၌ တွေ့ရ၏။





## သိကြားမင်းသေ၍ စည့်တီးသောမထေရ်

မြန်မာသက္ကရာဇ် ၇၃၀ ပြည့်တွင် နန်းတက်တော်မူသည့် မင်းကြီးစွာစော်ကဲ လက်ထက်၌လည်း သိကြားမင်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံ၌ အဖြစ်အပျက်ဆန်းတစ်ခု ပေါ်ခဲ့ဖူးသေး၏။

သတိုးမင်းဖျား အင်းဝကို တည်ထောင်ခါစတွင် သာသနာတော် မထင်ရှား၊ ရှင်ဆိုးရှင်ပျက်များ ရှိကြောင်းသာ ထင်ရှားသည်။

သတိုးမင်းဖျားလည်း နန်းစည်းစိမ် သုံးနှစ်သာရှိ၍ သာသနာရေးကို အလေးပေး ဂရုမစိုက်နိုင်ခဲ့ပါချေ။

ရခိုင်မှာ မင်းကြီးစွာစော်ကဲ ညီနောင်သုံးဦးတို့ မင်းဖြစ်ကြမည်ဟု အိပ်မက်မြင်မက်သော ဆရာဘုန်းကြီးက –

"မင်းဖြစ်လျှင် ငါ့ကို မမေ့နှင့်၊ ဘုန်းကြီး၍ အသက်ရှည်လိုလျှင် အနောက်တောင်ထောင့်၌ စည်းခုံတည်လေ"

ဟု မှာလိုက်၏။

မင်းကြီး စွာစော်ကဲလည်း မင်းဖြစ်ပြီးနောက် မြန်မာသက္ကရာဇ် ၇၄၅ ခုနှစ်တွင် အင်းဝ၌ ရွှေစည်းခုံကို တည်တော်မူလေသည်။

ရွှေစည်းခုံတည်မိလျှင်ပင် အင်းဝတစ်မြို့လုံး ထိတ်ထိတ်လန့်လန့်ပင် ဖြစ်ကြ၏။

ထိုအကြောင်းကို ရခိုင်ဆရာတော်ကြားလျှင် အင်းဝသို့ လာ၍ ကုက္ကိုပင်၊ ဆင်ကျုံး၊ မော်ကွန်း၊ သရပါတံခါး၊ ရတနာဂူတည်၍ ရွှေစည်းခုံနှင့် ပြိုင်သောအခါမှ အထိတ်တလန့်ဖြစ်ခြင်း ပြေငြိမ်းသွား၏။

မင်းကြီးစွာစော်ကဲလည်း ဆရာတော်အား များစွာ ပူဇော်သက္ကာရပြု၏။ မဟာသံဃရာဇာဟူသော ဘွဲ့တံဆိပ်တော်ကိုလည်း ကပ်လှူတော်မူ၏။

ရခိုင်မှာ မင်းသားသုံးပါးကို စာပေပို့ချစဉ်ကပင် လောကသာရဆုံးမစာကို ပြုစုတော်မူ၍ အင်းဝသို့ ကြွလာသောအခါ ဆက်သည်ဟု ဆိုကြ၏။

မင်းကြီးစွာစော်ကဲသည် အင်းဝမြို့ ဒန့်တောအရပ်၌လည်း စည်းခုံနှင့် ကျောင်း တည်တော်မူသည်။

တည်သည့်အကြောင်းကို ဆိုရသော် ထိုအချိန်တွင် စ‹ကား ကျောင်းမှ စာပေကျမ်းဂန် တတ်မြောက်၍ သီတင်းသုံးနေထိုင်သော ပရက္ကမအနွယ်ဝင် အရှင်ခေမာစာရမထေရ်သည် ညဥ့် နှစ်ချက်တီးကျော် အချိန် အလွန်တိတ်ဆိတ်ခိုက်တွင် ဘုရားမှာ ဆွဲထားသောစည်ကြီးကို အချက်များစွာ တီးခတ်စေတော်မူ၏။

နန်းတော်မှ နန်းတော်သူ၊နန်းတော်သားများက စည်တီးသံကြား၍ ဘုန်းကြီး ပျံလွန်တော်မူပါသလောဟု မေးလာကြရာ -

"ဘုန်းကြီး ပျံလွန်တော်မူသည် မဟုတ်။ သိကြားမင်းသေ၍ စည်တီးခြင်း ဖြစ်သည်" ဟု ရဟန်းများက ဆိုလိုက်၏။

အဘယ်ကြောင့် သိကြားမင်း သေကြောင်းကို သိသနည်းဟု တစ်ဖန် မေးလာပြန်ရာ -

"မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူခါနီး၌ သာသနာတော်ကို စောင့်ရှောက်ပါမည်ဟု သိကြားမင်း ဝန်ခံထားလျက် သာသနာတော်ကို ဆောင်ရွက်ကုန်သော ငါတို့အား မစောင့်ရှောက်ပါသောကြောင့် သိကြားမင်း သေသည်ဖြစ်မည် ဆိုပေသည်" ဟု ရဟန်းက ဆိုလိုက်သည်။

ထိုအကြောင်းကို မင်းကြီးအား ပြန်လည် လျှောက်ထားကြသည့် အခါ မင်းကြီးစွာစော်ကဲသည် ကြည်ညိုသဒ္ဓါဖြစ်ပွား၍ ဝမ်းဘဲအင်းမြောက်ဘက် ဒန့်တောအရပ်၌ ကျောင်းဆောက်၍ အရှင်ခေမာစာရအား တင်လှူ၏။ စည်းခုံနှင့် သိမ်လည်း သမုတ်၏။

ထိုစည်းခုံနှင့်ကျောင်းကို ရည်ရွယ်၍ ရာဇဝင်၌ အဝ ဒန့်တော၊ စည်းခုံနှင့် ကျောင်းတော် ဟု အလှူစာရင်း သွင်းထားသည်ကို တွေ့ရ၏။ ထိုဆရာတော်ကား သထုံဆက် သီဟိုဠ် (သီရိလင်္ကာ) နွယ် လဒ္ဓိပေသလ ဖြစ်၍ သာသနာဆက်ဆရာစဉ်၌ ပါဝင်သော ဆရာတော်တစ်ပါး ဖြစ်၏။

## စာရေးဆရာကြီး ဦးပုညနှင့် သိကြားမင်း

စာရေးဆရာကြီးဦးပုညအကြောင်းကို စာဖတ်သူတိုင်း သိပြီး ဖြစ်ပါသည်။ မင်းတုန်းမင်းလက်ထက် နိုင်ငံကျော် စွယ်စုံရ စာရေးဆရာကြီး ဖြစ်ပါသည်။





ထိုခေတ်က ပဥ္စမသံဂါယနာတင် မင်းတုန်းဘုရင်ကြီး၏ သူမတူအောင် သာသနာပြုမှုကြောင့် ရဟန်းသံဃာများဘက်၌ သာသနာတော် အလွန် တိုးတက်ပြန့်ပွား ထွန်းကားခဲ့၏။

သို့ရာတွင် လူဥပါသကာများဘက်တွင် ပဒေသရာဇ်ခေတ်နှင့် လျော်ညီစွာ အကျင့်စာရိတ္တ ပျက်ပြား၍ သာသနာဆုတ်ယုတ် လျော့ပါးနေပေသည်။ အထူးသဖြင့် မင်းပိုင်းစိုးပိုင်း မင်းမှုထမ်းများအပိုင်းတွင် ပို၍ အကျင့်စာရိတ္တပျက်ပြားဟန်ရှိ၏။

ထိုအဖြစ်အပျက်များကို ထိုအပိုင်းတွင် ကျင်လည်နေရသည့် ဆရာကြီး ဦးပုညမှာ ပို၍ သိရှိပေသည်။

သို့သော် သူ မည်သို့မျှ မတတ်နိုင်။

ကျမ်းဂန်တတ်သူဖြစ်၍ တတ်နိုင်သူကို သူ သွားသတိရသည်။ သတိရသည့်အတိုင်း တတ်နိုင်သူကို အောက်ပါအတိုင်း ကလောင်ဖြင့် ကြိမ်းတော့၏။

နန်းမေရုပြာသာဒ်၊ လမ်းဖြတ်တဲ့ ဣန္ဒာ၊
ကမ်းသတ်လို့ နိမ့်ရှာတယ် အပေါ်မှာလွန်သား၊
ထောက်လှမ်းချက် သုမ္မာဝယ်၊ ခုအခါ လစ်ကြသလား။
ဘုရားက သိကြားကိုမှာတယ်၊ ဋ္ဌကထာရှိသား။
သာသနာ ငါထားငဲ့၊ မမှားအောင်စေ့ဆော်၊
မကောင်းသူ ကောင်းသူတို့ကိုလ၊
ကြောင်းယူလို့ ဆန်းစစ်ခါမျှော်၊
ဝိမလ နန်းသစ်ပေါ်မှာ၊ သန်းရှစ်ဖော်ရွှေများနှင့်၊
ဘုရားကို နှစ်ရစ်လိမ်၊ ညစ်တဲ့မာဃိန်၊
ပစ်ရှာမယ့် ဝရဇိန်၊ ပန်းထိမ်မှာ ပြင်တုန်းထင့်လေး။

ဤ ဆရာကြီး ဦးပုည သိကြားမင်းကိုထေ့ကာ စွပ်စွဲကြိမ်းမောင်းခဲ့သည့် ခေတ်ကြေးမုံတေးထပ်ကို ရှေးကဗျာဆရာကြီးများက **ဘုရားကို နှစ်ရစ်လိမ်ကဗျာ** ဟု ကဗျာနာမည် ပေးခဲ့ကြ၏။

ဘုရားကို နှစ်ရစ်လိမ် ဆိုသည်မှာ ဘုရားကို နှစ်ခါလိမ်သည်ဟု ဆိုခြင်း ဖြစ်သည်။

နတ်သိကြားနှင့် မြတ်ဘုရားဆိုသည့် ခေါင်းစဉ်အောက်တွင် သိကြားမင်းကြီးက သာသနာတော်ကို စောင့်ရှောက်ပါမည်ဟု နှစ်ကြိမ်တိုင်တိုင် ဘုရားရှင်ထံ ဝန်ခံ ကတိပြုခဲ့ကြောင်း စာရေးသူ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

'နှစ်ကြိမ်တိုင်တိုင် ဝန်ခံကတိပြုခဲ့သော်လည်း ယခု လူ့ပြည်ကိုလည်း မထောက်လှမ်းဘူး၊ ဝိမလခေါ်တဲ့ နန်းသစ်ပေါ်မှာ နတ်သမီးအခြွေအရံရှစ်သန်းနဲ့ ပျော်မူးပြီး လူ့ပြည်နှင့် လမ်းဖြတ်ထားလို့ ဘုရားကို နှစ်ခါလိမ်တဲ့ ညစ်ပတ်တဲ့ သိကြားမင်းကြီးပဲ' ဟု ဆိုလိုခြင်း ဖြစ်၏။

(ဣန္ဒာ၊ မာဃနိ်တို့မှာ သိကြားနာမည်များဖြစ်ပြီး ဝရဇိန် (ဝဇိရ) မှာ သိကြားမင်းလက်နက် မိုးကြိုးစက် ဖြစ်ပါသည်။)

ဆရာကြီး ဦးပုညသည် ဤသို့ သိကြားမင်းကြီးကို စွပ်စွဲပြောဆိုသော်လည်း အကျိုးသက်ရောက်မှု မရှိသည်ကို သိလာရသည့်အခါ ကျမ်းဂန်တတ်သူပီပီ သိကြားမင်းအနေအထားကို သိရှိသူဖြစ်၍ အောက်ပါ ကယ်သင့်မှ ကယ်မယ်ဆိုသည့် တေးထပ်ကဗျာကို ထပ်မံစပ်ဆို၍ စိတ်ကို ဖြေသိမ့်ဟန်ရှိပေသည်။

တာဝတိံ ဘုံအုပ်က၊ စာလုပ်တိုင်း ငါပါ၊
ဘယ်တော့ကမှ လူ့ရွာကို မရှုတာမရှိ။
စိတ်ညစ်တိုင်း အပြစ်တင်သည်၊
ငါဘုရင် မိုးက အသ်။
အကျင့်ညဏ် စာဂီမှာ တစ်ဆံချည် မရှိ။
ဘယ်သူမှာ ဘာမရှိတယ်လို့၊ ငါမသိ ထင်တယ်။
ဘယ်ဖူးစာ ဘယ်မှာ ညားတာလဲ၊
ငါသိကြား သိပါရဲ့ကွယ်။
ကယ်သင့်မှ ငါကယ်မယ်။
တကယ်ပင် ဓာန်မှတ်ပါတော့။
ဝတ်ရုပ် ငါးဘုံစံ၊ ကြေးတွက်မည့်ကြံ၊
မကောင်းမှု ကျွန်ုပ်ကြံလျှင် ရွှေစာရံ စူးပါစေလေး။

ဟူသော ကဗျာကို တစ်ဖန် စပ်ဆို၍ လူ့ဘက်မှာ သာသနာပျက်





နေသဖြင့် မကျေမနပ် ဖြစ်နေသည့်စိတ်ကို 'ကယ်သင့်မှ ကယ်မယ်' ဟူသော တေးထပ်အား စပ်ဆို၍ ဖြေသိမ့်ဟန်ရှိသည်ဟု ယူဆရ၏။

## သိကြားသာသနာနှင့် ပြည်မြန်မာ

စာရေးသူတို့ ငယ်ရွယ်စဉ်က –

"သာသနာနှစ်ထောင့်ငါးရာကျော်ရင် သိကြားသာသနာ ရောက်လိမ့်မယ်။ အဲဒီအခါ သိကြားမင်းက မကောင်းသူတွေကိုပယ်၊ ကောင်းသူတွေကို ကယ်လိမ့်မယ်"

ဟု လူကြီးများ ပြောဆိုသံ ကြားခဲ့ဖူး၏။

ယခုအခါမှာလည်း အချို့လူများက သိကြားသာသနာအကြောင်း မကြာခဏ မေးကြ၏။ ယခု အကြောင်းဆိုက်လာသဖြင့် ဤအကြောင်းကို တင်ပြပါဦးမည်။

သာသနာ ဆိုသည်မှာ ဘုရားရှင်၏ အဆုံးအမ တရားတော်များ ဖြစ်သည့်အတွက် သိကြားသာသနာ မရှိပါ။ ဘုရားသာသနာသာ ရှိပါသည်။ ကျွန်ုပ်တို့ ကိုးကွယ်နေသော ဂေါတမဘုရားရှင်၏ သာသနာတွင် သိကြားသာသနာ မရှိပါ။

ဘုရားရှင်၏ သာသနာတစ်ဝက် ကျော်တဲ့အခါ သို့မဟုတ် သာသနာနှစ် ၅၀၀၀ ကုန်ဆုံးသောအခါ သိကြားမင်းက သာသနာ ဆက်လက်ပြုမည်ဟု ထေရဝါဒပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့၌ လုံးဝ မတွေ့ဖူးဘူးပါ။ ရှိလည်း မရှိပါ။

သို့သော် ကဿပဘုရားရှင် သာသနာတော် ဆုတ်ယုတ်ချိန်တွင် သိကြားမင်း လူ့ပြည်ဆင်း၍ နောက်ထပ် နှစ်ပေါင်းတစ်ထောင် သာသနာတော်တည်အောင် ပြုလုပ် အားထုတ်ခဲ့ကြောင်းကိုမူ ဥဒ္ဒါသကနိပါတ်၊ မဟာကဏှဇာတ်၌ တွေ့ရှိရ၏။

ဤအကြောင်းအရာကိုပင်အစပြု၍ လူကြီးများ သိကြားသာသနာ အကြောင်းကို ပြောဆိုခဲ့ကြဟန် ရှိပါသည်။

အတန်ငယ် ရှင်းလင်း တင်ပြပါဦးမည်။

ကဿပဘုရားရှင် ပရိနိဗ္ဗာန် စံတော်ပြီးနောက် ကာလ အတော်

ကြာ၍ သာသနာတော် အဆုတ်ယုတ်ကြီး ဆုတ်ယုတ်လာသည့်အခါ ရဟန်းတော်များသည် မသင့်မတော်သော ပစ္စည်းရာနည်း(အနေသန) ၂၁ နည်းတို့ဖြင့် ပစ္စည်းရှာကာ အသက်မွေးဝမ်းကျောင်းပြုကြ၏။ လူများနှင့် ရောနှောဆက်ဆံမှု များလာကြ၏။ အချို့မှာ သားသမီးများပင် ရနေကြသတဲ့။ ရဟန်းမိန်းမများကလည်း ဤနည်းအတိုင်း ဖြစ်နေကြ၏။

ရဟန်း၊ ရဟန်းမ၊ ဥပါသကာ၊ ဥပါသိကာမများသာမက ပုဏ္ဏားတို့သည်ပင် မိမိတို့နှင့်ဆိုင်ရာ တရားများကို မကျင့်ကြံကြတော့။ အများအားဖြင့် လူသတ္တဝါများသည် အကုသိုလ် ဒုစရိုက်မှုတွေကိုသာ ပြုကျင့်ကြသဖြင့် အပါယ်ကျသူတွေများ၍ နတ်ပြည်၌ နတ်သစ် မရှိသလောက် နည်းပါးလျက်ရှိ၏။

ထိုအကြောင်းကို သိကြားမင်းကြီး သိရှိ၍ 'လူတွေကို ထိတ်လန့်ကြောက်ရွံ့အောင်လုပ်ပြီး ဆုတ်ယုတ်နေတဲ့သာသနာတော်ကို တစ်ဖန်အနှစ်တစ်ထောင်တည်အောင် ပြုလုပ်မယ်' ဟု ကြံစည်၏။

ထို့နောက် မာတလိနတ်သားကို ကြောက်မက်ဖွယ်ရာ ခွေးနက်ကြီးယောင်ဆောင်စေ၍ မိမိက မုဆိုးကြီးဟန် ဖန်ဆင်းလျက် လေးလက်နက်ကြီးကို စွဲကိုင်ထားသည်။ ခွေးနက်ကြီးကို ကြိုးငါးချောင်းဖြင့်ချည်ပြီး မုဆိုးကြီးက အဖျားမှ စုစည်းဆွဲကိုင်ထား၏။ ထို့နောက် –

"ကမ္ဘာလောကကြီး ပျက်စီးနေပြီပေါ့။

ကမ္ဘာလောကကြီး ပျက်စီးနေပြီပေါ့"

ဟု ကျယ်လောင်စွာ အသံနက်ကြီးဖြင့် ဟစ်အော်ကာ ဥသီနကမင်းစံရာ ဗာရာဏသီပြည်ဘက်သို့ ဆင်းသက်လာခဲ့ကြသည်။

ဤအသံကြီးသည် အထက်ဘဝဂ်၊ အောက်အဝီစိ စကြဝဠာဖီလာထုတ်ချင်း အကြွင်းမရှိ ပျံ့နှံ့သွားခဲ့သည်။

ဗာရာဏသီတစ်ပြည်လုံး အုန်းအုန်းကျွက်ကျွက်ဖြစ်ကာ ထိတ်လန့်ကြောက်ရွံ့နေကြသော်လည်း ဥသီနက ဘုရင်ကမူ မြို့သူမြို့သားတို့သက်သာရာရအောင် မကြောက်ဟန်ဆောင်၍ –

"အို–မုဆိုးကြီး၊ ဘာကြောင့် သင့်ခွေးကြီးက ဟောင်ပါသလဲ"

ဟုမေး၏။





"လူ့လောက၌ မတရားပြုကျင့်နေတဲ့ ရဟန်းရှင်လူ ခပ်သိမ်းသူတွေကို စားချင်လို့ ဟောင်တာပါ"

ဟု မုဆိုးကြီးကပြောပြီး လူအများ ထိတ်လန့်တကြား ဖြစ်နေစဉ်မှာပင် မုဆိုးအသွင်ကိုဖျောက်ကာ နတ်သိကြားအသွင်ဖြင့် ကောင်းကင်၌ ရပ်တည်နေ၏။ ထို့နောက် –

"မိမိမှာ သိကြားမင်းဖြစ်ကြောင်း၊ လူ့လောကကြီးတစ်ခုလုံး တရားပျက်လွန်းလို့ လာခဲ့ရကြောင်း၊ လူတွေသေတိုင်း နတ်ပြည်မရောက်ဘဲ အပါယ်အရောက်များကြောင်း"

တို့ကိုပြော၍ တစ်ဂါထာလျှင် အသပြာ တစ်ရာစီ ထိုက်တန်သဖြင့် ပါဠိလို သတာရဟာ မည်သည့် ဂါထာလေးဂါထာကို ဟောကြားပြီး မိမိနေရာ တာဝတိံသာသို့ မာတလိ နတ်သားနှင့်အတူ ပြန်သွားသတဲ့။

ထိုအခါကျမှ ရဟန်းများလည်း ကိုယ်ကျင့်တရားကို ပြုပြင်ကြသောကြောင့် ဆုတ်နစ်နေသော သာသနာတော်သည် အနှစ်တစ်ထောင်ခန့် ပြန်၍ တိုးတက်ကောင်းမွန်လာပြီးလျှင် လူအပေါင်းတို့ကလည်း ဒါန၊ သီလ စသော ကုသိုလ်ကောင်းမှုများ ပြုကြသဖြင့် နတ်ပြည်သို့ ရောက်ကြကုန်၏ဟု မဟာကဏှဇာတ်တော်ကို မြတ်စွာဘုရား ဟောကြားထားပေသည်။

ဤဇာတ်တော်ကို အကြောင်းပြု၍ သိကြားသာသနာ ရှိသေးသည်ဟု ပြောဆိုနေကြခြင်း ဖြစ်၏။

ဂေါတမဘုရားရှင်၏ သာသနာတော်ပိုင်း၌ ဤနည်းအတိုင်း သိကြားမင်းက 'သာသနာတော်ကို အာဏာဖြင့် ကူညီစောင့်ရှောက်ပါမည်' ဟု ဝန်ခံ ကတိပြုချက်သာရှိကြောင်း သိထားသင့်ကြပေသည်။

## ဘုရားလက်ထက်၌ သိကြားမင်းသာသနာပြုပုံ

ဗုဒ္ဓရှင်တော်မြတ်ဘုရားသည် ရာဇဂြိုဟ်မြို့အနီး ဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံးနေတော်မူချိန် ဖြစ်၏။ ထိုအချိန်တွင် အင်္ဂတိုင်းနှင့် မဂဓတိုင်းတိုင်းသူတိုင်းသား အများစုတို့သည် နှစ်စဉ် ကျင်းပလေ့ရှိသော မီးပူဇော်ပွဲကြီးကို ကျင်းပရန် စီစဉ်နေကြသည်။

သူတို့သည် လှည်းအစီး ၆၀ တိုက်လောက် ထင်းပုံကြီးကို ပထမတွင် စုပုံကြ၏။ အချိန်ကျလောက်သောအခါ မီးရှို့ကြ၏။ မီးတောက်မီးလျှံတို့ ထလာချိန်တွင် ယူဆောင်လာကြသည့် ထောပတ်၊ ပျား၊ တင်လဲ စသည်တို့ကို ထိုမီးပုံကြီးထဲသို့ လောင်းထည့်ကြ၏။

"မဟာဗြဟ္မာကြီးအား ပူဇော်ပါကုန်၏"

ဟုလည်း နှုတ်သံပေး၍ ဟစ်ကြွေးကြ၏။

တစ်ကြိမ်လောင်းထည့်သော ထောပတ် စသော လှူဖွယ်သည် အကျိုးတစ်ထောင်ကို ပေးစွမ်းနိုင်၏ ဟူ၍ စွဲလမ်းယူဆကြ၏။

ယခု တစ်ကြိမ်တွင်လည်း နှစ်စဉ်နှစ်တိုင်းကဲ့သို့ မီးပူဇော်ပွဲကြီးကို ကျင်းပရန် စီစဉ်နေကြခြင်း ဖြစ်သည်။

ထိုအကြောင်းကို သိကြားမင်းကြီး သိရှိသောအခါ သိကြားမင်းကြီးသည် ထိုလူတို့၏ အယူမှားကို ချေချွတ်၍ အချည်းနှီး ကုန်ကျမည့် ပစ္စည်းများကို ဘုရားရှင် သာသနာတော်ဘက်သို့ ဦးလှည့်လာခြင်းဖြင့် အကျိုးရှိရှိ ကုန်စေလိုသောဆန္ဒ ဖြစ်လာ၏။

ထို့ကြောင့် သူတို့ မီးပူဇော်ပွဲကျင်းပရန် စီစဉ်နေကြခိုက် မဟာဗြဟ္မာကြီးယောင်ဆောင်၍ သူတို့အထံသို့လာ၏။

ညဥ့်အချိန် လမင်းကြီး ထွက်လာချိန်တွင် လမင်းကြီးနှင့်အတူ လာဟန်ပြု၏။ ထို့နောက် လမင်းကြီးမှ ခွဲထွက်လာဟန်ဖြင့် သူတို့ထံသို့ လာခဲ့၏။

သူတို့၏ ထင်းပုံကြီးထိပ် အထက်ကောင်းကင်ဝယ်ရပ်ကာ -

"ဒီပူဇော်ဖွယ်တွေဟာ ဘယ်သူ့အတွက်လဲ" ဟု မေးလိုက်၏။

"အရှင်မဟာဗြဟ္မာကြီးအတွက် ဖြစ်ပါတယ်၊ အလှူခံတော်မူပါ"

ဟု ဝမ်းပန်းတသာ ဟစ်အော်ပြောဆိုကြသတဲ့။

ထိုအခါ မဟာဗြဟ္မာကြီးယောင်ဆောင်လာတဲ့ သိကြားမင်းက-

"ကဲ - ဒီလို ငါ့ကို ပူဇော်မယ်ဆိုရင် ငါ့နောက်သို့ ခေတ္တ လိုက်ခဲ့ကြ"

ဟုပြော၍ ပူဇော်မည့်သူ အားလုံးကို ဘုရားရှင် သီတင်းသုံးတော်မူရာ ဂိဇ္ဈကုဋ်တောင်သို့ ခေါ်လာခဲ့သည်။





ဘုရားရှင်ရှေ့တော်မှောက်သို့ ရောက်ကြသည့်အခါ သိကြားမင်းသည် ဘုရားရှင်ကို ရှိခိုး၍ -

"ရှင်တော်မြတ်ဘုရား၊ ကောင်းကျိုးကို လိုလား၍ ကောင်းမှုပြုသည့် အနေဖြင့် ပေးလှူပူဇော်ကြသည့် လူသားတို့အဖို့ အဘယ်၌ ပေးလှူပူဇော်ခြင်းသည် ကြီးကျယ် ဖွံ့ဖြိုးများမြတ်သော အကျိုးရှိပါသလဲ ဘုရား"

ဟု လျှောက်ထား၏။ ထိုအခါ မြတ်စွာဘုရားက -

"သီလ၊ သမာဓိ၊ ပညာနှင့်ပြည့်စုံ၍ ဖြောင့်မှန်သော အကျင့်ရှိသည့် အရိယာ သံဃာတော် ရှစ်ပါး၊ ရှစ်မျိုး ရှိ၏။ ကောင်းကျိုးကို လိုလား၍ ကောင်းမှုပြုသည့် အနေဖြင့် ပေးလှူပူဇော်ကြသည့် လူသားတို့အဖို့ ထို အရိယာ သံဃာတော်ရှစ်မျိုး၌ ပေးလှူ ပူဇော်ခြင်းသည် ကြီးကျယ်ဖွံ့ဖြိုးများမြတ်သောအကျိုး ရှိပေသည်"

ဟု ဟောကြားတော်မူရာ သိကြားမင်းနှင့်အတူ လိုက်ပါလာကြသော လူပရိသတ်ကြီးသည် တရားတော်ကို အလွန်နှစ်ခြိုက် သဘောကျကြ၍ ဘုရားအမှူးရှိသော သံဃာတော်များအားသာ လှူဖွယ်၊ ပူဇော်ဖွယ်တို့ကို ပေးလှူ ပူဇော်ကြလေတော့၏။

ထိုအခါမှစ၍ မီးပူဇော်မှုကို မပြုကြတော့ချေ။

ဤသို့ သိကြားမင်းကြီးသည် ဟိန္ဒူ ဗြာဟ္မဏဘာသာဝင်အချို့တို့ကို ဗုဒ္ဓဘာသာဝင်များဖြစ်အောင် သာသနာပြုခဲ့ဖူးကြောင်း သဂါထာဝဂ္ဂသံယုတ် ပါဠိတော် သက္ကသံယုတ်၊ ယဇမာနသုတ်၌ လေ့လာတွေ့ရှိရပေသည်။

## တောနေရသေ့များကိုပင် ရှိသေသည့် သိကြားမင်း

အခါတစ်ပါး၌ များစွာသော ရသေ့တို့သည် ဟိမဝန္တာတောကြီးထဲရှိ သစ်ရွက်မိုး ကျောင်းကလေးတို့၌ အသီးသီး သီတင်းသုံး နေထိုင်ကြသည်။ သီလ အလွန် စင်ကြယ်ကြ၏။ ကောင်းမြတ်သော ကိုယ်ကျင့်တရားနှင့် ပြည့်စုံကြ၏။

သိကြားမင်းနှင့် ဝေပစိတ္တိအသုရာနတ်မင်းကြီးတို့သည် တစ်ခါတစ်ရံ ခိုက်ရန်ဖြစ်၏။

စစ်တိုက်ကြသော်လည်း တစ်ခါတစ်ရံ အတူတကွ လှည့်လည် ခရီးသွားလေ့ရှိကြ၏။

မှန်၏။ ဝေပစိတ္တိ အသုရာနတ်မင်းကြီး၏သမီး သုဇာကို သိကြားမင်းကြီးက ယူထားသည့်အတွက် သူတို့နှစ်ဦးသည် သမက်နှင့် ယောက္ခမ တော်စပ်ကြသူများ ဖြစ်ကြသည်။

ယခု တစ်ကြိမ် ဝေပစိတ္တိအသုရာနတ်မင်းကြီးနှင့် သိကြားမင်းတို့ အတူ ခရီးလှည့်လည်ကြသည့်အခါ ထိုရသေ့များ သီတင်းသုံးရာဌာနသို့ ရောက်သွားကြ၏။

ထိုအခါ ဝေပစိတ္တိအသုရာနတ်မင်းကြီးသည် အထပ်ထပ်အလွှာလွှာ ရှိသော ဖိနပ်ကိုစီး၍ သန်လျက်ကို ပခုံး၌လွယ်ကာ ထီးကိုဆောင်းလျက် ခေါင်းရင်းတံခါးပေါက်ဖြင့် ကျောင်းသခ်မ်းထဲသို့ဝင်ရောက်၍ ရသေ့တို့ကို အရိုအသေမပြုဘဲ ကျော်ဖြတ်သွား၏။

နတ်တို့သေနင်း သိကြားမင်းကမူ ထိုသို့ မဟုတ်ဘဲ ဖိနပ်ကို ချွတ်၍ သန်လျက်ကို နောက်ပါနတ်သားထံ အပ်နှံကာ ထီးကို ရုပ်လျက် ထွက်ဝင်နေကျ ခြေရင်းဘက်တံခါးပေါက်ဖြင့်ပင် ကျောင်းသခ်မ်းထဲသို့ ဝင်၏။ ကျောင်းသခ်မ်းထဲ ရောက်သည့်အခါ၌လည်း လေအောက်တွင် နေကာ ထိုရသေ့တို့ကို လက်အုပ်ချီမိုး၍ ရပ်နေသတဲ့။

ထိုအခါ ရသေ့တို့က သိကြားမင်းကြီးအား –

"အို–သိကြားမင်း၊ အကျွန်ုပ်တို့သည် ရသေ့ပြုပြီး အကျင့်မြတ်ကို ကျင့်လာကြသည်မှာ အချိန်ကာလ ကြာညောင်းခဲ့ပြီ။ ထို့ကြောင့် အကျွန်ုပ်တို့ကိုယ်မှထွက်သော မကောင်းသောအနံ့တို့သည် လေအောက်၌နေသည့် သိကြားမင်းဘက်သို့ လေအားဖြင့် ရွေ့လျားလွင့်ပါးနေပါသည်။

နတ်တို့သေနင်း သိကြားမင်း၊ ဤလေအောက်အရပ်မှ ရှောင်ရှားပါ။ ကျွန်ုပ်တို့၏ကိုယ်မှ ထွက်သည့် အနံ့ကား မသန့်ရှင်း၊ မစင်ကြယ်၊ အညစ်အကြေး အသွယ်သွယ်တို့ဖြင့် ပြည့်နေပါသည်"

ဟု မိန့်ကြားကြ၏။

သိကြားမင်းကြီးက –

"အရှင်မြတ်တို့ဘုရား၊ ရသေ့ဝတ်ပြီး အကျင့်မြတ်ကို ကျင့်လာကြ





သည်မှာ အချိန်ကာလ ကြာညောင်းခဲ့ပြီဖြစ်သောကြောင့် အရှင်မြတ်တို့ ကိုယ်မှထွက်သော မကောင်းသောအနံ့တို့သည် လေအောက်၌နေသည့် တပည့်တော်ဘက်သို့ လေအားဖြင့် လွင့်ပါးရောက်ရှိလာစေကာမူ တပည့်တော် သည် အရှင်ဘုရားတို့၏ ကိုယ်နံ့အား ဆန်းကြယ်တင့်လန်း ပွင့်သည့်ပန်းကို ဦးခေါင်း၌ ပန်ဆင်ရန် လိုလားသကဲ့သို့ လိုလားပါကုန်၏။

မှန်လှပါ အရှင်ဘုရား၊ တပည့်တော်တို့ နတ်များမှာ သီလဖြူစင် သူတော်စင် အရှင်မြတ်တို့၏ ကိုယ်အနံ့တွင် စက်ဆုပ်ဖွယ်အသွင် မမှတ် ထင်ကြပါဘုရား"

ဟု ပြန်လည်လျှောက်ထားကြောင်းကို သက္ကသံယုတ်ပါဠိတော် အရညာယတနဣသိသုတ်၌ မြတ်စွာဘုရား ဟောကြားတော်မူထား၏။

ဓမ္မပဒအဋ္ဌကထာ၊ ခုဒ္ဒကပါဌအဋ္ဌကထာ စသော အဋ္ဌကထာကျမ်း များ၌ 'နတ်တို့မှာ လူသားတို့၏ ကိုယ်အနံ့များကို ယူဇနာတစ်ရာကပင် နံစော်လှကြ၏' ဟု မိန့်ဆိုထားသော်လည်း ဤသုတ်တော်တွင် ရှင်ရသေ့ များအား သိကြားမင်း လျှောက်ထားသည့် စကားအရဆိုသော် အကျင့် သီလနှင့် ပြည့်စုံကြသည့် သီလဖြူစင် လူသူတော်စင်တို့၏ ကိုယ်နံ့ကိုမူ နတ်သိကြားတို့ မစက်ဆုပ် မရွံရှာကြကြောင်း သိရှိရလေသည်။ အကျင့် ကောင်းသူ၊ သီလဖြူစင်သူ ဖြစ်ပါက သာသနာပရသေ့များကိုပင် သိကြား မင်းသည် အလွန် ရိုသေလေးစားကြောင်း တွေ့ရှိရပေသည်။

ထို့ကြောင့် **ကျေးဖူးရှင် လယ်တီ ဆရာတော်ဘုရားကြီးက စေတီ ရင်ပြင် ဖိနပ်စီးမှု အဆုံးအဖြတ်** ၌ ဤသက္ကသံယုတ် ပါဠိလာ ဒေသနာတော် မြတ်ကိုထောက်၍ –

'ယခုကဲ့သို့ လူပညာရှိအပေါင်း သူတော်ကောင်းတို့သည်လည်း စတုမဟာရာဇ်, တာဝတိံသာ နတ်ရွာ နှစ်ပြည်ထောင်လုံးကို အစိုးရတော်မူသော သိကြားမင်းကြီးသည်ပင်လျှင် သာသနာပ ဗာဟိရက ရသေ့တို့နေကြသော ကျောင်းတိုက်အရာမ်သို့ဝင်ရာ ဖိနပ်စီးခြင်း၊ ထီးဆောင်းခြင်း၊ လက်နက် အပါအဝင်ဖြစ်သော ဓားလှံ၊ သေနတ်၊ သန်လျက် စွဲကိုင်မှုများကို မပြုကောင်းဟု ကောင်းစွာသိထွေ ရှောင်ကြဉ်ပေသည်။

ငါကဲ့သို့သောသူသည် သဗ္ဗညုဘုရား၏ ဓာတ်တော်, မွေတော် ကိန်းဝပ်ရာ စေတီအရာမ်အတွင်း၊ ဘုရားတပည့်သား ရဟန်း သံဃာတော်တို့ ကိန်းဝပ်ရာ ကျောင်းတိုက်အရာမ်အတွင်းများ၌ ဖိနပ်စီးမှု၊ ထီးဆောင်းမှု၊ ခေါင်းမြီးခြုံမှု၊ လက်နက်မျိုးတွင် အပါအဝင်ဖြစ်ထိုက်သော ဓားလှံ၊ သေနတ် စွဲကိုင်မှုများကို မပြုထိုက်လှတော့သည်သာတည်း။

ပြုခဲ့မိချေသော် မလိမ်တမာ ညစ်ညမ်းစွာသော အသုရာ အသင်း အပင်းတွင် စာရင်းအပါအဝင် ဖြစ်ချေမည်ဟု နှလုံးပြု၍ လွတ်ကင်းအောင် ရှောင်ကြဉ်ကြကုန်ရာသည်'

ဟု ဆုံးဖြတ် ဩဝါဒပေးထားသည်ကို ဗုဒ္ဓဘာသာဝင်တို့ သတိ ထားနိုင်ရန် တင်ပြလိုက်ရပေသည်။

## ရတနသုတ်ပရိတ်တရားနှင့် သိကြားမင်း

အရှင်အာနန္ဒာ မထေရ်မြတ်သည် မြတ်စွာဘုရား သင်ကြားပေး သည့် ရတနသုတ် ပရိတ်တရားတော် ရွတ်ဆိုလျက် ဝေသာလီပြည်ကြီးကို လှည့်လည်ကာ ပရိတ်ရေစင်ရေပေါက်များကို ကြဲဖျန်းတော်မူနေစဉ် မင်းနှင့် တကွ ဝေသာလီ ပြည်သူပြည်သားတို့သည် မြို့တော်အလယ်ရှိ လွှတ်ရုံး ခန်းမဆောင်ကြီးကို အမျိုးမျိုးတန်ဆာဆင်ကာ ဘုရားရှင် သီတင်းသုံးရန် ဗုဒ္ဓါသန ဓမ္မပလ္လင်တော်ကြီးကို တည်ခင်းထားကြ၏။

ထို့နောက် ဘုရားရှင် သီတင်းသုံးတော်မူသောအခါ ရဟန်း သံဃာတော်များ၊ မင်းများနှင့် ပြည်သူပြည်သား အပေါင်းတို့သည် သင့်လျော်ရာ သင့်လျော်ရာ နေရာအသီးသီး၌ ထိုင်ကြ၏။

သိကြားမင်းကြီးသည်လည်း စတုမဟာရာဇ်နှင့် တာဝတိံသာ နတ်နှစ်ရွာမှ နတ်ပရိသတ်အပေါင်းနှင့် ချဉ်းကပ်လာ၏။ အခြားသော နတ်ဗြဟ္မာတို့သည်လည်း ချဉ်းကပ်လာကြ၏။

အရှင်အာနန္ဒာမထေရ်သည်လည်း ဝေသာလီပြည် တစ်ပြည်လုံး ကို လှည့်လည်တော်မူကာ ပရိတ် အရံအတားကို ပြုတော်မူပြီးလျှင် ဝေသာလီပြည်သူပြည်သားများနှင့်အတူ ကြွလာတော်မူ၍ သင့်လျော်ရာ





အရပ်၌ ထိုင်နေတော်မူ၏။

ထိုပရိသတ်အစည်းအဝေး၌ ရှင်တော်မြတ်ဘုရားသည် လူနတ် ဗြဟ္မာ သတ္တဝါ အားလုံးတို့အား အရှင်အာနန္ဒာအား သင်ကြားတော်မူခဲ့ သည့် ရတနသုတ်တော်ကိုပင် ဟောကြားတော်မူပါသည်။ ရတနသုတ္တန် ဒေသနာတော်အဆုံးတွင် လိစ္ဆဝီမင်းများနှင့်တကွ တိုင်းသူပြည်သားတို့အား ဘေးဥပဒ် အန္တရာယ်အသွယ်သွယ်တို့ ငြိမ်းအေး၍ ချမ်းသာရာရကြကုန်၏။ သတ္တဝါပေါင်း ရှစ်သောင်းလေးထောင်တို့ ကျွတ်တမ်းဝင်ကြသည်။

ထိုအခါ သိကြားမင်းကြီးက –

'ဘုရားကိုယ်တော်မြတ်ကြီးသည် ရတနာသုံးပါး၏ ကျေးဇူးဂုဏ် နှင့်စပ်သည့် သစ္စာစကားကို ဟောကြားတော်မူသဖြင့် ပြည်သူပြည်သား အပေါင်းတို့ ချမ်းသာသုခ ရကြကုန်ပြီ။ ငါလည်းပဲ ပြည်သူပြည်သားတို့ ချမ်းသာအောင် ရတနာသုံးပါးကျေးဇူးဂုဏ်နှင့်စပ်သည့် တစ်စုံတစ်ခုကို ရွတ်ဆိုသင့်၏'

ဟု ကြံစည်ကာ ယခု ရတနသုတ် ပရိတ်တော်၌ ပါရှိသော 'ယာနီဓ ဘူတာနိ' အစချီသည့် သုံးဂါထာတို့ကို ရွတ်ဆိုသတဲ့။

ဂါထာများ၏ အဓိပ္ပာယ်အတိုချုပ်မှာ –

'ဤအရပ်၌ စည်းဝေး ရောက်ရှိလာကြသည့် ဘုမ္မစိုးနတ်၊ အာကာသစိုးနတ် ဟူသော ငါတို့သည် နတ်လူအများ လေးစားပူဇော်ထိုက် သော တထာဂတ ဘွဲ့မည်ရသည့် ဘုရား၊ တရားနှင့် သံဃာတော်တို့ကို ရှိခိုးကြပါကုန်၏။ သတ္တဝါတွေ ချမ်းသာရကြပါစေသတည်း'ဟူ၍ဖြစ်၏။

ထို့ကြောင့် ရတနသုတ်လာ နောက်ဆုံး သုံးဂါထာသည် ဘုရား ဟောဂါထာများ မဟုတ်။ သိကြားမင်း ရတနာသုံးပါးကို ရှိခိုး၍ မေတ္တာပို့ သောဂါထာများ ဖြစ်ပေသည်။ သို့ရာတွင် ပထမသံဂါယနာတင်စဉ်ကပင် အရှင်အာနန္ဒာမထေရ်ကိုယ်တိုင် ရတနသုတ်တော်တွင် ထည့်သွင်းရွတ်ဆို ၍ သံဂါယနာတင်ခဲ့ခြင်း ဖြစ်ပေသည်။

ဘုရားဟောအစစ် ရတနသုတ်ဂါထာများကား 'ယာနီဓ ဘူတာနိ' အစချီသော ဂါထာမှ 'ခီဏံပုရာဏံ' အစချီသော ဂါထာအထိ ၁၅ ဂါထာ သာ ရှိပေသည်။

## သိကြားမင်းနှင့် သားပျင်းများ

တစ်ချိန်သောအခါက အသုရာတို့သည် တာဝတိံသာနတ်တို့နှင့် စစ်ထိုးရန် တာဝတိံသာနတ်ပြည်သို့ ရှေးရှုချီတက်ကြသည်။

ထိုအခါ သိကြားမင်းသည် သုဝီရနှင့် သုသိမ သားတော်တို့ကို–

"ချစ်သားတို့၊ ယခုအခါ အသုရာတို့သည် ငါတို့ကို စစ်ထိုးရန် ချီတက်လာကြပြီ။ ချစ်သားတို့ သွားကြချေ။ အသုရာတို့ကို တွန်းလှန်တုံ့ပြန်ရန် စစ်တပ်ဖြင့် ချီတက်ကြ" ဟု ခေါ်၍ ပြောသတဲ့။

သုဝီရနှင့် သုသိမတို့သည် –

"ကောင်းပါပြီ အရှင်ခမည်းတော်" ဟု ဝန်ခံကတိပြုကြသော်လည်း နန္ဒဝန်ဥယျာဉ် စသော ထိုထိုအရပ်တို့၌ နတ်သမီးများနှင့် ပျော်ပျော်ပါးပါး လှည့်လည် သွားလာနေကြသဖြင့် စစ်ချီတက်မှုကို မေ့လျော့နေကြသည်။ ခမည်းတော် သိကြားမင်းက သုံးကြိမ်တိုင်တိုင် စေခိုင်းသော်လည်း သုံးကြိမ်လုံးပင် မေ့လျော့နေကြသည်။

ထိုအခါ သိကြားမင်းကြီးက –

"ချစ်သားတို့၊ ထထကြွကြွလည်း မရှိဘဲ၊ လုံ့လကြိုးကုတ်အားထုတ်မှု ဝီရိယလည်း မရှိဘဲ ချစ်သားတို့ ခံစားစံစားနိုင်သည့် အရပ်ဌာနမျိုး အကယ်၍ ရှိခဲ့ပါမူ ထိုအရပ်ဒေသသို့ ကြွတော်မူကြပါ။ သင်တို့ဖခင် ငါ သိကြားအရှင်ကိုလည်း ထိုအရပ်ဒေသသို့ ပို့ပေးကြပါ"

ဟု မိန့်ကြားသည့်အခါ သားတော်များက –

"အို – ခမည်းတော်၊ အကြင်အရပ်၌ ပျင်းချင်တိုင်း ပျင်းနိုင်၏။ ထကြွလုံ့လ ဝီရိယလည်းရှိဖို့ မလို။ ကိစ္စကြီးငယ် အသွယ်သွယ်တို့ကိုလည်း မပြုဘဲ နေနိုင်၏။ အလိုရှိအပ်သော ကာမဂုဏ် အာရုံမျိုးစုံတို့နှင့်လည်း ပြည့်စုံ၏။ ထိုအရပ်မျိုးကို အပျင်းထိပ်ထား ကျွန်တော်များအား အမြန်ညွှန်ကြားပါ" ဟု လျှောက်ထား၏။ သိကြားမင်းက –

"ချစ်သားတို့၊ တစ်စုံတစ်ယောက်သောသူမျှ မည်သည့် အရပ်ဒေသ၌မဆို မည်သည့် အလုပ်ကိုမျှ မလုပ်ဘဲ အသက်မရှင်နိုင်၊ အသက်မွေးမှုမပြုနိုင်။ အကယ်၍ ထိုအရပ်မျိုးရှိခဲ့လျှင် နိဗ္ဗာန်ရကြောင်း နည်းလမ်းကောင်းရှိသည့် အရပ် ဖြစ်ရမည် (ဝါ) နိဗ္ဗာန်ပင် ဖြစ်ရမည်။





ထိုအရပ်သို့ သင်တို့ သွားနေကြပါချေ။ သင်တို့ဖခင် ငါသိကြားအရှင်ကိုလည်း ထိုအရပ်ဒေသသို့ ပို့ပေးကြပါ"

ဟု ပြန်လည် မိန့်ကြားသည်။

ဤသို့ ဘုရားရှင်သည် ရဟန်းများအား သုဝီရသုတ်နှင့် သုသိမသုတ်တို့ကို ဟောကြားတော်မူပြီးနောက် –

"သိကြားမင်းသည် ရှေးကောင်းမှုကံကြောင့် စားဝတ်နေရေးစည်းစိမ်ချမ်းသာများကို ကြောင့်ကြပူပန်မှု မရှိဘဲ အထက်တန်းကျကျ ခံစားစံစားနေရသည့်အပြင် တာဝတိံသာနတ်တို့အရှင်၊ အရှင်သခင်ကြီးဖြစ်နေပါလျက် ထကြွလုံ့လ ဝီရိယ၏ ဂုဏ်ကျေးဇူးများကို ဤကဲ့သို့ အလေးတမူ အရေးယူကာ ချီးကျူးပြောကြားနေတဲ့ဘိ၏။

ဤလူ့ဘုံ၌ ဖြစ်နေကြသည့် သင်တို့ အဖို့မှာ ငါဘုရား ကောင်းစွာ ဟောကြားလမ်းညွှန်ထားသည့် သာသနာတော်၌ ရောက်နေချိန်တွင် မရောက်သေး၊ မရသေး၊ မျက်မှောက် မပြုရသေးသော တရားထူးတရားမြတ်ကို ရောက်ရန်၊ ရရန်၊ မျက်မှောက်ပြုနိုင်ရန် လုံ့လကြိုးကုတ်၊ အားထုတ် ကြိုးစားခြင်းဖြင့် တင့်တယ် ကောင်းမြတ်အောင် ပြုလုပ်ကြကုန်လော"

ဟု ရဟန်းများအား ဆက်လက် ဟောကြားတော်မူထားသည်ကို သက္ကသံယုတ် ပါဠိတော်၌ တွေ့ရသည်။

ဤဘုရားဟော သုတ်တော်များတွင် မှတ်သားစရာအချက်မှာ ကံ၏အကျိုး၊ ဝီရိယ၏အကျိုး နှစ်မျိုးစလုံးဖြင့် အသက်မွေးနေကြရသည့် ပုညဖလူပဇီဝီ၊ ဥဋ္ဌာနဖလူပဇီဝီ ပုဂ္ဂိုလ်များဖြစ်ကြသော ကျွန်ုပ်တို့လူသားများသည် ရှေးအတိတ်ကံတစ်မျိုးတည်းကိုသာ အားကိုးပြုပြီး အသက်မွေးမြူ၍ မရကြ။

'ဥစ္စာဘောဂ ဇီဝိတနှင့် သုခပွားရန် ဤလူ့ထံ၌ ဉာဏ်ဝီရိယ ပယောဂတည်း' ဆိုသည့်အတိုင်း ဥစ္စာပစ္စည်း ပြည့်စုံရန်နှင့် သက်ရှည်ကျန်းမာရန်တို့အတွက် ဉာဏ်ဦးဆောင်သော ဝီရိယဖြင့် စွမ်းနိုင်သမျှ ကြိုးစား အားထုတ်ခြင်းဖြင့် ပယောဂသမ္ပတ္တိ ရှိကြရန်လည်း လိုသေးကြောင်း လူသားတိုင်း သတိထားကြရန် ဖြစ်သည်။

## သားမှူးနှင့် သိကြားထူး

ရှေးအခါက ဗာရာဏသီပြည်တွင် ဖခင် သူဌေးကြီး ကွယ်လွန်သွားသောအခါ ဘုရားလောင်းသည် သူဌေးဖြစ်လာခဲ့သည်။ ကုဋေလေးဆယ်ကြွယ်ဝ၍ အတွင်းအပ အသုံးအဆောင်ပစ္စည်းတို့နှင့် ပြည့်စုံ၏။ ဘုရားလောင်း သူဌေးကြီးသည် လှူဒါန်းပေးကမ်းမှု ဒါန စသော ကုသိုလ်ကောင်းမှုတို့ကို ဝါသနာပါ၏။

သူဌေးကြီးတွင် သားတစ်ယောက် ထွန်းကား၏။ ဘုရားလောင်း သူဌေးကြီး ကွယ်လွန်သောအခါ တာဝတိံသာနတ်ပြည်၌ သိကြားမင်းသွားဖြစ်သည်။ ကျန်ရစ်သူ သူဌေးကြီး၏ တစ်ဦးတည်းသောသားမှာ ကုဋေလေးဆယ် အမွေရလိုက်သော်လည်း အသောက်အစား အပျော်အပါး အလွန်များသူ ဖြစ်၏။

မဏ္ဍပ်ကြီးကိုပင် ဆောက်လုပ်ကာ သူငယ်ချင်း အပေါင်းအသင်းများနှင့် တစ်ချိန်လုံး အရက်သေစာများ သောက်စားမူးယစ်နေ၏။ သူတို့၏ အရက်သောက်ပွဲကြီးတွင် အကအခုန်၊ အတီးအမှုတ်များလည်း ပါ၏။ သူဌေးသားက အဆိုအက အတီးအမှုတ်တော်သူများကို ငွေအသပြာ တစ်ထောင်စီ ဆုချ၏။

ဤကား တစ်နေ့ မဟုတ်။ နေ့စဉ်နေ့တိုင်းပင် မူးယစ်သောက်စား ပျော်ပါးနေ၏။ ထို့ကြောင့် နောက်ဆုံးတွင် ရှိသမျှ ကုဋေလေးဆယ်နှင့် အတူ အတွင်းပစ္စည်းဥစ္စာများ အားလုံး ကုန်ဆုံးပျက်စီးသွားရာ ခွက်လက်စွဲ တောင်းစားရသည့်ဘဝသို့ ရောက်ရ၏။

ဘုရားလောင်း သိကြားမင်းကြီးက သူ့သား ဆင်းရဲနေကြောင်းကို သိရှိသဖြင့် သူ့သားထံလာကာ လိုတိုင်းရသည့် ကုဏ္ဍာသယ မြေအိုးကလေး တစ်လုံးကို သူ့သားအား ပေး၏။

"ဒီအိုး မကွဲသမျှ ပစ္စည်း မကုန်နိုင်ဘူး၊ သတိထားပြီး ဒီအိုးကို မကွဲသွားအောင်ထိန်း" ဟုလည်း မှာကြားသွား၏။

ထိုအခါမှစ၍ အရက် ပြန်သောက်ပြီး ဖြုန်းတီးပြန်တော့ရာ တစ်နေ့တွင် အရက်မူးမူးနှင့် အိုးကလေးကို မြှောက်မြှောက်ဖမ်းနေရင်း လွတ်ကျကာ အိုးကွဲသွားလေတော့၏။





ထိုအချိန်မှစပြီး သူတောင်းစားဘဝ ပြန်ရောက်သွားကာ သူများအိမ်နံရံကိုမှီလျက် ကိုးကွယ်ရာမဲ့ သေဆုံးသွားရရှာလေသည်။

ဤဝတ္ထု၌ မှတ်သားစရာကား အရက်သေစာ သောက်စားမှု၏ ဆိုးကျိုးများ ဖြစ်၏။

သေရည်သေရက် သောက်စားမူးယစ်မှုသည် ဥစ္စာပစ္စည်းများ ဆုတ်ယုတ်ပျက်စီးရုံမျှမဟုတ် ရန်များခြင်း၊ ရောဂါများခြင်း စသည်ဖြင့် လက်ရှိဘဝမှာပင် ဆိုးကျိုးများကို ခံစားရ၏။ မျက်မှောက်ဘဝ အရက်သမားလောကကို ကြည့်လျှင်လည်း ဤအတိုင်း တွေ့နေရ၏။

ဖခင် သိကြားမင်းကြီး ကိုယ်တိုင်လာပြီး မ,စသော်လည်း အရက်ကြောင့်ပင် မ,စ၍ မရ၊ သူတောင်းစားဘဝဖြင့် ဘဝဇာတ်သိမ်းသွားရ၏။ အိပ်မှု၊ အရက်သောက်မှု၊ မေထုန်မှု သုံးမျိုးကား မှီဝဲ၍ မတင်းတိမ်၊ မရောင့်ရဲနိုင်သည့်အရာသုံးမျိုး ဖြစ်သည်ဟု ဘုရားဟောထား၏။

အချို့ ရောဂါအခြေမလှ၍ ဆရာဝန်က အရက်ဖြတ်ရန် ညွှန်ကြားသော်လည်း မဖြတ်နိုင်ဘဲ အသက်နှင့်လဲ၍ သေသည်အထိ စွဲသွားသည်မှာ ရသတဏှာ၏ ဆိုးဝါးပုံ ဖြစ်၏။

ထို့ကြောင့် အစရှိ အနှောင်နှောင် ဖြစ်တတ်သည့် အရက်ကို အစမလုပ်မိအောင် ရှောင်ကြဉ်ကြရမည် ဖြစ်၏။

## ရောဟိနီမိဖုရားနှင့် နတ်သိကြား

သိကြားမင်း၌ အခြွေအရံ ကချေသည်ပေါင်း နှစ်ကုဋေငါးသန်း ရှိ၍ မိဖုရားကြီး ၁၆၀၀ ရှိကြောင်း ဝိမာနဝတ္ထု အဋ္ဌကထာ၌ ဖွင့်ဆိုထား၏။

ထိုမိဖုရားများတွင် ရောဟိနီမိဖုရားကြီးသည် သိကြားမင်းအပေါ် အတော် ဩဇာညောင်းပုံရသည်။ သိကြားမင်းကြီးမှာ မိဖုရားဖြစ်သူ ရောဟိနီနတ်သမီး၏စကားကို မပယ်ရှားဝံ့ကြောင်း မိန့်ဆိုထားပုံကို ဓမ္မပဒ အဋ္ဌကထာ၌ တွေ့ရ၏။

ထင်ရှားစေဦးအံ့။

တစ်ချိန်က အရှင်အနုရုဒ္ဓါ မထေရ်သည် ရဟန်းငါးပါးနှင့်အတူ ကပိလဝတ်ပြည်သို့ ကြွလာ၏။

အရှင်အနုရုဒ္ဓါ၏နှမငယ် ရောဟိနီမင်းသမီးမှတစ်ပါး အခြားဆွေတော်မျိုးတော်များ မထေရ်မြတ်ထံ ရောက်လာကြ၏။ မထေရ်မြတ်က နှမငယ်ကိုမမြင်၍ မေးမြန်းရာ အရေပြားရောဂါစွဲကပ်နေ၍ မလာရောက်ကြောင်း လျှောက်ထားကြ၏။

ထိုအခါ မထေရ်မြတ်က နှမငယ် ရောဟိနီကိုခေါ်စေပြီး ဆွမ်းစားကျောင်း ဆောက်လုပ်လှူဒါန်းရန် မိန့်ကြား၏။

ရောဟိနီသည် မထေရ်မြတ် အမိန့်ရှိသည့်အတိုင်း ဘုံခုနစ်ဆင့်ရှိသော ဆွမ်းစားကျောင်းကို ဆောက်လုပ်စေ၍ အထက်၌ ပျဉ်ချပ်တို့ကို စီခင်းချိန်မှစ၍ အောက်ထပ်၌ မိမိကိုယ်တိုင် တံမြက်လှည်းခြင်း စသော ဝေယျာဝစ္စတို့ကို ပြုလုပ်၏။

ဆွမ်းစားကျောင်းအောက်ထပ်သို့ အမြဲ တံမြက်လှည်းစဉ်၌ပင် ရောဟိနီ၏ ကိုယ်ရေပြားရောဂါမှာ တဖြည်းဖြည်း ညှိုးနွမ်းသွား၏။

ဆွမ်းစားကျောင်းပြီးသွားသည့်အခါ ဘုရားအမှူးရှိသော သံဃာတော်များအား ဆွမ်းကပ်၏။

ထိုဆွမ်းကပ်လှူပွဲသို့ ဆွမ်းစားကျောင်းအမ ရောဟိနီမင်းသမီး မရောက်လာခဲ့ချေ။

ဘုရားရှင်က ဆွမ်းအလှူရှင်ကို မေးမြန်းတော်မူပြီး ရောဟိနီအား ခေါ်တော်မူစေသည်။

ရောဟိနီ ရောက်လာသည့်အခါ ခုလို ကိုယ်အရေပြားရောဂါစွဲကပ်ရသည့် အတိတ်ဇာတ်ကြောင်းကို ဤသို့ ဟောကြားတော်မူပါသည်။

ရောဟိနီသည် တစ်ခုသောဘဝ၌ ဗာရာဏသီမင်း၏ လက်ယာစံမိဖုရားကြီး ဖြစ်ခဲ့ဖူးသည်။

သူမသည် ဘုရင်မင်းမြတ် နှစ်သက်မြတ်နိုးနေသည့် ကချေသည်မိန်းမငယ်အား မနာလိုဖြစ်ကာ ရန်ငြိုးထား၏။

ထို့ကြောင့် ကချေသည်မ၏ အိပ်ရာ၊ အပေါ်ရုံနှင့် ကော်ဇောစသည်တို့ကြားမှာ ခွေးလေးယားသီးမှုန့်တို့ကို တိတ်တဆိတ် ဖြူးထား၏။

ထိုကချေသည်မကိုလည်း သူ့ထံခေါ်၍ ပြောင်လှောင်သည့်အနေဖြင့် ထိုအမှုန့်များကို ကချေသည်မအပေါ် ကြဲချ၏။





မကြာမီပင် ကချေသည်မ၏ကိုယ်သည် ပူလောင်ဖူးရောင်ပြီး အပိမ့်ပိမ့် ထလာ၏။ ကချေသည်မမှာ ယားယံလှသဖြင့် အိပ်ရာပေါ်သို့ သွားအိပ်ရာ ပိုယားယံသော ဝေဒနာကို ခံစားရ၏။

ဤမကောင်းမှုကြောင့် ယခု ရောဟိနီဘဝတွင် အရေပြားရောဂါစွဲကပ်ခြင်း ဖြစ်သည်။ မနာလိုမှု ဣဿာ၊ ရန်ငြိုး အမျက်ထားမှု ကောဓတရားကို ပယ်ရှားရမည် စသည်ဖြင့် မြတ်စွာဘုရားဟောတော်မူရာ တရားတော်အဆုံး၌ ရောဟိနီမင်းသမီးနှင့်အတူ များစွာသောသူတို့ သောတာပန်တည်သွားကြ၏။

ထိုအခါတွင် ရောဟိနီမင်းသမီး၏ကိုယ်သည် ရောဂါကင်း၍ ရွှေအဆင်းကဲ့သို့ ဝါဝင်းတောက်ပလာ၏။

ထိုမင်းသမီး ကွယ်လွန်သောအခါ တာဝတိံသာ နတ်ပြည်တွင် နတ်သားလေးယောက်တို့၏ ပိုင်နက်အကြား၌ အလှထိပ်တင် အလှဘုရင်လို့ စံတင်ရမည့် နတ်သမီး သွားဖြစ်၏။

နတ်သားလေးယောက်တို့သည် သူပိုင် ငါပိုင် အပြိုင်အဆိုင် ငြင်းခုံကြပြီး သိကြားမင်းထံ သွားရောက် အဆုံးအဖြတ်ခံကြ၏။

သိကြားမင်းလည်း ထိုနတ်သမီးကို မြင်ရသည့်အခါ အလွန်နှစ်သက် သဘောကျသွားပြီး –

“အမောင်တို့၊ ဒီနတ်သမီးနှင့် မရလျှင် စိတ်ရောဂါသာ ဖြစ်ကြမယ်၊ သင်တို့စိတ်ကို နိုပ်ကွပ်ဆုံးမရင် ရနိုင်ပါတယ်။ ငါ့မှာတော့ ဒီနတ်သမီးကိုရမှ အသက်ရှည်မယ်။ မရရင် အခုပင် သေလိမ့်မယ်”

ဟု ပြောကြားရာ နတ်သား လေးယောက်လုံး နတ်သမီးကို သိကြားမင်းကြီးအား ပေးအပ်လိုက်ရလေသည်။

သိကြားမင်းကြီးသည် နတ်သားလေးယောက်ထံမှ ခဲခဲယဉ်းယဉ်း ရခဲ့ရသည့် ရောဟိနီနတ်သမီးကို အလွန် ချစ်မြတ်နိုး၏။ အလိုလည်းလိုက်၏။ ရောဟိနီနတ်သမီးက ဤကဲ့သို့သော ကစားပျော်မြူးခြင်းကို သွားရောက်ပျော်ပါး ကစားလိုသည်ဟု ပြောဆိုလျှင် သိကြားမင်းသည် ထိုရောဟိနီ နတ်သမီး၏စကားကို မပယ်ရှားဝံ့၊ မပယ်ရှားနိုင်၊ သူမ အလိုအတိုင်း လိုက်ပါရသည်ဟု ဆိုပေသည်။

## သိကြားမင်းနှင့် လူ့ပြည်လောက

သိကြားမင်းကြီးသည် လူပေါင်းတစ်ထောင်တို့ ကြံစည်အပ်သော အကျိုးစီးပွား အကြောင်းအရာများကို တစ်ခဏချင်း မြင်နိုင်စွမ်းသော ပညာမျက်စိရှိသည်။ တစ်ထောင်သော အကြောင်းအရာတို့ကို တစ်ခဏချင်း ကြံစည် စဉ်းစား၍ အဆုံးအဖြတ်ပေးနိုင်သည်။

တစ်နည်းအားဖြင့် မျက်စိတစ်ထောင်ရှိသော နတ်သားတို့၏ မြင်ရာအရပ်ကို ကျော်လွန်၍ မြင်နိုင်စွမ်းသောမျက်စိ ရှိသည်။

ထို့ကြောင့် သိကြားမင်းကြီးကို သဟဿက္ခဟု လည်းကောင်း၊ သဟဿနေတ္တဟု လည်းကောင်း ခေါ်ဝေါ်ကြ၏။

(သဟဿ-တစ်ထောင်သော+ယက္ခ=နေတ္တ=မျက်စိအမြင်ရှိသူ။)

ထို့ကြောင့် သိကြားမင်းသည် -

'ဤလူ့ပြည်လောက၌ မည်သူတို့သည် မိဘနှစ်ပါးကို လုပ်ကျွေးပြုစုကြသနည်း။ စောင့်ရှောက်ကြသနည်း။ အသက်ကြီးသူများကို ရိုသေလေးစားကြသနည်း။ အလှူဒါန ပြုကြသနည်း။ ဥပုသ်သီလ စောင့်ထိန်းကြသနည်း။ မည်သူတို့သည် ရဟန်းပြုပြီး တရားကို အားထုတ်နေကြသနည်း။ မည်သူတို့သည် မကောင်းမှုများကို ပြုကျင့်နေကြသနည်း'

စသည်ဖြင့် ရံဖန်ရံခါ ဤလူ့ပြည်လောကကို ကြည့်လေ့ရှိပေသည်။

## သိကြားမင်း ရှိခိုးရသောလူများ

သိကြားမင်းသည် ဉယျာဉ်တော်သို့ထွက်ရန် မာတလိနတ်သား ပြင်ဆင်ထားသည့် ရထားပေါ်သို့ မတက်မီ ဝေဇယန္တာပြာသာဒ်မှအဆင်း၌ အရပ်မျက်နှာတို့ကို ရှိခိုးလေ့ရှိ၏။ ထိုသို့ ရှိခိုးပုံကို မာတလိမြင်၍ မည်သူ့ကို ရှိခိုးပါသနည်းဟု မေးသည့်အခါ သိကြားမင်းက -

"လူ့ပြည်၌ -

(၁) ကုသိုလ်ကောင်းမှုပြုလေ့ရှိခြင်း၊

(၂) လူတို့ဆိုင်ရာ သီလနှင့် ပြည့်စုံခြင်း၊

(၃) ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ခြင်း၊

(၄) တရားသောနည်းလမ်းဖြင့် သားမယားကို လုပ်ကျွေးခြင်း





ဟူသော ကျင့်ဝတ်လေးပါးနှင့် ပြည့်စုံသော လူသူတော်စင်များ ရှိကြ၏။ ထိုသူများကို ငါရှိခိုးခြင်းဖြစ်သည်ဟု ပြန်လည် မိန့်ကြားသည်ကို သံယုတ်ပါဠိတော် ဂဟဋ္ဌဝန္ဒနာသုတ်၌ တွေ့ရ၏။

သိကြားမင်းသည် ရထားပေါ်သို့ မတက်မီ ဝေဇယန္တာပြာသာဒ်မှ အဆင်း၌ ဘုရားရှင်နှင့် အရိယာသံဃာတော်၊ ပုထုဇဉ် သီလဝန္တ သံဃာတော်များကိုလည်း ရှိခိုးသေးကြောင်း သတ္ထာရဝန္ဒနာသုတ်၊ သံဃဝန္ဒနာသုတ်တို့၌ မြတ်စွာဘုရား ဟောကြားထားပေသည်။

❑

# ဝိသကြုံနတ်သား

ဝိသကြုံနတ်သားမှာ သိကြားမင်းကြီး လက်စွဲတော် နတ်သားကြီး ဖြစ်သည်။ သိကြားမင်းကြီး မာဃလုလင်ဘဝမှာ ခရီးသွား ဧည့်သည်များ တည်းခိုနေထိုင်ရန် သုဓမ္မာဇရပ်ကြီးကို ဆောက်လုပ်ရာတွင် ခေါင်းဆောင် လက်သမားဆရာကြီးမှ ဖြစ်လာသော နတ်သားကြီး ဖြစ်သည်။

လူ့ဘဝတွင် လက်သမားအတတ်ကို ကျွမ်းကျင်လာသူဖြစ်၍ နတ်သားဘဝတွင်လည်း အဆောက်အအုံများ ဆောက်လုပ်ရသူ ဖြစ်သည်။

ထို့ကြောင့် ထိုနတ်သားကြီးကို ပါဠိလို သိသုကမ္မဒေဝပုတ္တ ဟူ၍ လည်းကောင်း၊ သိဿကမ္မဒေဝပုတ္တ ဟူ၍ လည်းကောင်း ခေါ်ပေသည်။ ထိုပါဠိများမှ မြန်မာလို ဝိသကြုံနတ်သားဟု ဖြစ်လာခြင်း ဖြစ်သည်။ အဆောက်အအုံများကို ထူးခြားကောင်းမွန်စွာ ဖန်ဆင်း ပြုလုပ်ပေးနိုင်သော နတ်သားဟု အဓိပ္ပာယ်ရသည်။

အမှန်ဆိုရသော် ဝိသကြုံ နတ်သားသည် သိကြားမင်းကြီး၏ စေခိုင်းသည့်အတိုင်း အဆောက်အအုံများကို ဖန်ဆင်းဆောက်လုပ်ပေး ရသည့် လက်သမားဆရာ ဗိသုကာနတ်သားကြီး ဖြစ်သည်။

ဗိသုကာဟူသော မြန်မာဝေါဟာရသည်လည်း ဝိသုကမ္မဟူသော ပါဠိဝေါဟာရမှ ဆင်းသက်လာရသော ဝေါဟာရ ဖြစ်သည်။ ပါဠိသဒ္ဒါ၌ ဝ နှင့် ဗ သည် အပြောင်းအလဲရှိသည်။

(ဝိသုကမ္မ=ဗိသုကမ္မ=ဆောက်လုပ်မှုဆိုင်ရာပညာ ကျွမ်းကျင် သော လက်သမားဆရာ)





## ဝိသကြုံနတ်သားနှင့် ဘုရားလောင်းရသေ့

ဒီပင်္ကရာဘုရားရှင် လက်ထက်တော်၌ ကျွန်ုပ်တို့ ဂေါတမ ဘုရား လောင်းတော် သုမေဓာသူဌေးသားသည် ရှိသမျှပစ္စည်းတို့ကို အလှူကြီး ပေးတော်မူပြီးသည့်အခါ ရသေ့ပြုတော်မူရန် ဟိမဝန္တာသို့ ရှေးရှု တောထွက် တော်မူခဲ့၏။

ထိုအကြောင်းကို သိကြားမင်းကြီး သိမြင်လေလျှင် ဝိသကြုံ နတ်သားကိုခေါ်ကာ –

"အမောင် ဝိသကြုံ သွားပါချေ၊ သုမေဓာ ပညာရှိဟာ ရသေ့ပြုဖို့ တောထွက်လာပြီ၊ သူ နေထိုင်ဖို့ရာ ကျောင်းသင်္ခမ်းကို ဖန်ဆင်းပေးပါ"

ဟု စေခိုင်းသည်။

ဝိသကြုံ နတ်သားသည် –

"ကောင်းပါပြီ"

ဟု ဝန်ခံစကား ပြောကြားပြီး ပျော်မွေ့ဖွယ်ကောင်းသော ကျောင်း သင်္ခမ်းအရာမ်ကို လည်းကောင်း၊ ထိုအရာမ်အတွင်း၌ လုံခြုံသော သစ်ရွက်မိုး ကျောင်းဇရပ်ကို လည်းကောင်း၊ အပြစ်ကင်းသော စင်္ကြံကျောင်းကို လည်းကောင်း ဖန်ဆင်းထားနှင့်ပေသည်။

စင်္ကြံကျောင်းမှာ မြေကြမ်းတမ်း၍ မညီညွတ်ခြင်း စသော အပြစ် ငါးမျိုးလွတ်၍ အလျား အတောင်ခြောက်ဆယ်၊ ဝဲယာနှစ်ဖက်တွင် တစ် တောင်စီ အနံ့ရှိသော စင်္ကြံမြောင်နှစ်ခုတို့ရဲ့လျက် အနံတစ်တောင့်ထွာရှိ စင်္ကြံမကြီး ဖြစ်သည်။

ညီညွတ်သော မြေပြင်ပေါ်တွင် သဲဖြူ ခင်းထား၏။

စင်္ကြံ၏ အစွန်းနှစ်ဖက်ထိပ်တို့၌ မှီစရာ တံကဲပျဉ်ချပ်ကို စီမံထား ၍ စင်္ကြံ၏အလယ် အလောင်းတော် ထိုင်စရာအတွက် ချောညက်သန့်ရှင်း ညီညွတ်သော အပြင်ရှိသည့် ပဲနောက်စိမ်းရောင် ကျောက်ပြားကို ခင်းထား ပေးသည်။

ကျောင်းသင်္ခမ်း အရာမ်မှာလည်း ရဟန်းတို့၏ ချမ်းသာခြင်း ရှစ်မျိုးကို ပေးစွမ်းနိုင်သည့်အပြင် အဘိညာဉ်သမာပတ်တို့ကို မပင်မပန်း ဖြစ်စေနိုင်၊ ဝိပဿနာခွန်အားကို ရွက်ဆောင်စေနိုင်သောအရာမ်မျိုးဖြစ်၏။

ထိုကျောင်းသင်္ခမ်း အရာမ်အတွင်း၌ ကျောင်းဆောင်၊ လိုဏ်ဂူ၊ စင်္ကြံ စသော အဆောက်အအုံတို့ဖြင့် တန်ဆာဆင်ထားသည့်အပြင် သီးပင်၊ ပွင့်ပင် အပင်အမျိုးမျိုးတို့နှင့် အေးမြသောရေရှိသည့် ရေတွင်းရေကန်တို့ကိုပါ ပြည့်ပြည့်စုံစုံ ဖန်ဆင်းထား၏။

သစ်ရွက်မိုး ကျောင်းအတွင်း၌လည်း ဆံကျစ်ဝန်း၊ လျှော်တေ သင်္ကန်း၊ သစ်သားသုံးခွ၊ ရေကရား စသော ရသေ့အသုံးအဆောင်တို့ကိုလည်းကောင်း၊

နေ့လယ်နေ့ခင်း နေထိုင်ရာမဏ္ဍပ်၌ သောက်ရေအိုး၊ သောက်ရေခွက်တို့ကို လည်းကောင်း၊

မီးတင်းကုပ်၊ မီးအိုးကင်း၊ ထင်း စသည်တို့ကို လည်းကောင်း ဖန်ဆင်းပေးထားသည်။

ဤကဲ့သို့ ရသေ့များနှင့် သက်ဆိုင်သော အသုံးအဆောင်ပစ္စည်းတို့ကို ဖန်ဆင်းပြီးလျှင် သစ်ရွက်မိုး ဇရပ်အတွင်း နံရံ၌ –

'မည်သူမဆို ရှင်ရဟန်းပြုလိုက ဤအသုံးအဆောင်တို့ကိုယူ၍ ရသေ့ရဟန်းပြုကြကုန်လော့'

ဟု အက္ခရာစာတန်း ရေးသား၍ ဝိသကြုံနတ်သား နတ်ပြည်သို့ ပြန်သွားလေ၏။

ဤသို့ အကြောင်းကိစ္စ ပေါ်လာသည့်အခါ သိကြားမင်း စေခိုင်းသည့်အတိုင်း ဆောက်လုပ်မှုဆိုင်ရာများကို ပြုလုပ်ပေးရ၏။

## မင်္ဂလာရေကန်တော် ဖန်ဆင်းပေးခြင်း

ကျွန်ုပ်တို့ ဂေါတမဘုရားအလောင်း ခုနစ်နှစ်သားအရွယ် ရောက်သောအခါ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးသည် သားတော် ရေကစားရန်အတွက် မင်္ဂလာရေကန်တော်တူးရန် စီမံ၏။

ဤအကြောင်းကို သိကြားမင်းသိ၍ အလောင်းတော်မင်းသား ရေကစားရန် ကန်တော်သည် နတ်တို့ စီမံသည့်ကန်သာဖြစ်သင့်သည်ဟု ကြံပြီး လက်စွဲတော်ကြီး ဝိသကြုံနတ်သားကိုခေါ်ကာ မင်္ဂလာရေကန်တော်ကို ဖန်ဆင်းခိုင်းလိုက်သည်။





ဝိသကြုံနတ်သားသည် သုဒ္ဓေါဒနမင်းကြီး မင်္ဂလာရေကန်တော် တူးရန် သတ်မှတ်ရွေးချယ်သည့်အရပ်၌ပင် ရွှံ့ညွန်ပယ်ရှား၍ ပတ္တမြား၊ ပုလဲ၊ သန္တာတို့ကို ဖြန့်ကြဲပြီးလျှင် ရတနာခုနစ်ပါးဖြင့်ပြီးသော တံတိုင်းဖြင့် မင်္ဂလာရေကန်တော်ကို ဝန်းပတ် ကာရံထား၏။

ရေကန်ထဲသို့ သက်ဆင်းသည့် စောင်းတန်းလှေကားတို့သည် ရွှေပျဉ်ချပ်၊ ငွေပျဉ်ချပ်၊ ပတ္တမြားပျဉ်ချပ်တို့ဖြင့် ခင်းထား၍ ပတ္တမြား လက်ကိုင်တန်းတို့၏ထိပ်၌ သန္တာအဖူးပ် အထွတ်တပ်ထား၏။

ထိုနတ်ရေကန်၌ အလောင်းတော်မင်းသားလေး ရေကစားတော်မူရန် ငွေပလ္လင်ခင်းထားသော ရွှေလှေ၊ ရွှေပလ္လင် ခင်းထားသော ငွေလှေ၊ သန္တာပလ္လင်ခင်းထားသော ပတ္တမြားလှေ၊ ပတ္တမြားပလ္လင်ခင်းထားသော သန္တာလှေတို့နှင့် ရွှေရေပက်ခွက်၊ ငွေရေပက်ခွက်၊ ပတ္တမြားရေပက်ခွက်၊ သန္တာရေပက်ခွက်များကို ဖန်ဆင်းထား၍ ကြာမျိုးငါးပါးနှင့် ဖုံးလွှမ်းတင့်တယ်သော မင်္ဂလာရေကန်တော်ကြီး ဖြစ်ပေသည်။

## ရွှေပြာသာဒ်ငါးရာ စသည် ဖန်ဆင်းပေးခြင်း

မြတ်စွာဘုရား၏ လက်ယာတော်ရံ အဂ္ဂသာဝက ပညာအရာ ဧတဒဂ် ရတော်မူသည့် သာရိပုတ္တရာ မထေရ်မြတ်ကြီး၏ ဈာပနသဘင် ဆင်ယင် ကျင်းပရန်အတွက် သိကြားမင်းကြီးသည် ဝိသကြုံနတ်သားကို ခေါ်၍ –

"အမောင် ဝိသကြုံ၊ ဓမ္မသေနာပတိ သာရိပုတ္တရာ မထေရ်မြတ်ကြီးသည် ပရိနိဗ္ဗာန် စံဝင်တော်မူခဲ့လေပြီ။ ဈာပနသဘင် ဆင်ယင် ကျင်းပရန်အတွက် ရွှေပြာသာဒ်ငါးရာနှင့် ရွှေမုခ်ဦး တဲနန်းမဏ္ဍပ်ငါးရာတို့ကို သွား၍ ဖန်ဆင်းပေးလော့" ဟု အမိန့်ပေး၏။

ဝိသကြုံနတ်သားသည် သိကြားမင်း အမိန့်ပေးသည့်အတိုင်း တစ်ခဏချင်းပင် ဖန်ဆင်းပေး၏။

ဤသို့ဖြင့် မထေရ်မြတ်၏ ဈာပနသဘင်ကျင်းပရာ၌ မယ်တော်ကြီးက ပြုလုပ်ပူဇော်သော ရွှေပြာသာဒ်ငါးရာ၊ ရွှေမုခ်ဦး တဲနန်းမဏ္ဍပ်ငါးရာ၊ ဝိသကြုံနတ်သား ဖန်ဆင်းပူဇော်သော ရွှေပြာသာဒ်ငါးရာ၊

ရွှေတဲနန်းမဏ္ဍပ်ငါးရာအားဖြင့် ရွှေပြာသာဒ်နှင့် ရွှေမဏ္ဍပ်ပေါင်း နှစ်ထောင်ဖြစ်သည်။

ဤကဲ့သို့ ဝိသကြုံ နတ်သားသည် လူ့ဘဝတွင် လက်သမားဗိသုကာဆရာကြီး ဖြစ်ခဲ့သည့်အလျောက် အဆောက်အအုံ ဖန်ဆင်း ပြုလုပ်ပေးရန်အကြောင်း ပေါ်ပေါက်လာသောအခါ သိကြားမင်း၏ အမိန့်အတိုင်း ဖန်ဆင်းပြုလုပ်ပေးရသည့် နတ်ဗိသုကာကြီး ဖြစ်ပေသည်။

## မာတလိနတ်သား

သိကြားမင်းကြီး၌ အလွန် ခမ်းနားကြီးကျယ်သော ဝေဇယန္တာ နတ်ရထားကြီးရှိကြောင်း အထက်တွင် ဖော်ပြခဲ့ပြီး ဖြစ်သည်။

ဝေဇယန္တာ နန်းပြာသာဒ်တော်ကြီးမှ ထွက်ကြွတော်မူသည့်အခါများသောအားဖြင့် ဝေဇယန္တာ နတ်ရထားကြီးကိုစီး၍ ထွက်ကြွတော်မူလေ့ရှိ၏။

ထိုဝေဇယန္တာ နတ်ရထားကြီးကို မောင်းနှင်သူ ရထားထိန်းမှာ မာတလိနတ်သား ဖြစ်၏။

မာတလိနတ်သားမှာ သိကြားမင်းကြီးနှင့် အလွန်ခင်မင်ရင်းနှီးသည့် တပည့်ကြီးဖြစ်၍ ယခုခေတ်အခေါ်အဝေါ်ဖြင့်ဆိုရလျှင် သိကြားမင်းကြီး၏ ကိုယ်ရေးလက်ထောက် (ပီ-အေ) နတ်သားပင် ဖြစ်သည်။

ထို့ကြောင့် ကျမ်းဂန်များ၌ သိကြားမင်းကြီး၏ အကူနတ်သား၊ သိကြားမင်းကြီးကို ချီးမြှောက်တတ်သည့် နတ်သား (မာတလိသင်္ဂါဟက) ဟု မိန့်ဆိုကြခြင်း ဖြစ်၏။

တစ်ချိန်သောအခါက တာဝတိံသာနတ်တို့က အသုရာတို့ကို စစ်နိုင်၍ ဝေပစိတ္တိအသုရာနတ်မင်းကြီးကို ကြိုးများဖြင့် ဖမ်းဆီးတုပ်နှောင်ကာ သုဓမ္မာသဘင်သို့ ခေါ်ဆောင်လာကြ၏။

ဝေပစိတ္တိ အသုရာကြီးသည် သိကြားမင်းကြီး သုဓမ္မာသဘင် ဝင်တိုင်း၊ ထွက်တိုင်း အမျိုးမျိုး ဆဲရေးကြိမ်းမောင်းနေ၏။

သိကြားမင်းကြီးကမူ မည်သို့မျှ တုံ့ပြန် ပြောဆိုခြင်း မပြုဘဲ သည်းခံနေ၏။





မာတလိနတ်သားသည် ဤအခြင်းအရာကို တွေ့ရသည့်အခါ စိတ်မရှည်နိုင်သဖြင့် -

"အရှင် သိကြားမင်း၊ မိမိရှေ့မှောက်မှာ ဝေပစိတ္တိ အသုရာကြီးက ဆဲရေးခြိမ်းခြောက်နေသံကို ကြားနေရပါလျက် မည်သို့မျှ တုံ့ပြန်ခြင်း မပြုလျစ်လျူရှုကာ သည်းခံနေသည်မှာ ကြောက်တဲ့အတွက်ကြောင့်လား။ သို့မဟုတ် စွမ်းအင်နုံးချည့် အားမရှိတဲ့အတွက်ကြောင့်လား"

ဟု မေးမြန်းရာမှ သိကြားမင်းနှင့် မာတလိနတ်သားတို့ စကားအချေအတင်ပြောကြပုံကို ရှေ့တွင် တင်ပြခဲ့ပေပြီ။

ကဿပဘုရားရှင်၏ သာသနာနောက်ပိုင်းတွင် သိကြားမင်းကြီးမှဆိုးကြီးယောင်ဆောင်ကာ လူ့ပြည်ဆင်း၍ သာသနာပြုစဉ်အခါကလည်း မာတလိနတ်သားမှာ ငှက်ပျောဖူးအရွယ်ရှိ အစွယ်ကြီးလေးချောင်းဖြင့် အာဇာနည် ဆင်ကြီးလောက်ကြီးသော ခွေးနက်ကြီးသဏ္ဌာန် ဖန်ဆင်းပြီး လိုက်ပါရ၏။

ခွေးနက်ကြီး၏ဟောင်သံသည် အထက်ဘဝဂ်၊ အောက်အဝီစိ အထိ တစ်ပြိုင်နက် ပဲ့တင်ထပ်၏ဟု မဟာကဏှဇာတ်၌ လာရှိပေသည်။

ဤသို့ မာတလိနတ်သားသည် သိကြားမင်းကြီးအား အများဆုံး ကူညီပေးရသည့် သိကြားမင်းကြီး၏လက်စွဲတော်နတ်သားတစ်ဦး ဖြစ်သည်။

## သိကြားမင်း စသူတို့ အပြောင်းအလဲရှိခြင်း

'ရုပ်နာမ်ဓမ္မ သင်္ခါရတရားသည် တည်မြဲခြင်း မရှိကြ၊ ဖြစ်လာပြီး ပျက်သွားခြင်းသဘော ရှိကုန်၏'

ဆိုသည့် ဒေသနာတော်အတိုင်း သိကြားမင်း၊ ဝိသကြုံနတ်သား၊ မာတလိနတ်သား၊ ပဥ္စသိခနတ်သား၊ လနတ်သားနှင့် နေနတ်သားတို့သည် အမြဲ မရှိကြကုန်၏။ အပြောင်းအလဲ ရှိကြကုန်၏။ သိကြားမင်း ရာထူးနေရာ စသည်တို့သာ အမြဲ ရှိကြ၏။

မှန်ပါသည်။ ရှေးအခါက ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းကြီး လက်ထက်တွင် ကျွန်ုပ်တို့ ဂေါတမ ဘုရားလောင်းသည် သူဌေးသား ဖြစ်၍ ဖခင်သူဌေးကြီး ကွယ်လွန်သောအခါ သူဌေးရာထူးကို ရ၏။

တစ်နေ့တွင် ပစ္စည်းဥစ္စာများကိုကြည့်ပြီး –

'ပစ္စည်းဥစ္စာတွေတော့ ကျန်ရှိနေတယ်။ ပစ္စည်းဥစ္စာတွေကို ရှာဖွေစုဆောင်းခဲ့သူတွေကတော့ တစ်ယောက်မှ မရှိကြတော့ဘူး။ ဒီပစ္စည်းဥစ္စာတွေကို စွန့်ကြဲပေးကမ်းပြီး အလှူကြီး လုပ်သင့်တယ်'

ဟု ကြံစည်၏။ ထို့နောက် အလှူမဏ္ဍပ်ကြီး ဆောက်လုပ်ခိုင်းကာ အသက်ထက်ဆုံး အလှူကြီးပေးပြီး သေခါနီးတွင် –

"ဒီအလှူဝတ်ကို သားစဉ်မြေးဆက် မပျက်စေနဲ့"

ဟု သားဖြစ်သူအား မှာကြားခဲ့၍ တာဝတိံသာ နတ်ပြည်၌ သိကြားမင်း သွားဖြစ်၏။

သားဖြစ်သူကလည်း ဖခင်ကြီး မှာကြားခဲ့သည့်အတိုင်း အလှူရေစက်ကို အသက်ထက်ဆုံးပြု၍ ကွယ်လွန်ခါနီးတွင် မိမိသားအား မှာကြားခဲ့၍ လနတ်သား သွားဖြစ်၏။

သူ၏သား ကွယ်လွန်သောအခါ၌ မာတလိသင်္ဂါဟကနတ်သား ဖြစ်၏။

သူ၏သား ကွယ်လွန်သောအခါ ဂန္ဓဗ္ဗနတ်မင်း၏သားတော် ပဉ္စသိခနတ်သား သွားဖြစ်၏။

သူ၏သားဖြစ်သူ ခြောက်ယောက်မြောက် လက်ထက်တွင် ထိုအလှူဝတ်ပျက်ခဲ့သဖြင့် သိကြားမင်းသည် လနတ်သား စသော နတ်သားလေးယောက်တို့နှင့်အတူ လူ့ပြည်ဆင်း၍ သူဌေးအား အလှူဝတ်ကို မဖျက်ရန် တရားဟောကြားကြောင်း ဗိလာရကောသိယဇာတ်၌ တွေ့ရ၏။

ထိုအခါ သိကြားမင်းသည် ဂေါတမ ဘုရားရှင် ဖြစ်လာ၏။ လ(စန္ဒာ)နတ်သားသည် အရှင်သာရိပုတ္တရာ ဖြစ်လာ၍ နေ(သူရိယ) နတ်သားသည် အရှင်မဟာမောဂ္ဂလာန် ဖြစ်လာ၏။ မာတလိနတ်သားသည် အရှင်မဟာကဿပမထေရ် ဖြစ်လာ၍ ပဉ္စသိခနတ်သားသည် အရှင်အာနန္ဒာ ဖြစ်လာသည်ဟု အဋ္ဌကထာ၌ မိန့်ဆိုထား၏။

ထို့ကြောင့် ယခု ရှိနေသော သိကြားမင်း၊ မာတလိ စသူတို့သည် ထိုအခါ သိကြားမင်း၊ မာတလိ နတ်သား စသူတို့ မဟုတ်ကြတော့ချေ။ ဤသို့ သိကြားမင်းစသူတို့သည် ပြောင်းလဲလျက် ရှိကြပေသည်။





## ပဉ္စသိခနတ်သား

ပဉ္စသိခနတ်သားသည် အတိတ်ဘဝ လူဖြစ်စဉ်အခါက ဦးစွန်းငါးခုရှိ၍ နောက်ကျောဘက်၌ ဆံစည်းငါးခု ချထားသည့် လူငယ်လေးတစ်ယောက် ဖြစ်ခဲ့သည်။ ကိုယ်လုံးကိုယ်ပေါက် ဖြောင့်စင်း၍ ရုပ်ဆင်းအင်္ဂါနှင့် ပြည့်စုံသဖြင့် ရှုချင်စဖွယ် ရှိ၏။

နွားကျောင်းသားတို့၏ ခေါင်းဆောင်ဖြစ်၍ အခြား လူငယ်များကို ခေါ်ကာ ရွာ၏အပြင်ဘက် လမ်းလေးခွဆုံရာတွင် ခရီးသွား ဧည့်သည်များ တည်းခိုနေထိုင်ရန် ဇရပ်ဆောက်လုပ်၏။ ရေကန်တူး၏။ တံတားခင်း၏။ မညီမညွတ် အဖုအထစ်နှင့် ချိုင့်ဝှမ်းများ ဖြစ်နေသည့် လမ်းများကို ပြေပြစ်ညီညာ ချောမောအောင် ပြုလုပ်ပေး၏။ လှည်း စသော ယာဉ်များ သွားလာ လမ်းများ၌ ဝင်ရိုးနှင့် မလွတ်သော သစ်ငုတ်များနှင့် သစ်ပင်ငယ်များ ခုတ်ထွင်ရှင်းလင်းပေး၏။

ဤသို့ ကုသိုလ်ကောင်းမှုများကို ပြုလုပ်နေစဉ် ငယ်ငယ်ရွယ်ရွယ်မှာပင် ကွယ်လွန်သွား၏။

သူသည် စတုမဟာရာဇ် နတ်ဘုံတွင် လူတို့နှစ် အရေအတွက်အားဖြင့် အနှစ်ကိုးသန်း သက်တမ်းရှည်မည့် နတ်သား သွားဖြစ်၏။ ထိုနတ်သား၏ခန္ဓာကိုယ်မှာ သုံးဂါဝုတ် (၆ မိုင်) ပမာဏရှိ၍ ရွှေတုံးကြီးသဖွယ် တင့်တယ်လှပ၏။

သူ့ခန္ဓာကိုယ်တွင် လှည်းအစီး တစ်ထောင်တိုက် ပမာဏရှိသော နတ်ဝတ်တန်ဆာများကို ဝတ်ဆင်ထား၏။ ကိုးကုဋေ (ဆယ်တင်း)မျှရှိသော အမွှေးနံ့သာတို့ကို လိမ်းကျံ ခြယ်သထား၏။ နီမြန်းသော နတ်ဝတ်ပုဆိုးကို ဝတ်ဆင်ထားလျက် နီမြန်းသော ရွှေနားတောင်းကို ပန်ဆင်ထား၏။

လူ့ပြည်မှာကဲ့သို့ပင် ဦးစွန်းငါးခုရှိ၍ နောက်ကျောဘက်တွင် ဆံစည်းငါးခုကို ချထားကာ လူငယ်အသွင်ဖြင့် လှည့်လည်သွားလာ၏။

ထို့ကြောင့် ထိုနတ်သားကို ပါဠိလို ပဉ္စသိခနတ်သားဟု ခေါ်ဝေါ်ကြ၏။ ပဉ္စ=ငါးခု+သိခ= ဦးစွန်း။ ပဉ္စသိခမှ မြန်မာလို ပဉ္စသိ ဖြစ်လာသည်။

ဤသို့ သုတ်မဟာဝါ အဋ္ဌကထာ မဟာဂေါဝိန္ဒသုတ်အဖွင့်၌ တွေ့ရ၏။

## ဗေလုဝစောင်းတော်ရှင်

ထိုပဉ္စသိခ နတ်သားသည် နောင်သောအခါ၌ ဗေလုဝ စောင်းတော်ရှင် ပဉ္စသိခနတ်သား ဟူ၍ နတ်လောက၌ ထင်ပေါ် ကျော်ကြားသော အနုပညာရှင်ကြီးတစ်ဦး ဖြစ်လာ၏။

ဗေလုဝ ဟူသော ပါဠိသည် ဥသျှစ်သီးဟု အနက်အဓိပ္ပာယ်ရ၏။ ဤ၌ ဥသျှစ်သီးမှည့်ကဲ့သို့ ရွှေရောင်အဆင်းရှိသောကြောင့် ဗေလုဝပဏ္ဍု နတ်စောင်းဟုခေါ်၏။ ဗေဠုဝ ရေးလျှင်လည်း မှန်၏။

စောင်းခွက်ကား ရွှေသားဖြင့် ပြီး၏။ စောင်းလက်ရုံးကို ဣန္ဒနီလာ ပတ္တမြားညိုဖြင့် ပြုလုပ်ထား၏။ စောင်းညှို့တို့ကို ငွေဖြင့် ပြုလုပ်၍ စောင်းညှို့တို့ကို ဖွဲ့ရန်၊ နှိပ်ရန် တပ်ထားသော ကြိုးငယ်တို့ကို သန္တာဖြင့် ပြုလုပ်၏။

စောင်းခွက်မှာ တစ်ဂါဝုတ် ရှိ၏။ စောင်းညှို့ဖွဲ့ရာ အရပ်သည်လည်း တစ်ဂါဝုတ် ရှိ၏။ အထက်စောင်းလက်၌တပ်သော အထွတ်သည် တစ်ဂါဝုတ် ရှိ၏။ ဤသို့လျှင် ဗေလုဝပဏ္ဍု နတ်စောင်းကြီးသည် သုံးဂါဝုတ် ပမာဏရှိ၏။

ပဉ္စသိခ နတ်သားသည် ထိုစောင်းကြီးကိုယူ၍ ငါးဆယ်မျှ လောက်သော စောင်းချင်းတို့ကို တီးခတ်၏။ လက်သည်းတို့ဖြင့် ခတ်၏။ သာယာသောသီချင်းသံကိုလည်း သီဆို၏။ လက်သည်းများတို့ဖြင့် တစ်ကြိမ် တီးခတ်လိုက်၍ ထွက်ပေါ်လာသည့် ချိုသာသောစောင်းသံသည် လေးလကြာသည်အထိ အသံမစဲ အမြဲ ထွက်ပေါ်နေသည်ဟု ဆို၏။

ထိုပဉ္စသိခ နတ်သား၏ ကြင်ရာတော်ကား တိမ္ဗရုနတ်မင်းကြီး၏ သမီးတော် သူရိယဝစ္ဆသာ နတ်သမီး ဖြစ်၏။ အနုပညာရှင် အလှဘုရင်မ တစ်ဦး ဖြစ်သည်။ တက်သစ်စ နေဝန်း၏ အရောင်နှင့်တူသော ကိုယ်ရောင် ရှိသောကြောင့် သူရိယဝစ္ဆသာ နတ်သမီးဟု ခေါ်ဆိုခြင်း ဖြစ်သည်။

ပဉ္စသိခနတ်သားသည် အနုပညာရှင် အလှဘုရင်မ သူရိယဝစ္ဆသာ နတ်သမီးကို အလွန်ချစ်ကြိုက်နေ၏။ သူရိယဝစ္ဆသာနတ်သမီးကမူ စောင်းတီးကောင်းသူ ပဉ္စသိခနတ်သားအား မကြိုက်ဘဲ သိကြားမင်း၏ ရထားထိန်း မာတလိ၏သား သိခဏ္ဍီနတ်သားကို ချစ်ကြိုက်နေသည်။





## ပဉ္စသိခနှင့် သိကြားမင်း

တစ်ချိန်တွင် သိကြားမင်းကြီးအား စုတေရတော့မည့် ပုဗ္ဗနိမိတ် ငါးပါး ထင်လာ၍ အလွန်ထိတ်လန့်တုန်လှုပ်ပြီး ဘုရားရှင်ထံတော်မှောက်သို့ သွားရောက်လျှောက်ထားရန် အကြောင်းကိစ္စပေါ်လာသည်။

ထိုအခါ သိကြားမင်းကြီးက –

'ငါ့အဖို့ ရှေးဦးစွာ သွားရောက်ပြီး ဘုရားရှင်ကို ဖူးမြော်လျှောက်ထားရန် မသင့်သေး။ ပဉ္စသိခ နတ်သားသည် ဘုရားရှင်၏ အလုပ်အကျွေးနတ်သားဖြစ်၍ ဘုရားရှင်နှင့် အကျွမ်းဝင်သူ ဖြစ်၏။ သူအလိုရှိသည့်အခါတိုင်း မြတ်စွာဘုရားထံ သွားရောက်၍ ပြဿနာများကို မေးလျှောက်ကာ တရားနာလေ့ရှိသူလည်း ဖြစ်သည်။

ပဉ္စသိခနတ်သားကို ရှေးဦးစွာ စေလွှတ်၍ ဖူးမြော်ခွင့်ရအောင် လျှောက်ထားစေပြီးမှ ဘုရားထံတော်မှောက်သို့ ငါသွားရောက်ပြီး ပြဿနာကို မေးလျှောက်ရလျှင် ကောင်းပေမည်'

ဟု အကြံ ဖြစ်၏။

ထို့နောက် ပဉ္စသိခနတ်သားကို –

"အမောင် ပဉ္စသိခ၊ ယခုအခါ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဝေဒိယတောင်၊ ဣန္ဒသာလလိုဏ်ဂူ၌ သီတင်းသုံးနေတော်မူတယ်။ ငါတို့သည် ထိုမြတ်စွာဘုရားထံ အဖူးအမြော်သွားရလျှင် ကောင်းမယ်"

ဟု မိန့်ကြားလျှင် ပဉ္စသိခနတ်သားက –

"ကောင်းပါပြီ အရှင် သိကြားမင်း"

ဟုပြောဆိုပြီး ဗေလုဝနတ်စောင်းကြီးကို ပိုက်ယူကာ သိကြားမင်းကြီး ခရီးထွက်မည့်အကြောင်းကို အခြား နတ်သားများ သိစေရန် သိကြားမင်း၏အနီး၌ ရပ်ကာ သာယာလေးတွဲ့စွာ သီဆို တီးခတ်လေတော့သည်။

ပဉ္စသိခနတ်သား၏ စောင်းသံ၊ သီချင်းသံတို့ကြောင့် နတ်အပေါင်း စုဝေးရောက်ရှိလာသည့်အခါ သိကြားမင်းသည် တာဝတိံသာနတ်တို့ ခြံရံလျက် ပဉ္စသိခ ဂန္ဓဗ္ဗနတ်သားကို ရှေ့ဆောင်ပြုကာ ဝေဒိယတောင်သို့ ရောက်လာခဲ့သည်။

ထိုအခါ သိကြားမင်းကြီးသည် -

"အမောင် ပဥ္စသိခ၊ သင်သည် မြတ်စွာဘုရားကို ရှေးဦးစွာ ခွင့်ပန်ပါချေ။ နောက်မှ ငါတို့သည် မြတ်စွာဘုရားအား ဆည်းကပ် ဖူးမြော်ကြမည်"

ဟု ဆိုလျှင် ပဥ္စသိခနတ်သားသည် -

"ကောင်းပါပြီ အရှင်"

ဟု ပြောဆိုပြီး ဣန္ဒသာလလိုဏ်ဂူအနီးသို့ ချဉ်းကပ်ကာ ဗေလုဝပဏ္ဍု နတ်စောင်းကြီးကိုတီးလျက် ဘုရား၊ တရား၊ သံဃာ၊ ရဟန္တာ၊ ကာမဂုဏ်တို့နှင့် စပ်သည့် ဂါထာတို့ကို သီဆိုလေသည်။

ဘုရားရှင်သည် ပဥ္စသိခနတ်သားအား ခွင့်ပြုတော်မူသည်ကို သိစေရန် ပဥ္စသိခနတ်သား၏ သီချင်းသံနှင့် စောင်းသံတို့ကို ချီးမွမ်းတော်မူသည်။ ထိုအခါ သိကြားမင်းသည် -

"အမောင် ပဥ္စသိခ၊ နတ်တို့သနင်း သိကြားမင်းသည် အခြံအရံနတ်သားများနှင့်တကွ ဘုရားရှင်အား ရှိခိုးပါ၏ဟု ငါ၏ကိုယ်စား လျှောက်ထားပေးပါ" ဟု မိန့်ဆို၏။

ပဥ္စသိခနတ်သားသည် သိကြားမင်းစေခိုင်းသည့်အတိုင်း ဘုရားရှင်အား လျှောက်ထားရာ မြတ်စွာဘုရားက ခွင့်ပြုတော်မူသဖြင့် သိကြားမင်းနှင့်တကွ နတ်အပေါင်းတို့ ဘုရားရှင်ကို ဖူးမြော်ခွင့်ရကြ၏။

ထို့နောက် သိကြားမင်းသည် တရားမင်း ဖြစ်တော်မူသော ဘုရားရှင်အား အမေပုစ္ဆာ ပြဿနာ ၁၄ ရပ်ကို မေးလျှောက်ရာ ဆဋ္ဌမ၊ သတ္တမ၊အဋ္ဌမ အမေးများကို ဖြေဆိုတော်မူပြီးသည့်အဆုံး၌ သိကြားမင်းကြီး သောတာပန်တည်သွားသည်။

သောတာပန်တည်ပြီး မကြာမီ ဘုရားရှင် ရှေ့တော်မှောက်၌ပင် နတ်သက်ကြွေ၍ သိကြားမင်းဘဝအသစ်ကို တစ်ဖန် ပြန်ရသည်။

ထို့ကြောင့် သိကြားမင်းသည် ပဥ္စသိခနတ်သားကို -

"အမောင် ပဥ္စသိခ၊ အမောင်သည် မြတ်စွာဘုရားကို ရှေးဦးစွာ ခွင့်ပန်ပေးသည့်အတွက် ငါသည် သုံးလောကထွတ်တင် ဘုရားရှင်ကို ဖူးမြင်ခွင့်ရခဲ့၏။





အမောင်သည် ငါ့အပေါ်မှာ ကျေးဇူး အထူး များလှသူ ဖြစ်၏။ ငါသည် သင့်အား သင့်ဖခင်၏ရာထူးဖြစ်သည့် ဂန္ဓဗ္ဗနတ်မင်း ရာထူးမှာလည်း ခန့်ထား၏။ သင် အလွန်ချစ်ကြိုက်နေသည့် သူရိယဝစ္ဆသာ နတ်သမီးကိုလည်း သင်နှင့် လက်ထပ်ပေးမည်"

ဟု ကျေးဇူးတင် ဆုပေးစကား ပြောကြားသတဲ့။

ဤသို့ ပဥ္စသိခနတ်သားသည် သိကြားမင်းကြီး၏ ချီးမြှောက်မှုကြောင့် ဂန္ဓဗ္ဗနတ်မင်းကြီး ဖြစ်သွားသည့်အပြင် သူ အလွန် ချစ်ကြိုက်မြတ်နိုးနေသည့် တိမ္ဗရုနတ်မင်းကြီး၏ သမီးတော် သူရိယဝစ္ဆသာနတ်သမီးကိုလည်း ရရှိသွားပေသည်။

❐

# ယာမာနတ်ပြည်

ပူပန်ထန်ပြင်း ဆင်းရဲခြင်း အဝဝတို့မှ လွတ်ကင်း၍ နတ်၌ဖြစ်သော ချမ်းသာသုခတို့ကို ပြည့်ဝ စုံလင်စွာ ခံစားရသော နတ်တို့ကို ယာမာဟု ခေါ်သည်။

(ယာမာ–ဆင်းရဲကင်းသူ (ဝါ) ချမ်းသာနှင့် ပြည့်စုံသူ)

ထို ယာမာနတ်တို့၏နေရာ ဘုံဌာနကို ယာမာနတ်ဘုံ၊ ယာမာနတ်ပြည်ဟုခေါ်၏။ ထိုဘုံကို အစိုးရသော နတ်မင်းကြီး၏ နာမည်သည် သုယာမ ဖြစ်သည်။ ယာမာ ဟူ၍ ခေါ်ကြသည်။ ထို ယာမာမည်သော နတ်မင်းကြီး အုပ်စိုးသောဘုံ ဖြစ်သောကြောင့်လည်း ထိုတတိယမြောက် နတ်ပြည်ကို ယာမာ ခေါ်သည်ဟုလည်း ဆိုကြ၏။

ထို ယာမာနတ်ပြည်သည် တာဝတိံသာနတ်ပြည်မှ ယူဇနာလေးသောင်းနှစ်ထောင်မြင့်သော အာကာသ ကောင်းကင်ပြင်တွင် စကြဝဠာတိုက်ခန်းတိုင်အောင် ပန်းဆိုင်းပမာ တည်ရှိနေသည့် အာကာသဋ္ဌဘုံ ဖြစ်သည်။ ယာမာနတ်တို့သည် တာဝတိံသာနတ်တို့ကဲ့သို့ မြေ၌တည်သော ဘူမဋ္ဌဘုံနတ်၊ ကောင်းကင်၌တည်သော အာကာသဋ္ဌနတ် ဟူ၍ နှစ်မျိုး မရှိကြချေ။ ကောင်းကင်၌သာ တည်ရှိကြသည့် အာကာသဋ္ဌနတ်ချည်း ဖြစ်ကြ၏။

ယာမာနတ်တို့၏သက်တမ်းမှာ ထိုနတ်တို့ အရေအတွက်အားဖြင့် နှစ်ပေါင်း ၂၀၀၀ အသက်ရှည်၍ တာဝတိံသာနတ်တို့ အရေအတွက်အားဖြင့် အနှစ်လေးထောင် ၄၀၀၀ ဖြစ်၏။ လူသားတို့၏ အနှစ် ၂၀၀ သည် ယာမာနတ်ပြည်၌ တစ်ရက် ဖြစ်၏။





ထို့ကြောင့် ယာမာနတ်တို့၏ အနှစ် နှစ်ထောင် ၂၀၀၀ သည် လူသားတို့ အရေအတွက်အားဖြင့် နှစ်ပေါင်း တစ်ဆယ့်လေးကုဋေ လေးသန်း ရှိသည်။

## တုသိတာနတ်ပြည်

တုသိတာ ဟူသော ပါဠိသည် မြန်မာလို နှစ်သက်ပျော်ရွှင်ခြင်းသို့ ရောက်သောနတ်များဟု အဓိပ္ပာယ်ရသည်။

(တုသ=နှစ်သက်ပျော်ရွှင်ခြင်းသို့+ဣတာ=ရောက်သောနတ်များ)

ထိုနတ်သားတို့သည် ကြီးကျယ်သော စည်းစိမ်ချမ်းသာ၊ ကျက်သရေအဖြာဖြာတို့နှင့် ပြည့်စုံကြသဖြင့် အမြဲတစေ နှစ်သက်ရွှင်ပြုံး ပီတိဖုံးနေကြသည်။

ထို့ကြောင့် ထိုနတ်များကို တုသိတာနတ်များဟု ခေါ်သည်။ ထို တုသိတာနတ်တို့၏ နေရာဘုံဌာနဖြစ်၍ တုသိတာနတ်ဘုံ၊ တုသိတာနတ်ပြည်ဟု ခေါ်ခြင်း ဖြစ်သည်။

တုသိတာနတ်ပြည်သည် ယာမာနတ်ပြည်မှ ယူဇနာလေးသောင်းနှစ်ထောင် ကွာဝေးသော ကောင်းကင်ပြင်၌ ပန်းဆိုင်းဆွဲသကဲ့သို့ နတ်ဘုံနတ်နန်းတို့ဖြင့် တည်ရှိနေသောနတ်ပြည် ဖြစ်၏။

ယာမာနတ်ပြည်ကဲ့သို့ပင် စကြဝဠာတိုက်ခန်းအထိ တည်ရှိသော အာကာသဋ္ဌဘုံ ဖြစ်၏။

ထိုနတ်ပြည်ကို အုပ်ချုပ်သောနတ်မင်းကြီးကား သန္တုသိတနတ်မင်းကြီးတည်း။

တုသိတာနတ်တို့၏ သက်တမ်းမှာ ထိုနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်းလေးထောင် ၄၀၀၀ အသက်ရှည်၍ ယာမာနတ်တို့၏ အရေအတွက်အားဖြင့် အနှစ်ရှစ်ထောင်ရှိ၏။ လူသားတို့၏အနှစ် ၄၀၀ သည် တုသိတာနတ်ပြည်၌ တစ်ရက် ဖြစ်၏။

ထို့ကြောင့် ထိုနတ်တို့၏ အနှစ် ၄၀၀၀ သည် လူတို့ အရေအတွက်အားဖြင့် နှစ်ပေါင်း ငါးဆယ့်ခုနစ်ကုဋေခြောက်သန်းရှိသည်။

ဘုရားရှင်၏ မယ်တော် သိရိမဟာမာယာဒေဝီမိဖုရားကြီးသည်

ဘုရားလောင်းကို ဖွားမြင်တော်မူပြီး ခုနစ်ရက်အကြာတွင် နတ်ရွာစံ၍ တုသိတာနတ်ဘုံ၌ သန္တုသိတဟူသောအမည်ဖြင့် နတ်သားဖြစ်သည်ဟု ထေရဂါထာ အဋ္ဌကထာကျမ်း စသည်တို့၌ မိန့်ဆိုထား၏။

ခပ်သိမ်းသော ဘုရားရှင်တို့၏ မယ်တော်တိုင်း ဘုရားလောင်းကို ဖွားပြီး ခုနစ်ရက်ကြာလျှင် စုတေ၍ တုသိတာနတ်ပြည်၌ နတ်သားဖြစ်ခြင်းသည် ဓမ္မတာဖြစ်သည်ဟု မဇ္ဈိမပဏ္ဏာသ၌ ပြဆိုထားသည်။

အနာထပိဏ်သူဌေးကြီးအကြောင်းတို့ကို ဗုဒ္ဓဘာသာဝင်တိုင်းလို သိပြီး ဖြစ်ကြ၏။

သောတာပန် အရိယာဖြစ်၍ အလှူဒါနအရာ၌ မွေ့လျော်သည်။ ဒါယကာများတွင် အသာဆုံး၊ အထူးချွန်ဆုံး ဧတဒဂ်ရသည့် ထို အနာထပိဏ်သူဌေးကြီး ကွယ်လွန်သည့်အခါ၌ ထိုတုသိတာဘုံ၌ပင် အနာထပိဏ်နတ်သား ဖြစ်သည်ဟု မြတ်စွာဘုရား ဟောကြားထား၏။

ဤတုသိတာနတ်ပြည်၏ ထူးခြားချက်မှာ ဘုရားလောင်းမှန်သမျှ ဘုရားဖြစ်မည့်ဘဝ မရောက်မီ နောက်ဆုံးဘဝတွင် ဤတုသိတာဘုံတွင် ဖြစ်ကြမြဲ ဓမ္မတာ ဖြစ်သည်။

ကျွန်ုပ်တို့ ဂေါတမ ဘုရားလောင်းသည် ဘုရားဖြစ်တော်မူမည့် လူ့ဘဝ မရောက်မီ ဤတုသိတာနတ်ပြည်၌ပင် သေတကေတုမည်သော နတ်မင်း ဖြစ်ခဲ့သည်။

ဤဘဒ္ဒကမ္ဘာတွင် နောက်ဆုံးပွင့်မည့် အရိမေတ္တေယျ ဘုရားလောင်းနတ်သား၊ လက်ဝဲတော်ရံနတ်သားနှင့် လက်ယာတော်ရံနတ်သားတို့သည်လည်း ထိုနတ်ဘုံ၌ ယခု ရှိနေကြသည်ဟု အနာဂတဝံသအဋ္ဌကထာ၌ မိန့်ဆိုထား၏။

တုသိတာနတ်ပြည်ကြီးကား ဘုရားလောင်းတို့ မွေ့လျော်ပျော်စံရာ နတ်ဘုံကြီး ဖြစ်သည်။

**မေတ္တေယျဘုရားလောင်းနှင့် တုသိတာ**

လွန်ခဲ့သည့် ဆယ်နှစ်လောက်တုန်းက ဝိုင်အမ်ဘီအေ အခြေခံ အဘိဓမ္မာ သင်တန်းသူကလေး တစ်ဦးက –





"ဆရာ၊

'ဘဒ္ဒတဲ့ကမ္ဘာ ကြာငါးနိုင် ပမာတင့် ပွင့်ကြဗုဒ္ဓါ။

လေးဆူမှာ လွန်ကာပ ကွယ်သွား။

မေတ္တေယျရှင် ထိုဘုရားကို ဦးချစောင့်စား'

ဆိုတဲ့ လေးချိုးကဗျာကလေးတစ်ပုဒ်ကို ကျွန်မ ငယ်ငယ်တုန်းက ရခဲ့ဖူးပါတယ်။

ဒီ ဘဒ္ဒကမ္ဘာမှာ နောင်ပွင့်တော်မူလာမယ့် မေတ္တေယျဘုရားအလောင်းတော်ဟာ အခု ဘယ်မှာ ရောက်နေပါသလဲ"

ဟု စာရေးသူ စားပွဲမှာ ထိုင်နေစဉ် လာမေးဖူးပါသည်။

"အေး–ဟုတ်တယ်၊ ဒါလည်း ဗုဒ္ဓဘာသာဝင်တွေ သိထားဖို့ ကောင်းတဲ့အကြောင်းအရာတစ်ခုပဲ။

တပည့် မေးခွန်းကို အကျဉ်းချုပ် ဖြေရရင် မေတ္တေယျဘုရားအလောင်းတော်ဟာ ယခုအခါမှာ နတ်ပြည်ခြောက်ထပ်အနက် လေးထပ်မြောက်ဖြစ်တဲ့ တုသိတာဘုံမှာရှိတယ်လို့ မဟာဝံသကျမ်းနဲ့ မဓုရသဝါဟိနီကျမ်းတွေမှာ မိန့်ဆိုထားပါတယ်။

လူတို့ရဲ့ အနှစ်နှစ်သောင်းတမ်းမှာ မေတ္တေယျဘုရားပွင့်မယ်လို့ သုတ်ပါထေယျပါဠိတော် စက္ကဝတ္တိသုတ်မှာ ဘုရားဟောထားပါတယ်။

အကျယ်ဆက်ပြီး ရှင်းပြဦးမယ်။ သီဟိုဠ် (သီရိလင်္ကာ) မင်းတွေထဲမှာ ဒုဋ္ဌဂါမဏိမင်းကြီးဆိုတာ ကြားဖူးပါသလား"

"ဟုတ်ကဲ့၊ ကြားဖူးပါတယ်။ မဟာစေတီတော်ကြီးကို တည်တဲ့မင်း မဟုတ်လား ဆရာ"

"ဟုတ်ပါတယ်၊ သီရိဓမ္မာသောကမင်းကြီး၊ ဒေဝါနံပိယတိဿမင်းကြီးတွေလို သာသနာဝင်မှာ ထင်ရှားတဲ့ သာသနာပြုမင်းမြတ်တစ်ပါးဖြစ်တယ်။ အဲဒီ မင်းကြီး နတ်ရွာစံခါနီးမှာ အဘယ ရဟန္တာမထေရ်မြတ်ရဲ့ သတိပေး တိုက်တွန်းချက်အရ မင်းကြီး ပြုလုပ်ခဲ့တဲ့ ကောင်းမှုအရပ်ရပ်စာရင်းကို မင်းကြီးရဲ့ဘေးနားမှာ စာရေးက ဖတ်ကြားပြရတယ်။ ကြွလာကြတဲ့ ရဟန်းသံဃာတော်တွေကလည်း ပရိတ်တရားတော်တွေကို စုပေါင်းရွတ်ဆိုကြတယ်။

အဲဒီလို တရားနာနေတုန်း မင်းကြီးမျက်စိထဲမှာ ကောင်းကင်မှာ နတ်ရထားခြောက်စင်း ပေါ်လာပြီး ရထားမှာ ပါလာတဲ့ နတ်တွေက –

'မင်းကြီး၊ ကျုပ်တို့နတ်ပြည်ဟာ အတော်ပျော်စရာကောင်းပါတယ်။ ကျုပ်တို့ရဲ့ ရထားကို တက်စီးတော်မူပါ'

လို့ အသီးသီး လျှောက်ကြတယ်။ မင်းကြီးက –

'အခု တရားနာနေပါတယ်။ ခဏလေး ဆိုင်းပါဦး'

လို့ ဆိုပြီး လက်ဝါးကာပြလိုက်မိတယ်။

အဲဒီအခါ ပရိတ်တရားရွတ်ဖတ်ပေးနေကြတဲ့ သံဃာတော်တွေက သူတို့ကို ရပ်ဖို့ လက်ဝါးကာပြတယ်ထင်ပြီး ရပ်လိုက်ကြတယ်။

မင်းကြီးက –

'အရှင်ဘုရားတို့ကို ရပ်ခိုင်းတာ မဟုတ်ပါဘူး ဘုရား။ နတ်ရထားခြောက်စီး ရောက်လာပြီး နတ်တွေက သူတို့နဲ့လိုက်ဖို့ လာခေါ်နေကြလို့ သူတို့ကို လက်ဝါးကာပြတာပါ'

လို့ လျှောက်ပါတယ်။

မင်းကြီးရဲ့စကားကိုကြားတော့ အနားမှာရှိကြတဲ့ မင်းပရိသတ်အချို့က 'မင်းကြီးဟာ သေရမှာကြောက်လို့ ကယောင်ကတမ်း မြည်တမ်းပြောဆိုတာ ဖြစ်မှာပဲ' လို့ ထင်ကြတယ်။

အဲဒီလူတွေရဲ့ အထင်မှား အမြင်မှား ဖြစ်နေတာတွေ ပျောက်သွားအောင် အဘယ ရဟန္တာမထေရ်မြတ်က –

'မင်းကြီး၊ နတ်ရထားတွေ ရောက်နေတယ် ဆိုတာကို ဘယ်လိုနည်းနဲ့ သိရမှာလဲ'

လို့ မေးတဲ့အခါ –

'အရှင်ဘုရား၊ တပည့်တော် ညွှန်ပြတဲ့နေရာကို ပန်းကုံးကြီးခြောက်ကုံး ပစ်တင်တော်မူပါ' လို့ မင်းကြီးက လျှောက်တယ်။

မင်းကြီး ညွှန်ပြတဲ့အခါ ပန်းကုံးခြောက်ကုံး ပစ်တင်လိုက်တော့ ပန်းကုံးခြောက်ကုံးဟာ နတ်ရထားတွေမှာ တစ်ခုစီ ချိတ်ဆွဲပြီး တွဲလွဲဆွဲနေကြတာကို တွေ့ရမှ ပရိသတ်အားလုံး တအံ့တသြဖြစ်ကာ ယုံကြည်သွားကြသတဲ့။





မင်းကြီးက –

'အရှင်ဘုရား၊ နတ်ပြည်ခြောက်ထပ်ထဲမှာ ဘယ်နတ်ပြည်က ပိုပြီး ပျော်မွေ့စရာ ကောင်းပါသလဲ'

လို့ အဘယရဟန္တာမထေရ်ကို လျှောက်တယ်။

'တုသိတာနတ်ပြည်မှာ ဘုရားဖြစ်မယ့်အချိန်ကို စောင့်စားမျှော်လင့်နေတဲ့ မေတ္တေယျဘုရားလောင်း ရှိပါတယ်။ ဒါကြောင့် တုသိတာနတ်ပြည်ဟာ အခြား နတ်ပြည်တွေထက် ပိုပြီး ပျော်မွေ့ဖွယ်ကောင်းတယ်လို့ သူတော်ကောင်းတွေ ချီးကျူးပြောဆိုကြပါတယ်'

လို့ မထေရ်မြတ်က မိန့်ကြားတော်မူပါတယ်။

အဲဒီ အချိန်ပိုင်းကလေးမှာပဲ မင်းကြီးဟာ မဟာစေတီကို ဖူးမြော်ရင်း နတ်ရွာစံကာ တုသိတာနတ်ရထားမှာ နတ်သား သွားဖြစ်တယ်။

ချက်ချင်းပင် သူ့ရဲ့ ကောင်းမှုအကျိုးထင်ရှားအောင် လူတွေကို သူ့ခန္ဓာကိုယ် အထင်အရှားပြပြီး သံဃာတော်တွေနဲ့ မဟာစေတီကို လှည့်ပတ်ရှိခိုးကာ တုသိတာနတ်ပြည်သို့ တက်သွားတော်မူတယ်လို့ မဟာဝံသကျမ်းမှာ မိန့်ဆိုထားပါတယ်။

ဒုဋ္ဌဂါမဏိမင်းကြီးဆိုတာ သာမန်ပုဂ္ဂိုလ် မဟုတ်ဘူး။ မေတ္တေယျဘုရားရှင် ပွင့်လာတဲ့အခါ အရှင်သာရိပုတ္တရာ မထေရ်ကြီးလို လက်ယာတော်ရံ အဂ္ဂသာဝကဖြစ်မယ့် ပုဂ္ဂိုလ်ထူးကြီးပဲ။ သူ့ရဲ့ညီတော် သဒ္ဓါတိဿမင်းကြီးက ဘုရားရှင်ရဲ့ ခမည်းတော်။ မင်းရဲ့မယ်တော် ဝိဟာရဒေဝီမိဖုရားက ဘုရားရှင်ရဲ့မယ်တော်။ မင်းရဲ့သားတော် သာလိကုမာရမင်းသားက ဘုရားသားတော် အသီးသီး ဖြစ်ကြလိမ့်မယ်လို့ ရဟန္တာအရှင်မြတ်တွေ ဗျာဒိတ်စကား မြွက်ကြားကြောင်း မဟာဝံသကျမ်းမှာ ဆိုပါတယ်"

## မလိယမဟာဒေဝရဟန္တာနှင့် ဘုရားလောင်းနတ်သား

"မဓုရသဝါဟိနီကျမ်း၊ စူဠကလ္လဝတ္ထုမှာလည်း မြန်မာ ဗုဒ္ဓဘာသာဝင်တွေက ရှင်မာလဲလို့ ခေါ်နေကြတဲ့ မလိယမဟာဒေဝ ရဟန္တာမထေရ်ဟာ သီဟိုဠ်ကျွန်း၊ ကုရောဒဇနပုဒ် ဝေရိယဝိဟာရခေါ်တဲ့ ကမ္ဘဋ္ဌာန်းကျောင်းမှာ သီတင်းသုံးတော်မူနေပါတယ်။

တစ်နေ့တော့ ရှေးက ဖြစ်ခဲ့ဖူးတဲ့ လေနာရောဂါ ပြန်ဖြစ်လာလို့ ရှေးတုန်းက ပျောက်ခဲ့ဖူးတဲ့ ဆေးယာဂုကို ဘယ်မှာများ ရနိုင်ပါ့မလဲလို့ ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ ကြည့်ရှုတော်မူတဲ့အခါ ရှုလကလ္လရွာက ဥပါသကာ တစ်ယောက်ထံမှာ ရနိုင်မယ်ဆိုတာ သိမြင်တော်မူတယ်။

အဲဒီ ဥပါသကာဟာ ရတနာသုံးပါးကို ကြည်ညိုဆည်းကပ်သူ ဖြစ်လို့ သံဃာ့ဆေးရုံကလေးဆောက်ပြီး ဂိလာနရဟန်းတော်တွေကို ရေပူ ရေချမ်းနဲ့ ဆေး၊ ယာဂု အချိန်မှန် ဆက်ကပ်ပေးဖို့ သူနာပြုတွေကို ခန့်ထား ပေးတယ်။

ဒါကြောင့် မလိယမဟာဒေဝ မထေရ်ဟာ ကောင်းကင်ခရီးနှင့် ရှုဠကလ္လရွာရှိ သံဃာ့ဆေးရုံ ကြွသွားတော်မူပြီး ဥပါသကာကြီးကို မိမိရဲ့ လေနာရောဂါအကြောင်း ပြောပြတယ်။

ဥပါသကာကြီးက -

'တပည့်တော် အိမ်ခဏပြန်ပြီး ဆေးယာဂု ချက်ခိုင်းလိုက်ပါဦး မယ်။ ခဏ သီတင်းသုံးတော်မူပါဦး ဘုရား'

လို့ လျှောက်ထားပြီး အိမ်ပြန်ကာ ဆေးယာဂု ချက်ခိုင်းထား ခဲ့တယ်။

သူကတော့ ပြန်လာပြီး မထေရ်မြတ်ကို ဧည့်ခံစကားပြောနေပါ တယ်။ အဲဒီခဏမှာ မထေရ်မြတ်က ဆင်ခြင်ကြည့်လိုက်တဲ့အခါ ဒီဒကာဟာ သာမန်ပုဂ္ဂိုလ် မဟုတ်ဘူး။ နောင်ဘဝမှာ မဟေသကမည်တဲ့ တန်ခိုးကြီး နတ်ဖြစ်မယ့် ပုဂ္ဂိုလ်ပဲလို့ သိတဲ့အတွက် -

'ဒကာကြီး၊ ဆေးချက် မပြီးသေးခင် ငါ တာဝတိံသာနတ်ပြည် တက်ပြီး စူဠာမဏိစေတီတော်ကို ရှိခိုး ပူဇော်လိုက်ဦးမယ်။ ငါနဲ့အတူ လိုက်ခဲ့ပါလား'

လို့ပြောပြီး သူ့သားရေနွယ်ကို ဒကာကြီးရဲ့ ပခုံးပေါ် တင်လိုက် တယ်။ သည့်နောက် -

'ဒီဒကာဟာ ငါနဲ့အတူ ပါစေသတည်း'

လို့ အဓိဋ္ဌာန်ပြီး ကောင်းကင်ခရီးနဲ့ သွားကြရာ တစ်ခဏချင်းပဲ တာဝတိံသာနတ်ပြည်ကို ရောက်သွားကြတယ်။





စူဠာမဏိစေတီတော်ရဲ့ တံခါးမုခ်မှာ ဆရာ၊ ဒကာနှစ်ဦး ရပ်နေ ကြတုန်း မေတ္တေယျဘုရားလောင်းနတ်သားဟာ နတ်ပရိသတ်အမြောက် အမြား ခြံရံပြီး စူဠာမဏိစေတီတော်ကို ဖူးမြော်ဖို့ တုသိတာနတ်ဘုံမှ ဆင်းသက်လာတယ်။

အဲဒီ နတ်ပရိသတ်ကို ဒကာကမြင်တဲ့အခါ မထေရ်ကိုမေးလို့ မေတ္တေယျ ဘုရားလောင်းနတ်သားဖြစ်ကြောင်း၊ ဘုရားဖူးဖို့ တုသိတာ နတ်ဘုံက ဆင်းလာကြောင်း မထေရ်က ပြောပြတယ်။

အဲဒီလို ဆရာ၊ ဒကာ နှစ်ဦး စကားပြောနေတုန်းမှာပဲ အလောင်း တော်နတ်သားဟာ သူတို့နား ရောက်လာပါတယ်။

အလောင်းတော်နတ်သားဟာ မထေရ်မြတ်ကို ရှိခိုးပြီး ဒီနတ်ပြည် ကို ကြွလာတော်မူတဲ့အကြောင်း မေးမြန်းလျှောက်ထားတယ်။ မထေရ်မြတ် က ဘုရားဖူးလာတဲ့အကြောင်း ပြောနေတုန်း ဒကာက ဘုရားလောင်း နတ်သားကို ရှိခိုးတယ်။

အလောင်းတော်နတ်သားက 'သူ့ကို ရှိခိုးတဲ့သူဟာ ဘယ်သူ ပါလဲ' လို့ မေးတဲ့အခါ မထေရ်က ဒကာရဲ့အကြောင်းကို ပြောပြတယ်။

အဲဒီအခါ အလောင်းတော်နတ်သားက ဒကာအား နတ်ပုဆိုး တစ်စုံပေးပြီး ဒါန၊ သီလ ကုသိုလ်တွေကို ပြုလုပ်ဖို့ရန် မမေ့ဖို့ ဆုံးမ မှာကြားလိုက်တယ်လို့ လေ့လာဖတ်ရှုရပါတယ်။

အဲဒီ မဟာဝံသကျမ်း၊ မဓုရသဝါဟိနီကျမ်း နှစ်ကျမ်းလုံးဟာ သီဟိုဠ်ကျွန်းမှာ နေလပမာ သာသနာထွန်းလင်းနေချိန်မှာ ရဟန္တာအရှင်မြတ် တွေ မှတ်တမ်းတင် ရေးသားပြုစုခဲ့တဲ့ ကျမ်းကြီးတွေ ဖြစ်တယ်လို့ ဆိုပါ တယ်။ အဲဒီ ကျမ်းကြီး နှစ်ကျမ်းကိုပဲ ကိုးကား အထောက်အထားပြုပြီး မုံရွေး ဇေတဝန်ကျောင်း ဆရာတော်ဘုရားကြီးကလည်း မေတ္တေယျဘုရား လောင်းဟာ ယခုအါ တုသိတာနတ်ပြည်မှာရှိတယ်လို့ ဆုံးဖြတ်ခဲ့ပါတယ်။

သုံးဆယ့်နှစ်ပါးချီ တံတားဦးတည် မော်ကွန်းမှာလည်း -

'ကမ္ဘာရင့်ညောင်း မိတေလောင်းလျှင် နတ်ပေါင်းရုံထပ် နောက် ဆုံးသပ်၍ နတ်ရပ်သာစွာ တုသိတာမှ လက်ယာစွယ်ရှင် ဖူးလာသွင်သို့ မမြင်ပါရ တောင့်တသသူ လူခပ်သိမ်းအား နတ်ပြည်သွားလည်း တစ်ပါး

မလာ သည့်နယ်သာဟု ခြင်းရာသိထွေ ညွှန်းပြပေသို့'

လို့ တုသိတာနတ်ဘုံမှာရှိကြောင်း ဖွဲ့ဆိုထားတာ တွေ့ရပါတယ်"

## မေတ္တေယျဘုရားလောင်းအကြောင်း မိန့်ဆိုချက်များ

"ဒီပဲရင်း ဆရာတော်ဘုရားကြီး ရေးသားပြုစုခဲ့တဲ့ အနာဂတဝင်ကျမ်းမှာလည်း မေတ္တေယျ ဘုရားလောင်းကား ၁၆ သင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီတော်တို့ကို ဖြည့်ကျင့်၍ စွန့်ခြင်းကြီးငါးပါးကိုစွန့်၍ ပါရမီဆယ်ပါး အပြားသုံးဆယ်တို့ကို ဖြည့်ကျင့်ပြီးလျှင် တုသိတာနတ်ပြည်၌ ဖြစ်လတ္တံ့လို့ အရှင်သာရိပုတ္တရာကို ဘုရားရှင်က မြွက်ကြားထားခဲ့ကြောင်း ရေးသားထားတာကိုလည်း တွေ့ရပါတယ်။

အခု ဆရာတို့ မြန်မာနိုင်ငံမှာရှိတဲ့ သံဂါယနာ ခြောက်တန်တင်ထားတဲ့ ထေရဝါဒပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းတွေအနက် သုတ်ပါထေယျပါဠိတော် စက္ကဝတ္တိသုတ်မှာတော့ –

'လူတို့သက်တမ်း အနှစ် ရှစ်သောင်းတမ်းမှာ ငါဘုရားလိုပဲ ဂုဏ်တော်ကိုးပါးနှင့် ပြည့်စုံတဲ့ မေတ္တေယျဘုရား ပွင့်တော်မူမယ်။ အခု ငါဘုရား တရား ဟောကြားသလို ကိုယ်တော်တိုင် ထူးသော ဉာဏ်ဖြင့် သိမြင်၍ အစ၊ အလယ်၊ အဆုံး သုံးပါးစလုံးကောင်းတဲ့ တရားတော်ကို လူ နတ် ဗြဟ္မာ သတ္တဝါများအား ဟောကြားလိမ့်မယ်။ မြတ်သောကျင့်စဉ် တရားကိုလည်း ဟောမယ်။ ငါဘုရားလိုပဲ ထောင်ပေါင်းများစွာသော ရဟန်းပရိသတ် ခြံရံပြီး ဒေသစာရီ ကြွချီတော်မူလိမ့်မယ်။ အခု ဗာရာဏသီပြည်ကြီးဟာ ကေတုမတီပြည်ကြီး ဖြစ်ပြီး သင်္ခစကြာမင်း အုပ်စိုးလိမ့်မယ်'

လို့ ဒီလောက်သာ ဟောထားတာ တွေ့ရပါတယ်။

ဗုဒ္ဓဝံသ ပါဠိတော်မှာလည်း မေတ္တေယျဘုရား ပွင့်တော်မူမယ့် အကြောင်းလောက်သာ ဟောကြားထားတယ်။ ဝိသုဒ္ဓိမဂ် အဋ္ဌကထာနဲ့ အဋ္ဌသာလိနီ အဋ္ဌကထာကျမ်း နှစ်စောင်မှာတော့ မေတ္တေယျဘုရားရှင် ခမည်းတော်ဟာ သုဗြဟ္မပုဏ္ဏား၊ မယ်တော်ဟာ ဗြဟ္မဝတီပုဏ္ဏေးမ ဖြစ်မယ်လို့ မိန့်ဆိုထားပါတယ်"





## အနာဂတဝင်ကျမ်းအဆို

"ဒီပဲရင်း ဆရာတော်ဘုရားကြီး ရေးသားခဲ့တဲ့ အနာဂတဝင်ကျမ်းမှာတော့ မေတ္တေယျဘုရားလောင်းဟာ ဂေါတမဘုရားရှင်လက်ထက်မှာ အဇာတသတ်မင်းရဲ့ သားတော်တစ်ပါး လာဖြစ်မယ်။

မယ်တော်က ကဋ္ဌနဒေဝီ မိဖုရားဖြစ်ပြီး အဇိတမင်းသားလို့ ခေါ်တယ်တဲ့။ (၁၆)နှစ်အရွယ်မှာ သာသနာ့ဘောင်ကို ဝင်သွားပြီး အဇိတ မထေရ်လို့ ထင်ရှားတယ်။

ဘုရားရှင် နိဂြောဓာရုံကျောင်းတော်မှာ သီတင်းသုံးနေတော်မူတဲ့ အခါ မိထွေးတော် ဂေါတမီဟာ ကိုယ်တိုင် ပါဝင် ရက်လုပ်ခဲ့တဲ့ ရွှေသင်္ကန်း နှစ်ထည်ကို ဘုရားရှင်ကို သွားလှူတယ်။

ဘုရားရှင်က တစ်ထည်ကိုသာ အလှူခံပြီး ကျန်တစ်ထည်ကို သံဃာကိုလှူဖို့ တိုက်တွန်းတော်မူတယ်။

မိထွေးတော်က ဘုရားရှင် တိုက်တွန်းတဲ့အတိုင်း ကျန်တစ်ထည်ကို သံဃာတော်အား ကပ်လှူတဲ့အခါ မဟာသာဝက ရှစ်ကျိပ်ကစပြီး သံဃာတော်တစ်ပါးတလေကမှ မလှူမခံရဲဘဲ ဖြစ်နေကြတယ်။

ဒီအခါမှာ သံဃာ့အလယ်ထဲ ရောက်နေတဲ့ အလောင်းတော် အဇိတမထေရ်က မိထွေးတော်ရဲ့အကျိုးကို မျှော်ကိုးပြီး မကြောက်မရွံ့ ရဲရဲဝံ့ဝံ့ အဲဒီသင်္ကန်းကို ကြွပြီး အလှူခံလိုက်သတဲ့။

အဲဒီအခါမှာ သံဃာ့ပရိသတ်ဟာ ရုတ်ရုတ်သဲသဲ ဖြစ်သွားပြီး မထေရ်ကြီးတွေတောင် အလှူမခံရဲတဲ့သင်္ကန်းကို ဒီလို အညတြ ရဟန်း တစ်ပါးက အလှူခံရဲတယ်လို့ ဆူဆူညံညံ ကဲ့ရဲ့ရှုတ်ချကြတယ်။

ကဲ့ရဲ့သံကို ဘုရားရှင် ကြားသွားတဲ့အခါ –

'ဒီရဟန်းကို အညတြလို့ မပြောကြနဲ့။ သာမန်ရဟန်း မဟုတ်ပေဘူး။ ဘုရားအလောင်းတော် ရဟန်း ဖြစ်တယ်။ နောင် မေတ္တေယျဘုရား ဖြစ်လိမ့်မယ်'

လို့ မိန့်ကြားတော်မူတယ်။

အဇိတမထေရ် ပျံလွန်တော်မူတဲ့အခါ တုသိတာဘုံမှာ အဇိတ နတ်သား ဖြစ်မယ်။ အနှစ် နှစ်သောင်းတမ်းရောက်တဲ့အခါ ကေတုမတီ

ပြည်ကြီးမှာ သခ်စကြာမင်း မင်းပြုမယ်။ အဇိတနတ်သားဟာ စကြာမင်းရဲ့ ပုရောဟိတ်ကတော်ကြီး ဗြဟ္မဝတီပုဏ္ဏေးမကြီးရဲ့ဝမ်းမှာ ပဋိသန္ဓေနေမယ်။ နောင် တောထွက်ပြီး ဒုက္ကရစရိယာ ခြောက်ရက် ကျင့်လိမ့်မယ်။ ကံ့ကော် ဗောဓိပင်အောက် ပလ္လင်တော်ပေါ်မှာ ဝိဇ္ဇာသုံးပါး သိမြင်ပြီး ဘုရားဖြစ်မယ်။ ဘုရားရဲ့ မယ်တော်က ဗြဟ္မဝတီပုဏ္ဏေးမ၊ ခမည်းတော်က သုဗြဟ္မာပုဏ္ဏား၊ မိဖုရားက စန္ဒမုက္ခီ၊ သားတော်က ဗြဟ္မာဒေဝဝံသ၊ လက်ယာရံက အသောက၊ လက်ဝဲရံက ဗြဟ္မဒေဝ၊ အလုပ်အကျွေးက သီဟလို့ အနာဂတဝင်ကျမ်းမှာ မိန့်ဆိုထားပါတယ်။

အဲဒီ အနာဂတဝင်ကျမ်းဟာ စာမျက်နှာ ၄၀ လောက်သာရှိပေမယ့် အတော်စုံပါတယ်။ ၁၄၂ ဂါထာရှိတဲ့ အနာဂတဝံသပါဠိတော်နဲ့ အနာဂတဝံသ အဋ္ဌကထာကျမ်းတွေကို မှီငြမ်းပြုပြီး ရေးထားတယ်လို့ ကျမ်းပြုဆရာတော်က မိန့်ဆိုထားပါတယ်။

စုံစုံလင်လင် သိချင်ရင် အဲဒီ ကျမ်းကလေးကို ရှာဖွေဖတ်ပါတော့”

ဟု တပည့်မအား တိုက်တွန်းလိုက်ရပေသည်။

## နိမ္မာနရတိနတ်ပြည်

နိမ္မာနရတိနတ်ပြည်သည် တုသိတာနတ်ဘုံ၏အထက် ယူဇနာလေးသောင်းနှစ်ထောင် (၄၂၀၀၀) ကွာသော ကောင်းကင်ပြင်တွင် ယာမာနတ်ပြည်၊ တုသိတာနတ်ပြည်များနည်းတူ ပန်းဆိုင်းဆွဲသကဲ့သို့ တည်ရှိ၏။ ထိုနတ်ပြည်ရှိ နတ်တို့သည် ပင်ကို ရှိပြီးသား စည်းစိမ်ထက် အလွန်အကဲ ခံစားလိုကြသည့်အခါ မိမိတို့ ကိုယ်တိုင် စိတ်တိုင်းကျ ဖန်ဆင်း၍ မွေ့လျော်လေ့ရှိသောနတ်များ ဖြစ်ကြသည်။

အောက်နတ်ပြည်လေးထပ်တို့၌ အမြဲတမ်းထားသော ကိုယ်ပိုင် ဇနီးမောင်နှံ ရှိကြသကဲ့သို့ နိမ္မာနရတိနတ်ပြည်၌လည်း အမြဲတမ်း ဇနီးမောင်နှံများ ရှိကြသည်။

ထိုနတ်တို့သည် အပိုအလွန် စည်းစိမ်ခံစားလိုကြသည့်အခါမှသာ မိမိတို့လိုရာ အဆင်း၊ အသံ စသည်တို့ကို ကိုယ့်ဘာသာကိုယ် ဖန်ဆင်းကြ၍ ထိုဖန်ဆင်းသော အာရုံ၌ပင် မွေ့လျော် ပျော်ပိုက်နေတတ်ကြသည်။





ထို့ကြောင့် ထိုနတ်တို့ကို နိမ္မာနရတိနတ်များဟု ခေါ်ကြသည်။

(နိမ္မာန = လိုရာစည်းစိမ်ကို မိမိဘာသာဖန်ဆင်း၍ + ရတိ = မွေ့လျော်ကြသည့်နတ်များ၏ဘုံ)

ထိုနတ်တို့၏ သက်တမ်းကား သူတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ရှစ်ထောင်ရှည်၍ တုသိတာနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း တစ်သောင်းခြောက်ထောင်၊ လူသားတို့၏ အရေအတွက်အားဖြင့် ကုဋေ ၂၃၀ နှင့် လေးသန်း ရှိ၏။

မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်က အရှင်အနုရုဒ္ဓါမထေရ်မြတ်၏ မိဖုရားဟောင်းဖြစ်ဖူးကြသော မနာပကာယိကာမည်သည့် နိမ္မာနရတိ နတ်သမီးတို့သည် အရှင်အနုရုဒ္ဓါမထေရ်ထံ လာကြ၍ အမျိုးမျိုး ဖန်ဆင်းပြကြသတဲ့။

ထိုနတ်ပြည်ကို အုပ်ချုပ်သော နတ်မင်းကြီးကား သုနိမ္မိတ နတ်မင်းကြီး ဖြစ်သည်။

## ဝိသာခါနှင့် နိမ္မာနရတိနတ်ဘုံ

ဝိသာခါကား ဗုဒ္ဓဘာသာဝင်များလောကတွင် အလွန် လူသိများသော ဘုရားကျောင်းအမကြီး ဖြစ်သည်။ ထိုကျောင်းအမကြီး၏အကြောင်းကား အလွန်ကျယ်ပြန့်၏။

ထို့ကြောင့် ဤနေရာ၌ လိုရင်းအကြောင်းများကိုသာ အကျဉ်းချုပ်တင်ပြပါမည်။

ဗိမ္ဗိသာရဘုရင်ကြီး စိုးမိုးအုပ်ချုပ် မင်းလုပ်ရသည့် ရာဇဂြိုဟ်ပြည်၌ တုန့်နိုင်းမရလောက်အောင် ကြွယ်ဝချမ်းသာကြသည့် (အမိတဘောဂ) သူဌေးကြီးငါးဦး ရှိ၏။

ထိုငါးဦးမှာ ဇောတိက၊ ဇဋိလ၊ မေဏ္ဍက၊ ပုဏ္ဏက၊ ကာကဝလိယတို့ ဖြစ်ကြ၏။

ဝိသာခါမှာ ထိုအမိတဘောဂသူဌေးဖြစ်သူ မေဏ္ဍကသူဌေးကြီး၏မြေး ဖြစ်သည်။ မေဏ္ဍကသူဌေးကြီး၏သား ဓနဉ္စယသူဌေးနှင့် သုမနဒေဝီသူဌေးကတော်ကြီးတို့၏သမီး ဖြစ်သည်။

ဝိသာခါသူဌေးသမီး၏ မိဘနှစ်ပါးလုံး ရှေးဘုန်းရှေးကံ ကြီးမားကြသူများ ဖြစ်ကြ၏။

ဖခင် ဓနဉ္စယသူဌေးသည် ဦးခေါင်း ဆေးလျှော်ပြီး အသပြာ တစ်ထောင်အိတ်ကိုယူ၍ –

'ငွေကြေး အလိုရှိသူတွေ လာယူကြပါ'

ဟု ကြေညာကာ လာတိုင်း လာတိုင်းသောသူတို့အား ငွေကျပ် အသပြာတို့ကို ခွက်အပြည့် ထည့်ပေး၏။

သို့သော် သူဌေး၏ အသပြာအိတ်ထဲ၌ ငွေကျပ် အသပြာ တစ်ထောင် ရှိမြဲ ရှိနေသတဲ့။

မိခင် သုမနဒေဝီ သူဌေးကတော်ကြီးသည်လည်း အဝတ်တန်ဆာများ ဝတ်စားဆင်ယင်ပြီး စပါးတောင်းကိုယူကာ အိမ်ပြင်၌ထိုင်လျက် 'မျိုးရိက္ခာထမင်း အလိုရှိသူတွေ လာယူကြပါ' ဟု ဖိတ်ခေါ်၍ လာတိုင်း လာတိုင်းသော သူတို့အား စပါးများကို ခွက်အပြည့်ထည့်ပေး၏။

သို့သော် သူဌေးကတော်ကြီး၏ တောင်းထဲ၌ စပါးများ မူလအတိုင်း ပြည့်မြဲ ပြည့်လျက်ရှိ၏။

## ဝိသာခါ၏ ဘုန်းကံပါရမီ

မိဘ နှစ်ပါးကသာ ရှေးဘုန်းရှေးကံ ကြီးမားကြသည် မဟုတ်။ ဝိသာခါ သူဌေးသမီးကိုယ်တိုင် ကဿပဘုရားရှင် လက်ထက်တော်၌ ကာသိတိုင်းရှင် ကိကီဘုရင်ကြီး၏သမီးတော် ခုနစ်ဖော်တွင် အထွေးဆုံး သံဃဒါသီ မင်းသမီးဖြစ်စဉ် နှစ်ပေါင်း နှစ်သောင်းတိုင်တိုင် အစ်မတော်များနှင့်အတူတူ အပျိုကြီးလုပ်ကာ ကောမာရိယဗြဟ္မစရိယသီလကို ကျင့်သုံးလျက် သံဃာ့အရာမ် ပရဝဏ်ကျောင်းတိုက်ကြီးကို ဆောက်လုပ်လှူဒါန်းခဲ့၍ ပါရမီဓာတ်ခံ အားကောင်းခဲ့၏။

ထို့ကြောင့် အဘိုးဖြစ်သူ မေဏ္ဍကသူဌေးကြီး၏ အစီအစဉ်အရ ရံရွေတော်ငါးရာတို့နှင့်အတူ မြတ်စွာဘုရားထံတော်မှောက် ရောက်သွားရာ တရားတော်ကို နာကြားရ၍ ခုနစ်နှစ်သမီးတော် အရွယ်မှာပင် ရံရွေဖော် ငါးရာတို့နှင့်တူ သောတာပန်အရိယာ ဖြစ်သွားခဲ့သည်။





ဆင်ပြောင်ငါးစီး အားကို ဆောင်နိုင်၍ အဖိုး ကိုးကုဋေတန်သော မဟာလတာ တန်ဆာကြီးကို ဆင်ယင်ရသည်။

ဖခင် ဓနဉ္စယ သူဌေးကြီးသည် ရှေးဘုန်းရှေးကံ ကြီးမားသူဖြစ်သည့်အလျောက် အမြော်အမြင် ဉာဏ်ပညာကြီးသူ ဖြစ်၏။

ချစ်သမီး ဝိသာခါအား သာဝတ္ထိပြည် မိဂါရသူဌေး၏သား ပုဏ္ဏဝဍ္ဎနနှင့် လက်မထပ်မီ –

'အိမ်တွင်းမီးကို အပြင်မထုတ်ရ၊

အိမ်ပြင်ကမီးကို အိမ်တွင်းသို့ မသွင်းရ'

စသော အိမ်ရှင်မကောင်းတို့မှာ ရှိရမည့် ကျင့်ဝတ်ဆယ်ချက်ကို ပဟေဠိဆန်ဆန် ဆုံးမဩဝါဒ ပေးလိုက်၏။

မင်းပရိသတ်အလယ်တွင်လည်း ပညာရှင် သူကြွယ်ရှစ်ဦးတို့ကို–

'ရောက်လေရာအရပ်၌ ကျွန်ုပ်သမီးကလေးမှာ အပြစ်တစ်စုံတစ်ရာ ဖြစ်လာခဲ့ပါလျှင် အသင် ပညာရှင်ကြီး ရှစ်ဦးတို့က တာဝန်ယူသုတ်သင် ဖြေရှင်းပေးကြပါ' ဟု အာမခံစေသည်။

ဤစီမံချက်များသည် ယောက္ခမအိမ်တွင် လိုက်နေသူ ချစ်သမီး ဝိသာခါ အဖို့ အလွန် အကျိုးများခဲ့သည်။

ဓနဉ္စယသူဌေးသည် ချစ်သမီး ဝိသာခါကို အဖိုးကိုးကုဋေတန်သော မဟာလတာတန်ဆာဖြင့် တန်ဆာဆင်စေ၏။

သမီးအား နံ့သာမှုန့်ဖိုးအနေဖြင့် လှည်းအစီး ၁၅၄ စီးတိုက်ဥစ္စာကို ပေး၏။

ကျွန်မ ငါးရာ၊ အာဇာနည်မြင်းကသည့် ရထားအစီးငါးရာ၊ အသုံးအဆောင်မျိုးစုံကိုလည်း တစ်မျိုး တစ်မျိုးလျှင် တစ်ရာစီ တစ်ရာစီ ပေးသည်။ ထို့နောက် ချစ်သမီးကို သာဝတ္ထိပြည် မိဂါရသူဌေးအိမ်သို့ ကြီးကျယ်သော အခမ်းအနားဖြင့် ပို့လေသည်။

## အတုယူစရာ ဝိသာခါ

ဝိသာခါ၏ယောက္ခမ မိဂါရသူဌေးကြီး မိသားစုကား အဝတ်မဖုံး၊ ကိုယ်တုံးလုံး ဒိဋ္ဌိတက္ကတွန်းများကို ကိုးကွယ်သူ မိစ္ဆာဒိဋ္ဌိများ ဖြစ်ကြ၏။

မနုဿယသူဌေးကြီးတို့ မိသားစုမှာ ဖခင် မေဏ္ဍကသူဌေးကြီးက သောတာပန်၊ သမီးကလေး ဝိသာခါကလည်း သောတာပန်ဖြစ်၍ ဗုဒ္ဓ ရတနာ စသည့် ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သည့် သမ္မာဒိဋ္ဌိများ ဖြစ်ကြ၏။ ထိုသို့ ဖြစ်ပါလျက် မနုဿယသူဌေးကြီးသည် မိမိ၏ သမီးကို ဘာသာမတူသူနှင့် လက်ထပ်ရသည့်အကြောင်းမှာ စဉ်းစားစရာ ဖြစ်သည်။

ထိုခေတ်အခါက အိန္ဒိယနိုင်ငံတွင် အမျိုးဇာတ်သည် ထိပ်တန်းသို့ ရောက်ရှိနေချိန် ဖြစ်သည်။ ဇာတ်မြင့်၊ ဇာတ်နိမ့် ခွဲခြားမှုသည် ဟိန္ဒူ ဗြာဟ္မဏလူမျိုးများ၌ ယခုတိုင် ရှိနေသေး၏။ ထိုအချိန်က ဇာတ်ကို အယူ ဘာသာထက် ပို၍ အလေးထားကြဟန် ရှိသည်။

ဤအချက်ကို မနုဿယသူဌေးကြီး၏ ပြောဆိုချက်၌ တွေ့ရ၏။

မိဂါရ သူဌေးကြီးထံမှ လွှတ်လိုက်သည့် ပညာရှိကြီးများကို မနုဿယသူဌေးကြီးက –

"ကောင်းပြီ ဆရာကြီးတို့၊ ဆရာကြီးတို့ရဲ့ သူဌေးသည် စည်းစိမ် ဥစ္စာအနေဖြင့် ငါတို့နှင့် မတူညီသော်လည်း အမျိုးဇာတ်အားဖြင့်မူ တူညီ ပေ၏။ စည်းစိမ်၊ အမျိုးဇာတ်ပါ တူညီသည့်သူကို လောကမှာ ရခဲလှပါ တယ်။ ငါတို့က လက်ခံကြောင်း သင်တို့သူဌေးကိုသာ ပြောကြားကြပါ"

ဟု လက်ခံ ပြောဆိုလိုက်ခြင်း ဖြစ်သည်။

တစ်နည်းအားဖြင့် –

'ငါတို့သမီးသည် သောတာပန် အရိယာ ဖြစ်နေပြီဖြစ်လို့ သူတို့ မိစ္ဆာဒိဋ္ဌိ အသိုင်းအဝိုင်းထဲ ရောက်သွားပေမယ့် မိစ္ဆာဒိဋ္ဌိ ဖြစ်မသွားနိုင်၊ ဖြစ်ချင်းဖြစ်လျှင် ငါ့သမီးကြောင့် သူတို့သာ သမ္မာဒိဋ္ဌိ (ဗုဒ္ဓဘာသာဝင်) ဖြစ်လာနိုင်စရာရှိတယ်'

ဟု ယုံကြည်ပြီး ဘာသာမတူသူနှင့် လက်ထပ်ပေးလိုက်ခြင်း ဖြစ်သည် ဟူ၍လည်း ယူဆနိုင်ပေသည်။

သမီးအလိမ္မာ ဝိသာခါသည် ခုနစ်နှစ်သမီးကပင် သောတာပန် အရိယာ ဖြစ်ခဲ့သူပီပီ မိဂါရမာတာ (မိဂါရသူဌေး၏မယ်တော်) ဘွဲ့ရသည့် အထိ ယောက္ခမ မိဘနှစ်ပါးစလုံးကို သောတာပန် အရိယာဖြစ်အောင် ဆွဲဆောင်သိမ်းသွင်းနိုင်၍ ချွေးမအလိမ္မာ ဝိသာခါ ဖြစ်ခဲ့သည်။





ဤသည်မှာ ဝိသာခါ၏ ထူးခြားသောအရည်အသွေး ဖြစ်၏။ ယခုခေတ် ဘာသာမတူသူနှင့် အကြောင်းအားလျော်စွာ အိမ်ထောင်ပြုကြရသူ ဗုဒ္ဓဘာသာဝင် အမျိုးသမီးများ ဝိသာခါကို အတုယူစရာကောင်းလှ၏။

## ထူးခြားချက်များစွာ ဝိသာခါ

ပါရမီရှင်ဖြစ်သည့်အားလျော်စွာ ဝိသာခါ၌ ထူးခြားချက်များစွာ ရှိပေသည်။ သူသည် မိန်းမသား ဖြစ်သော်လည်း ဆင်ပြောင်ငါးစီးတို့၏ အားကို ဆောင်နိုင်၏။

တစ်ချိန်က ကောသလမင်းကြီး ကိုယ်တိုင် စမ်းသပ်ခဲ့ဖူး၏။ ဘုရားကျောင်းတော်မှ ဝိသာခါ တရားနာပြီး ပြန်လာချိန်တွင် ဆင်ထိန်း တို့အား ဆင်ပြောင်ကြီးတစ်စီးကို လွှတ်ခိုင်းလိုက်၏။

ဆင်ပြောင်ကြီးသည် နှာမောင်းကိုချီပြီး ထိုးသတ်မည့်ဟန်ဖြင့် ဝိသာခါရှိရာသို့ ပြေးလာသတဲ့။ ရံရွေဖော်ငါးရာတို့တွင် အချို့က ထွက်ပြေး ကြ၏။ အချို့က ဝိသာခါကို ဝိုင်းဝန်းဖက်ထားကြ၏။

ဝိသာခါ သူဌေးသမီးကမူ –

'ဒီဆင်ပြောင်ကို ငါ့အားရှိသလောက် တင်းတင်းကျပ်ကျပ် ဖမ်းယူလိုက်ရင် သူသေသွားမယ်'

ဟု စဉ်းစားပြီး ဟန်မပျက် ရှိနေ၏။

ထို့နောက် အနီးကပ်လာသည့် ဆင်ပြောင်ကြီး၏ နှာမောင်းကို လက်ချောင်းကလေး နှစ်ချောင်းဖြင့်သာ ညှပ်ကိုင်၍ တွန်းလှဲလိုက်ရာ ဆင်ပြောင်ကြီး ဗိုင်းဗိုင်းလဲသွားသည်။ မြင်ရသူတို့က သာဓုခေါ်ကာ ကောင်းချီးပေးကြသည်။

ဝိသာခါသူဌေးမသည် အသက် ၁၂၀ ရှည်သူ ဖြစ်၏။ သို့ရာတွင် ဦးခေါင်း၌ ဆံဖြူတစ်ပင်မျှ မပေါက်ချေ။ အမြဲတစေ အသက် ၁၆ နှစ် အရွယ်ကဲ့သို့ ပျိုမျစ်နုနယ်နေ၏။

ဘုရားကျောင်းတော်သို့ သား၊ သမီး၊ မြေး၊ မြစ်တို့ ခြံရံပြီး သွားသည့်အခါ 'ဘယ်ဟာ ဝိသာခါပါလဲ' ဟု မေးယူရလောက်အောင် ပျိုမျစ်နုနယ်၏။

ဝိသာခါ သွားနေသည်ကို မြင်ရသူများကလည်း -

"သွားနေပါစေ၊ သွားနေတာ ကြည့်ကောင်းတယ်၊ တင့်တယ်တယ်" ဟူ၍ လည်းကောင်း၊

ရပ်နေသည်ကို မြင်ရသူများကလည်း -

"ရပ်နေပါစေ၊ ရပ်နေတာ တင့်တယ်တယ်"

ထိုင်နေသည်ကို မြင်ရသူများက -

"ထိုင်နေပါစေ၊ ထိုင်နေတာ တင့်တယ်တယ်"

လျောင်းစက်နေသည်ကို မြင်ရသူများက -

"လျောင်းစက်နေပါစေ၊ လျောင်းစက်နေတာ တင့်တယ်တယ်"

ဟူ၍ လည်းကောင်း မှတ်ထင် ပြောကြားရလောက်အောင် လျောင်း၊ ထိုင်၊ ရပ်၊ သွား ဣရိယာပုတ်လေးပါးလုံး၌ တင့်တယ်သူ ဖြစ်ပေသည်။

## တောင်ရ ကျောင်းအမကြီး

ဝိသာခါသူဌေးကတော်ကြီး၏ ပဒုမုတ္တရာဘုရားရှင်လက်ထက်၌ တောင်းခဲ့သော ဒါနအရာ အထူးချွန်ဆုံးဆု (ဒါယိကာ ဧတဒဂ်) သည် ယခုဘဝတွင် ရရှိတော့မည် ဖြစ်၏။

ထို့ကြောင့် ဝိသာခါသည် ပေးကမ်းလှူဒါန်းမှု၌ အလွန်မွေ့လျော်၏။ မဟာလတာတန်ဆာကြီး ဘုရားကျောင်းတော်၌ မေ့ကျန်ရစ်ခဲ့သည်ကို အကြောင်းပြု၍ ပုဗ္ဗာရုံကျောင်းတော်ကြီး ဆောက်လုပ်ပြီး ဘုရားအမှူးရှိသော သံဃာတော်များအား လှူဒါန်းသည်။

ထိုကျောင်းတော်ကြီးမှာ ဘုံခုနစ်ဆင့်ရှိသည်။ နှစ်ထပ်ပြာသာဒ် ကျောင်းတော်ကြီး ဖြစ်၏။ အောက်ထပ်၌ တိုက်ခန်း ၅၀၀၊ အထက်ထပ်၌ တိုက်ခန်း ၅၀၀၊ ပေါင်း တိုက်ခန်းပေါင်း ၁၀၀၀ ရှိ၏။

ထိုကျောင်းတော်ကြီးကို ဝန်းရံပြီး ကမ္မဋ္ဌာန်းကျောင်း ၅၀၀၊ ပြာသာဒ်ငယ် ၅၀၀၊ တန်ဆောင်းရှည် ၅၀၀ တို့ကို ဆောက်လုပ်ထား၏။

သာဝတ္ထိမြို့ အရှေ့မျက်နှာတံခါးပေါက်၏ အပြင်ဘက်အနီးတွင် တည်ရှိသောကြောင့် ပုဗ္ဗာရုံကျောင်းတော်ဟု ခေါ်၏။





ကျောင်းမြေဝယ်ရာ၌ ကိုးကုဋေ၊ ကျောင်းဆောက်လုပ်ရာ၌ ကိုးကုဋေ၊ ကျောင်းရေစက်ချပွဲကြီး လေးလကြာ ကျင်းပရာ၌ ကိုးကုဋေ ပေါင်း ၂၇ ကုဋေသော ဥစ္စာတို့ကို ဘုရားသာသနာ၌ လှူဒါန်း၏။

ရေစက်ချပွဲကြီး၌ ကျောင်း၊ သင်္ကန်း၊ ဆေး၊ ဆွမ်း ပစ္စည်းလေးပါးစုံ လှူဒါန်း၏။

ကျောင်းအမကြီးသည် နံနက်တိုင်း ရဟန်းသံဃာများအား ဆွမ်းလှူဒါန်း၏။ အနာထပိဏ်သူဌေးအိမ်၌ကဲ့သို့ပင် ဝိသာခါ၏ အိမ်မှာလည်း အာဂန္တုဆွမ်း၊ ခရီးသွားဆွမ်း စသော ဆွမ်းမျိုးစုံတို့ကို အသင့် စီမံချက်လုပ်ထား၏။ မွန်းလွဲချိန်တွင် ထောပတ် စသည့် ဆေးပစ္စည်းများနှင့် အဖျော်ယမကာများကို ကျောင်းတိုက်သို့ သွားပြီး နေ့စဉ် လှူဒါန်း၏။

ထို့နောက် မြတ်စွာဘုရား၏ တရားတော်ကို နာကြားပြီးမှ အိမ်ပြန်လာ၏။ ဤသည်မှာ ဝိသာခါကျောင်းအမကြီး၏ နေ့စဉ်ပြုနေကျ နိဗဒ္ဓကောင်းမှုဝတ် ဖြစ်၏။

## ဘုံစဉ်စံမည့် ဝိသာခါ

ထို့ကြောင့် မြတ်စွာဘုရားသည် -

"ရဟန်းတို့၊ အလှူဒါနမှု၌ မွေ့လျော်ကြသည့် ဥပါသိကာမတို့တွင် မိဂါရမာတာ၊ ဝိသာခါကျောင်းအမသည် အသာဆုံး၊ အမြတ်ဆုံး၊ အထူးချွန်ဆုံးဖြစ်သည်"

ဟု ဒါယိကာမဧတဒဂ်ရာထူး ပေးတော်မူခြင်း ဖြစ်၏။

ထိုဝိသာခါ ကျောင်းအမကြီး ကွယ်လွန်သည့်အခါ နိမ္မာနရတိ နတ်ပြည်၌ သုနိမ္မိတမည်သော နတ်မင်းကြီး၏မိဖုရား သွားဖြစ်ပေသည်။

ဝိသာခါသည် အနာထပိဏ်သူဌေးနှင့် သိကြားမင်းတို့ကဲ့သို့ ဝဋ်ဆင်းရဲ၌ အလွန်မွေ့လျော်သူ (ဝဋ္ဋာဘိရတ) ဖြစ်သည်။

ထို့ကြောင့် နိမ္မာနရတိဘုံမှ ပရနိမ္မိတဝသဝတ္တိဘုံတွင် အနာဂါမ်မဂ်ကိုရပြီး သုဒ္ဓါဝါသ အဝိဟာဘုံသို့ ပြောင်းဖြစ်ကာ ဘုံစဉ်အတိုင်း စံစားခံစားပြီးမှ နောက်ဆုံး အကနိဋ္ဌသုဒ္ဓါဝါသဘုံ၌ ပရိနိဗ္ဗာန်ပြုမည် ဖြစ်၏။

ထို့ကြောင့် -

'ရေးချူချာ၊ မေးပုဆာ ထင်တော်ရှိပါနှင့်
သာကီနွယ်ဘုန်း ။ ။
ဝိသာခါ၊ ပရွေနိမ္မာက၊
ဘယ်ဗြဟ္မာဘုံကို ယွန်းလို့၊
ကွန်းထောက်မတုံး'

ဟူသော မန်လည် ဆရာတော်ဘုရားကြီး၏အမေးကို မင်းကွန်းတောရ အရှည၀ါသီ ဆရာတော်ဘုရားကြီးက –

'ရေးချူချာ၊ မေးပုဆာ ထင်တော်ရှိပါဘု၊
သာကီနွယ်ငဲ့။
ဝိသာခါ၊ ပရွေနိမ္မာက၊
အဝိဟာဘုံကို ယွန်းလို့
ကွန်းထောက်မည်တဲ့'
ဟု ဖြေဆိုတော်မူခဲ့လေသည်။

❐



# ပရနိမ္မိတဝသဝတ္တိနတ်ပြည်

နိမ္မာနရတိနတ်ဘုံ၏အထက် ယူဇနာ လေးသောင်းနှစ်ထောင် (၄၂၀၀၀) ကွာဝေးသော ကောင်းကင်ကျယ်ကြီးတွင် စကြဝဠာတံတိုင်းထိအောင် ပန်းဆိုင်းဆွဲထားသကဲ့သို့ နတ်ဘုံနတ်နန်းတို့ဖြင့် အုံ့မခန်းတည်နေသောပြည်ကို ပရနိမ္မိတဝသဝတ္တိနတ်ပြည်ဟု ခေါ်၏။

ထိုနတ်ပြည်ရှိ နတ်သားတို့သည် နိမ္မာနရတိ နတ်များကဲ့သို့ စည်းစိမ်ချမ်းသာတို့ကို ကိုယ်တိုင် ဖန်ဆင်း၍ မခံစားကြကုန်။

အလုပ်အကျွေးဖြစ်ကြသည့် နတ်များက နတ်ကြီးများ၏အလိုကို သိကြပြီး ဖန်ဆင်းပေးကြသည့် စည်းစိမ်ချမ်းသာများကိုသာ အဆင်သင့်သုံးဆောင် ခံစားလေ့ ရှိကြသည်။

ထို့ကြောင့် ထိုနတ်ကြီးများကို ပရနိမ္မိတဝသဝတ္တိ နတ်များဟု ခေါ်၏။

အဓိပ္ပာယ်မှာ ရှိမြဲအာရုံ ကာမဂုဏ်ထက် အပိုအလွန် ခံစားလိုသောအခါ နိမ္မာနရတိနတ်တို့ကဲ့သို့ ကိုယ်တိုင် မဖန်ဆင်းဘဲ အစေအပါးဖြစ်သောနတ်များက အလိုက်သိစွာ ဖန်ဆင်းပေးသော စည်းစိမ် ချမ်းသာတို့၌ မိမိအလိုသို့ လိုက်ပါစေသောနတ်ကြီးများဟု ဆိုလိုပေသည်။

(ပရနိမ္မိတ=သူတစ်ပါးတို့ ဖန်ဆင်းပေးသော စည်းစိမ်ချမ်းသာတို့၌၊ ဝသဝတ္တိ=မိမိအလိုသို့ လိုက်ပါစေသောနတ်များ)

ထိုနတ်တို့၏ နေရာဘုံဌာန ဖြစ်သောကြောင့် ပရနိမ္မိတဝသဝတ္တိနတ်ပြည်ဟု ခေါ်ခြင်း ဖြစ်သည်။

ထို နတ်ပြည်၌ ဝသဝတ္တိ ခေါ် နတ်မင်းကြီး စိုးမိုးအုပ်ချုပ်မင်းလုပ်သည်။ မှန်၏။ ထိုဝသဝတ္တိနတ်မင်းကြီးသည် ရှေးလူသားဖြစ်စဉ်အခါက ဒါန၊ သီလ ဟူသော ကုသိုလ်ကောင်းမှုတို့ကို အလွန်အကျူးအထူးပြုခဲ့သောကြောင့် နတ်၌ဖြစ်သော အသက်ရှည်ခြင်း၊ အဆင်းလှခြင်း၊ ချမ်းသာကြီးခြင်း၊ အခြံအရံများခြင်း၊ အစိုးရခြင်းများနှင့် နတ်၌ ဖြစ်သော အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိအာရုံ ဟူသော ဆယ်ပါးသော ဌာနတို့၌ အခြား ပရနိမ္မိတဝသဝတ္တိနတ်တို့ကို သာလွန်လွှမ်းမိုးနိုင်ခြင်း ဖြစ်သည်ဟု အင်္ဂုတ္တရပါဠိတော် အဋ္ဌကနိပါတ်၊ ပုညကိရိယာဝတ္ထုသုတ်၌ ဟောကြားတော်မူထား၏။

ထိုဝသဝတ္တိနတ်မင်းကြီးမှာ အထက်ဆုံးနတ်ဘုံ၏နတ်မင်း ဖြစ်သောကြောင့် -

ဝသဝတ္တိ-ဝသဝတ္တိ နတ်မင်းကြီးသည်၊ မဟာနုဘာဝေါ- ကြီးသောဘုန်းတန်ခိုးအာနုဘော်ရှိသော၊ ဆကာမာဝစရိဿရော-ကာမာဝစရနတ်ပြည် ခြောက်ထပ်လုံးကို အစိုးရသော၊ မာရောနာမ-မာရ်နတ်မင်းအစစ် ဖြစ်၏ ဟု ပါရာဇိကဏ်အဋ္ဌကထာ၊ သုတ်သီလက္ခန် အဋ္ဌကထာစသော အဋ္ဌကထာကျမ်းများ၌ မိန့်ဆိုထားခြင်း ဖြစ်ပေသည်။

သို့သော် ဤ မာရ အမည်ရသည့် ဝသဝတ္တိနတ်မင်းကြီးကား ဘုရားရှင်နှင့် ဘုရားရှင်၏ တပည့် သာဝကတို့အား အနှောင့်အယှက်ပေးနေသော မာရ်နတ်သား မဟုတ်ပါချေ။

ထိုပရနိမ္မိတဝသဝတ္တိနတ်တို့၏ သက်တမ်းကား ထိုနတ်တို့၏ အရေအတွက်အားဖြင့် ၁၆၀၀၀ အသက်ရှည်၍ နိမ္မာနရတိနတ်တို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၃၂၀၀၀၊ လူသားတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ၉၂၁ ကုဋေ ၆ သန်း ရှိပေသည်။

## ဝသဝတ္တိနတ်ပြည်မှ မာရ်နတ်ကြီး

ပါဠိလို မာရကို မြန်မာလို မာရ်ဟု ခေါ်၏။ ကုသိုလ်ကောင်းမှုတို့ကို လုံးဝ မပြုသဖြင့် ကုသိုလ်တရားများကို အသေသတ်ထားသူဟု အဓိပ္ပာယ်ရ၏။ (မာရ=မာရ်=ကုသိုလ်တရားကို အသေသတ်ထားသူ)





ထိုမာရ်နတ်ကြီးကား ပရနိမ္မိတဝသဝတ္တိ နတ်ပြည်တွင် နေထိုင်သောနတ်ကြီး ဖြစ်၏။ သို့သော် ပရနိမ္မိတဝသဝတ္တိပြည်ကို အစိုးရသောနတ်မင်းကား မဟုတ်ပါချေ။ ဝသဝတ္တိနတ်ပြည်ကို စိုးမိုးအုပ်ချုပ်သောနတ်မင်းကြီးမှာ ဖော်ပြခဲ့သည့်အတိုင်း ဝသဝတ္တိနတ်မင်းကြီး ဖြစ်၏။

သို့သော် မာရ်နတ်ကြီးကား တန်ခိုးကြီး၏။ လူ့ပြည်လောကတွင် တိုင်းစွန်ပြည်ဖျားနှ၌ နောက်လိုက်နောက်ပါ အခြံအရံများစွာဖြင့် နေထိုင်၍ တိုင်းပြည်ကို လုယက်တိုက်ဖျက်ရန် ပုန်ကန် ဆိုးသွမ်းနေသော သူပုန်ခေါင်းဆောင်ကြီးကဲ့သို့ ဝသဝတ္တိနတ်ပြည်၏ နယ်တစ်စိတ်တစ်ဒေသတွင် နတ်ဆိုး၊ နတ်မိုက် အသင်းအပင်းများစွာ ခြံရံကာဖြင့် မင်းမူနေသော နတ်သူပုန်ခေါင်းဆောင်ကြီးတစ်ဦး ဖြစ်သည်။

မိမိ၏တန်ခိုးစွမ်းအားအလျောက် လူနတ်ဗြဟ္မာတို့၏ ကုသိုလ်ကောင်းမှုပြုခြင်းကို မပြုဖြစ်အောင် အမျိုးမျိုး အနှောင့်အယှက်ပေးနေသည့် ပဒေသရာဇ်နတ်မင်းကြီး ဖြစ်သည်ဟု မူလပဏ္ဏာသအဋ္ဌကထာ၌ မိန့်ဆိုထား၏။

ထိုမာရ်နတ်မင်းကြီးကို မကောင်းမှုများကိုသာ အမြဲပြုလုပ်နေသူဖြစ်သောကြောင့် ပါပိမ(အယုတ်တမာကောင်) ဟု လည်းကောင်း၊ မိမိပိုင်နက်ထဲမှ လွတ်ထွက်လိုသည့် နတ်လူဗြဟ္မာ သတ္တဝါများကို လွတ်ထွက်ခွင့် မပေးဘဲ အန္တရာယ်ပြုတတ်သောကြောင့် နမုစိဟုလည်းကောင်း၊ ကုသိုလ်တရား၌ မေ့မေ့လျော့လျော့နေလေ့ရှိသူများ၏ အပေါင်းအသင်းရောင်းရင်း မိတ်ဆွေကြီး ဖြစ်သောကြောင့် ပမတ္တဗန္ဓုဟု လည်းကောင်း နာမည်အမျိုးမျိုး ခေါ်ကြကြောင်း သုတ္တနိပါတ်အဋ္ဌကထာ၊ သုတ်မဟာဝါ အဋ္ဌကထာတို့၌ ဖွင့်ဆိုထား၏။

အမှန်စင်စစ် မာရ်နတ်ကြီးသည် ဤသြကာသလောကအတွင်းရှိ အကုသိုလ်ဘက်တော်သား လူဆိုးလူယုတ်များ၏ အကြီးအမှူး ဦးစီးခေါင်းဆောင်ကြီး ဖြစ်သည်။ မကောင်းမှု မှန်သမျှ၌ အလွန် ပျော်မွေ့သူဖြစ်၍ လောကတွင် တရားမစောင့်သူ လူဆိုးလူမိုက်များ များလေလေ မာရ်နတ်ကြီးကြိုက်လေ ဖြစ်၏။ လူနတ်ဗြဟ္မာသတ္တဝါများ ကောင်းမှုပွားပြီး မိမိပိုင်နက်မှ လွတ်ထွက်သွားမည်ကို အလွန်စိုးရိမ်၏။

## မြတ်ဘုရားနှင့် မာရ်နတ်သား

အထူးသဖြင့် လောကသားတို့၏ ကောင်းကျိုး စီးပွားအတွက် မြတ်စွာဘုရား ထင်ရှားပွင့်ပေါ်တော်မူလာခြင်းကို မာရ်နတ်ကြီး အကြောက်ဆုံး၊ အစိုးရိမ်ဆုံး ဖြစ်သည်။

ထို့ကြောင့် ဘုရားအလောင်း တောထွက်တော်မူချိန်မှစ၍ ဘုရားဖြစ်ကာ ပရိနိဗ္ဗာန်ဝင်စံတော်မူသည်အထိ အခွင့်သာတိုင်း အနှောင့်အယှက် အမျိုးမျိုး ပေးခဲ့သည်။

အထူးသဖြင့် ဘုရားအလောင်းတော် မဟာဗောဓိပင်ရင်း အပရာဇိတပလ္လင်တော်ပေါ်၌ထိုင်၍ သဗ္ဗညုတဉာဏ်တော်ကို ရယူခါနီးမှာကား မိမိ၏အင်အားကြီးမားလှသော နတ်စစ်တပ်ကြီးနှင့်အတူ မိမိ၏ တန်ခိုးအင်အား စွမ်းပကားကို ရှိသမျှ သုံးစွဲ၍ တိုက်ပွဲကြီးဝင်ခဲ့လေသည်။

မာရ်နတ်စစ်တပ်ကြီးကား မာရ်နတ်၏ရှေ့မှ ၁၂ ယူဇနာ၊ လက်ယာဘက်မှ ၁၂ ယူဇနာ၊ လက်ဝဲမှ ၁၂ ယူဇနာ၊ အထက်ဘက်၌ ၉ ယူဇနာ အမြင့်အစောက်ထုထည်ရှိ၍ နောက်မျက်နှာကမူ စကြဝဠာတိုက်အဆုံးစွန်တိုင်အောင် များပြားလှ၏။ စစ်တပ်ကြီး၏ ကြိမ်းမောင်း ဟစ်အော်ကြွေးကြော်သံကို ယူဇနာတစ်ထောင်ဝေးသည့် အရပ်ကပင် မြေပြိုသံကြီးကဲ့သို့ ကြောက်မက်ဖွယ်ရာ ကြားရပေသည်။

မာရ်နတ်ကြီးကိုယ်တိုင်က ယူဇနာ ၁၅၀ ရှိသော ဂီရိမေခလာ ဆင်ကြီးကိုစီး၍ လက်ရုံးပေါင်းတစ်ထောင် ဖန်ဆင်းကာ လက်ရုံးတစ်ခုတွင် လက်နက်တစ်မျိုးစီအားဖြင့် လက်နက်အမျိုးပေါင်းတစ်ထောင် ကိုင်ဆောင် ချီတက်လာခဲ့သည်။

ဘုရားအလောင်းတော်ကား မိမိ ဆည်းပူး ပြုလုပ်ခဲ့သည့် ပါရမီ ဆယ်ပါး ကုသိုလ်တရားများကို စဉ်းစားဆင်ခြင်၍ နေတော်မူသည်။

မာရ်နတ်ကြီးသည် ရှေးဦးစွာ ဘုရားအလောင်းထံသို့ လေဆိုးမုန်တိုင်းလက်နက်၊ မိုးကြမ်းရေဆိုးလက်နက်၊ ကျောက်ခဲကျောက်စိုင်မိုးလက်နက်၊ လှံ, ဓား စသော လက်နက်မိုး၊ သဲထုမိုး၊ ပြာပူမိုး၊ ရွံ့ညွန်ပူမိုး၊ မီးကျီးမီးခဲမိုးနှင့် အမိုက်မှောင်ကြီး ဟူသော လက်နက်ကြီးကိုးမျိုးလွှတ်၍ တိုက်ခိုက်သည်။





သို့သော် လက်နက်များ အရာမရောက် အထမမြောက် မအောင်မြင်သည်ကို သိရသောအခါ နောက်ထပ် ဥက္ကာကျအောင်ပြု၏။ ဥက္ကာကျခြင်းကြောင့် စကြဝဠာတစ်တိုက်လုံး အခိုးတွေ ဖုံးနေ၏။ ကောင်းကင်တစ်ခုလုံး ထစ်ချုန်းနေ၏။ မိုးကြိုးပေါင်း အကြိမ်အထောင်မက ကျ၏။

သို့သော် ဘေးဥပဒ်အန္တရာယ် မရှိ။ ပကတိ တည်ငြိမ်လျက်ရှိသည့် ဘုရားလောင်းကို မြင်ရသောအခါ –

"သင်း သိဒ္ဓတ္ထမင်းသားရဲ့ ဦးခေါင်းကို ထောင်းထောင်းပြတ်ကြေမြေသို့ ခစေမည်"

ဟု ကြိမ်းဝါးကာ စက်လက်နက်ကြီးကို လွှတ်လေသည်။

ထိုစက်လက်နက်ကြီးကား မြေသို့ ပစ်လွှတ်လျှင် ၁၂ နှစ်ကြာအောင် မြက်ပင် မပေါက်နိုင်။ ကောင်းကင်သို့ ပစ်လွှတ်လျှင် ၁၂ နှစ်ပတ်လုံး မိုးခေါင်၏။

မြင့်မိုရ်တောင်ထိပ်၌ ပစ်လွှင့်လိုက်လျှင် မြင့်မိုရ်တောင်ကြီးနှစ်ခြမ်းကွဲကာ အောက်သို့ လျှောကျနိုင်လေ၏။

ဤမျှ စွမ်းအင်သတ္တိ ကြီးမားသော စက်လက်နက်ကြီး ဖြစ်သည်။

ဤစက်လက်နက်ကြီးသည် ကောင်းကင်မှ မိုးကြိုး ထစ်ချုန်းမြည်ဟည်းသံကြီးဖြင့် လာရောက်ပြီး မာရ်နတ်မင်း၏ မာန်မာနကို နှိမ်ချိုးလိုက်သည့်ပမာ ဘုရားအလောင်းတော်၏ ခြေတော်ရင်း၌ ခြေသုတ်ကြိုးဝန်းအလား ခွေလျက်သား ကျရောက်လာ၏။

ထိုအခါ မာရ်နတ်ကြီးမှာ ခြေမကိုင်မိ၊ လက်မကိုင်မိဖြစ်ကာ ဒေါသတကြီး မိမိ စစ်တပ်ကြီးဖြင့် အစွမ်းကုန်ဖိ၍ ဘုရားအလောင်းကို တိုက်ခိုက်လေတော့၏။

သို့သော် ဘုရားအလောင်းတော်၏ ပါရမီဘုန်းကို လက်နက်ဖြင့် ချေမှုန်း၍ မရ။ နောက်ဆုံးတွင် မာရ်နတ်ကြီး အရှုံးနှင့် ရင်ဆိုင်ခဲ့ရသည်။

ဤမျှလောက် မကသေး။ မာရ်နတ်သားသည် ဘုရားလောင်း ဒုက္ကရစရိယာကျင့်တော်မူသည့် ခြောက်နှစ်လုံးလုံးနှင့် ဘုရားဖြစ်တော်မူပြီး တစ်နှစ် ကာလအထိ ခုနစ်နှစ်တိုင်အောင် ဘုရားရှင်နောက်တော်က တကောက်ကောက်လိုက်ကာ ဘုရားရှင်အပေါ်မှ စောင့်ကြည့်ကာ အပြစ်

ရှာသော်လည်း အပြစ်တစ်စုံတစ်ရာ မတွေ့ရှိရသဖြင့် အပြစ်ရှာခြင်းကို လက်လျှော့ခဲ့ရသည်။

အပြစ်ရှာမှုကို လက်လျှော့ခဲ့သော်လည်း ဘုရားရှင်အား အမျိုးမျိုး အနှောင့်အယှက်ပေးခဲ့သည်။

မြတ်စွာဘုရားသည် နေရဉ္ဇရာမြစ်ကမ်းအနီးက လွင်တီးခေါင်၌ ညဥ့်မှောင်မိုက်ချိန်တွင် တစ်ပါးတည်း တရားနှလုံးသွင်းနေစဉ် မာရ်နတ်သည် ဘုရားရှင် ကြောက်လန့် တုန်လှုပ်ချောက်ချားသွားအောင် ကြီးကျယ် ရှည်လျားလှသော အစွယ်နှစ်ချောင်းနှင့် နှာမောင်းကြီးများ ပါရှိသည့် ဆင်မည်းကြီးယောင်ဆောင်ကာ ထိုးတော့မည့်ဟန်ဖြင့် ခြိမ်းခြောက်၏။

တစ်ချိန်တွင်လည်း တရှူးရှူး တရှီးရှီးဖြင့် ပေါက်တော့မည့်ဟန် ဖြင့် မြွေမင်းကြီးသဏ္ဍာန် ဖန်ဆင်းပြီး ဘုရားရှင်အား ကြောက်လန့်အောင် လုပ်၏။ မြွေမင်းကြီးကား ပိန်းကောလှေကြီးသဖွယ် ကြီးကျယ် ရှည်လျား ၏။ ပါးပျဉ်းကြီးကား ဖျာကြီးတစ်ချပ်အလား ပြန့်ကား ကြီးမား၏။ မျက်စိ နှစ်ကွင်းကား ရထားလှည်းဘီး ပမာဏရှိ၍ ပြူးကျယ်လင်းလင်း တဝင်း ဝင်း တောက်ပနေ၏။ ပန်းပဲသမားတို့၏ ဖိုဆွဲသံကဲ့သို့ ထိုမြွေကြီး၏ နှာမှုတ်သံကြီးသည် တရှူးရှူးတရှီးရှီး မြည်ဟည်းနေ၏။

နောက်တစ်ဖန် ဘုရားရှင်၏ မနီးမဝေးတွင် ကျောက်တုံးကြီး များကို ဂိဇ္ဈကုဋ်တောင်ပေါ်မှ လိမ့်ချပစ်ခွဲကာ တစ်တုံးနှင့်တစ်တုံး တိုက်ခိုက် စေပြီး တဝုန်းဝုန်း မြည်ဟည်းသံကြီးကို ဖြစ်ပေါ်စေ၏။

ဂိဇ္ဈကုဋ်တစ်တောင်လုံး တုန်လှုပ်သော်လည်း မြတ်စွာဘုရားကို တုန်လှုပ်သွားအောင် မတတ်နိုင်ချေ။

အချိန်မှာ မြတ်စွာဘုရားသည် ရဟန်းတော်များအား တရားဟော ကြားနေချိန် ဖြစ်နေ၏။ ထိုအခါ မာရ်နတ်သည် တရားနာနေသည့် ရဟန်း တော်များ ပညာမျက်စိပျောက်အောင် အနှောင့်အယှက်ပြုရန် နွားလား ဥသဘကြီးသဏ္ဍာန် ဖန်ဆင်းကာ ခေတ္တ နေလှန်းထားသည့်သပိတ်များကို နင်းခြေတော့မည့်ဟန်ဖြင့်လာ၏။ ရဟန်းတစ်ပါးက လန့်ပြီး အော်သည့် အခါ တကယ့်နွားမဟုတ်၊ မာရ်နတ်ကြီးဖြစ်ကြောင်း ပြောကြားပြီး မာရ်နတ် စစ်ကို တရားဟော လွှတ်လိုက်ရသည်။





ထို့အတူ ဘုရား တရားဟောချိန်တွင် ရဟန်းတော်များ တရား မရအောင် မြေကြီးပြိုဟန် ခြောက်လှန့်သေး၏။

မြတ်စွာဘုရား ပဥ္စသာလာမည်သော ပုဏ္ဏားရွာ၌ သီတင်းသုံး ခိုက်တွင် ထိုရွာ၌ နက္ခတ်ပွဲသဘင် အကြီးအကျယ် ဆင်ယင်ကျင်းပနေ၏။ ဘုရားရှင် ရွာထဲသို့ ဆွမ်းခံဝင်လာသည့်အခါ မာရ်နတ်က ပူးဝင် နှောင့်ယှက်ထားသဖြင့် ဘုရားရှင် ဆွမ်းတစ်ဇွန်းတစ်ယောက်မျှ မရဘဲ သပိတ်ချည်းသက်သက်ဖြင့် ရွာမှထွက်ကာ ထိုနေ့အဖို့ ဗြဟ္မာကြီးများ အလား ပီတိတရားဖြင့်သာ သီတင်းသုံးခဲ့ရ၏။

ထို့အတူ ဝေရဉ္ဇာပြည်၌ မြတ်စွာဘုရား ဝါဆိုတော်မူနေစဉ်က လည်း မာရ်နတ်သည် ဝါဆိုရန် လျှောက်ထားသည့် ဝေရဉ္ဇာပုဏ္ဏားကြီးနှင့် ဝေရဉ္ဇာပြည်သူတို့ကို လည်းကောင်း၊ ဝေရဉ္ဇာပြည်၏ ပတ်ဝန်းကျင် တစ်ယူဇနာအတွင်းရှိ လူတို့ကို လည်းကောင်း ပူးဝင်တွေဝေစေ၍ ဘုရား အမှူးရှိသောသံဃာတော်တို့ကို အသိမရ၊ အမှတ်မရအောင် ပြုလုပ်ထား၏။

ထို့ကြောင့် ဘုရားအမှူးရှိသော သံဃာတော်ငါးရာလုံး ဝေရဉ္ဇာ ပြည်ထဲ ဆွမ်းခံကြသည့်အခါ ကန်တော့ဆွမ်းမျှပင် မရကြသဖြင့် မြို့ပြင်ရှိ မြင်းကုန်သည်တို့ လှူဒါန်းသည့် မုယောဆန်မျှဖြင့် ဝါတွင်းသုံးလပတ်လုံး မျှတသီတင်းသုံးကြရရှာ၏။

ဤကဲ့သို့ မာရ်နတ်သည် အခါအခွင့်သင့်တိုင်း မြတ်စွာဘုရားနှင့် ဘုရားရှင်၏ တပည့်သာဝကများအား အနှောင့်အယှက် အမျိုးမျိုးပေးခဲ့ လေသည်။

## မာရ်နတ်သမီးနှင့် မြတ်စွာဘုရား

ဤသို့ မာရ်နတ်သားသည် မြတ်စွာဘုရားအပေါ် အပြစ်ရှာ၍ တစ်စုံတစ်ရာမျှ မတွေ့သဖြင့် –

'ဒီသိဒ္ဓတ္ထမင်းသားဟာ တကယ်ပင် ငါ၏ အလိုနိုင်ငံ ဘုံသုံးတန်မှ လွတ်မြောက်သွားခဲ့လေပြီ'

ဟု စိတ်နှလုံး ပူချုံး နွမ်းနယ်ကာ ဗုဒ္ဓမြတ်စွာနှင့် မနီးမဝေးသော လမ်းမကြီးတွင် ကြံတွေး ငေးမှိုင် ဆောင့်ကြောင့်ထိုင်နေ၏။

ထို့နောက် –

'ငါသည် ဤမင်းသားလို ဒါနပါရမီ မဖြည့်ကျင့်၊ မဆည်းပူးခဲ့မိတဲ့အတွက် ဒီမင်းသားနဲ့ငါ တူတန်သူ မဖြစ်နိုင်'

ဟု စိတ်ကူးပြီး မြေကြီးမှာ အကြောင်းကြီးတစ်ကြောင်း ရေးဆွဲ၏။ ဤသို့ ပါရမီဆယ်ပါးအတွက် ဆယ်ကြောင်း ရေးဆွဲ၏။

ထို့နောက် ဆက်လက်ပြီး –

'ငါဟာ ဒီမင်းသားလို အခြား သူတွေနဲ့ မဆက်ဆံတဲ့ ဣန္ဒြိယ ပရောပရိယတ္တိ ဉာဏ်တော်ကိုရရန် ပါရမီတော်တွေကို မဆည်းပူးခဲ့တဲ့အတွက် ဒီမင်းသားနဲ့ငါ တူတန်သူ မဖြစ်နိုင်'

စသည်ဖြင့် အခြား သူများနှင့် မဆက်ဆံ ဘုရားရှင်တို့သာ ရနိုင်တဲ့ (အသာဓာရဏ) ဉာဏ်တော်ခြောက်ပါးတို့ကို စိတ်ကူးပြီး မြေကြီးမှာ တစ်ဉာဏ်လျှင် တစ်ကြောင်းကျ အရေးအကြောင်း ခြောက်ကြောင်းကို ရေးဆွဲ၏။

ဤသို့ မြေကြီးမှာ အရေး တစ်ဆယ့်ခြောက်ကြောင်းတို့ကို စိတ်ပျက်ပျက်ဖြင့် ရေးခြစ်နေစဉ် တဏှာ၊ အရတိ၊ ရဂါ ခေါ်သည့် သူ၏ သမီးတော် သုံးယောက်တို့က သူတို့ဖခင် ကြံတွေးငေးမှိုင် ဆောင့်ကြောင့်ကြီး ထိုင်နေသည်ကို တွေ့သွားကြ၏။

တဏှာ ဆိုသည်မှာ မြင်ရလျှင် အနားက မခွာနိုင်အောင် တွယ်တာစရာကောင်းသည့် နတ်သမီး ဖြစ်၏။

အရတိမှာ မြင်ရလျှင် တူနှစ်ကိုယ်ယှဉ်တွဲ ပျော်ပွဲစံစရာကောင်းသည့် နတ်သမီး ဖြစ်၏။

ရဂါကား မြင်ရလျှင် မကြင်ရ မနေနိုင်အောင် စွဲမက်စရာကောင်းသည့် နတ်သမီး ဖြစ်၏။

ထိုနတ်သမီး သုံးယောက်တို့သည် ဖခင်ရှိရာသို့ သွားကြပြီး –

"ဖခင် ဘာကြောင့် နှလုံးမသာမယာ ဆောင့်ကြောင့်ထိုင်ကာ ငေးမှိုင်နေရသလဲ"

ဟု မေးကြ၏။

"ချစ်သမီးတို့၊ ရဟန်းကြီး ဂေါတမဟာ ငါ့အလိုနိုင်ငံ ဘဝ





သုံးတန်မှ တော်လှန် လွတ်မြောက်သွားလေပြီ။ ငါ ခုနစ်နှစ်ပတ်လုံး နောက်က တကောက်ကောက်လိုက်ပြီး အပြစ်ရှာပေမယ့် အပြစ်တင်ခွင့်ကို မတွေ့ခဲ့ရတဲ့အတွက် ဒီလိုထိုင်ကာ ငေးမှိုင်နေတာဖြစ်တယ်" ဟု ပြောပြ၏။

သမီးတို့က –

"အို–ဖခင်၊ ဒီလိုဆိုရင် မစိုးရိမ်ပါနဲ့။ သမီးတို့ ဒီရဟန်းဂေါတမကို ဖြားယောင်းသွေးဆောင်ပြီး ဖခင်ထံမှောက်ရောက်အောင် ခေါ်ခဲ့ကြပါမယ်"

ဟု ဆိုကြ၏။

"ချစ်သမီးတို့၊ သမီးတို့ ပြောသလို မလွယ်လှပါ။ ဒီလောကမှာ ဘယ်သူမှ ရဟန်းဂေါတမကို ဖြားယောင်း သွေးဆောင်နိုင်မှာ မဟုတ်ပါဘူး။ သူဟာ မတုန်မလှုပ် မြဲမြံခိုင်ခံ့တဲ့ ယုံကြည်မှု အစလသဒ္ဓါ ရှိနေသူဖြစ်တယ်"

ဟု တားမြစ်၏။

သို့သော် တားမရ၊ သမီး သုံးယောက်လုံးက –

"ဖခင်၊ သမီးတို့ဟာ မိန်းမတွေပါ။ အခုပဲ ဒီရဟန်းကြီး ဂေါတမကို ရာဂကျော့ကွင်း ချော့သွင်းပြီး ဖခင်ထံ အမြန် ခေါ်ဆောင်လာကြပါ့မယ်"

ဟုဆိုပြီး တစ်လောကလုံး အချောဆုံး အလှဆုံးဖြစ်အောင် ဖန်ဆင်းကာ ဘုရားရှင်ထံမှောက်သို့ သွားရောက်ကြသည်။

ဘုရားထံမှောက် ရောက်ကြသည့်အခါ –

"အရှင်၊ အရှင်၏ ခြေတော်ရင်း၌ ဝပ်စင်းခစားကြကာ လိုသမျှ အာရုံတွေကို အကုန်ပေးပြီး ကျွန်မတို့ လုပ်ကျွေးပြုစုပါရစေ"

ဟု ချစ်ခင်ဖွယ်ရာ တီတီတာတာ ပြောကြားသတဲ့။

သို့သော်လည်း ဘုရားရှင်ကမူ မျက်စိတော်ကိုပင် ပင့်မကြည့်ဘဲ ဖလသမာပတ်ကို ဝင်စားကာ နိဗ္ဗာန်ချမ်းသာကို ခံစားနေ၏။

ထိုအခါ နတ်သမီး သုံးယောက်တို့သည် –

"ယောကျ်ားတွေဆိုတာ အလိုစရိုက် အကြိုက်အမျိုးမျိုး ရှိကြတယ်။ ယောကျ်ားအများက နုထွားရွှန်းစို အပျိုစင်ကိုမှ ချစ်တတ်ကြပေမယ့် တချို့ကျတော့ သားမဖွားမိအရွယ်၊ တစ်သားမွေး တစ်သွေးလှတဲ့အရွယ်၊ သားနှစ်ယောက်မိခင်အရွယ်တွေကို နှစ်သက်ကြတယ်။

တချို့ကျတော့လည်း မကြီးမငယ် အလယ်အလတ်အရွယ်မျိုးနဲ့ အရွယ်ခပ်ကြီးကြီးကိုမှ ကြိုက်တတ်ကြတယ်။

ဒါကြောင့် ရဟန်း ဂေါတမကို ငါတို့ အမျိုးမျိုးအဖုံဖုံ ခပ်စုံစုံ ဖန်ဆင်းပြပြီး သွေးဆောင်ဖြားယောင်းကြမယ်"

ဟု တိုင်ပင်ကြသည်။

ထို့နောက် တစ်ယောက် တစ်ယောက်လျှင် တစ်ရာစီ တစ်ရာစီ–

(၁) နုထွားရွှန်းစို အပျိုစင်များအသွင်၊

(၂) သားမဖွားရသေးသော အမျိုးသမီးများအသွင်၊

(၃) တစ်သားမွေး တစ်သွေးလှသည့် အမျိုးသမီးများအသွင်၊

(၄) သားနှစ်ယောက်မိခင်များအသွင်၊

(၅) မိန်းမလတ်များအသွင်၊

(၆) မိန်းမကြီးများအသွင်

အမျိုးမျိုးအဖုံဖုံ လှပတင့်တယ် ချစ်စိတ်ဝင်ဖွယ်ဖြစ်အောင် အစွမ်းကုန် ဖန်ဆင်းကြပြီး ခြောက်ကြိမ်တိုင်တိုင် ဘုရားရှင်ထံမှောက်သို့ သွားရောက်ကြပြီး –

"အရှင်၊ အရှင်၏ခြေတော်ရင်း၌ ဝပ်စင်းခစားပြီး အရှင်လိုချင်သမျှ အာရုံတွေကို အကုန်ပေးကာ လုပ်ကျွေး ပြုစုကြပါရစေ"

ဟု ဖြားယောင်းသွေးဆောင်ကြ၏။

သို့သော် ရှင်တော်ဗုဒ္ဓသည် ရှေးနည်းတူ မျက်စိတော်ကိုပင် ဖွင့်မကြည့်ဘဲ ဖလသမာပတ်ကိုသာ ဝင်စားနေတော်မူလေသည်။

မကြာမီမှာပင် ဘုရားရှင်က –

"နတ်သမီးတို့ သွားကြပါကုန်၊ သင်တို့ဟာ ဘယ်အကျိုးကို မြင်လို့ ယခုလို လာရောက် ဖြားယောင်းသွေးဆောင်နေကြပါသလဲ။ ရာဂ၊ ဒေါသ၊ မောဟ မကင်းသောသူတွေမှာတော့ သင်တို့အလိုသို့ ပါကြလိမ့်မယ်။ ရာဂ၊ ဒေါသ၊ မောဟတရားတွေ လုံးဝ ကင်းစင်နေတဲ့ ငါဘုရားရှင်ကိုတော့ သင်တို့ ဘယ်လိုနည်းနှင့်မှ မဆွဲဆောင်နိုင်ကြပါ။ သင်တို့ ပြန်သွားကြပါကုန်"

ဟု ပြတ်ပြတ်သားသား မိန့်ကြားတော်မူလိုက်သည်။





ထိုအခါမှ နတ်သမီးသုံးယောက်တို့သည် –

"ငါတို့ဖခင်ပြောတာ မှန်ပါပေတယ်။ ရဟန်းကြီးဟာ အရဟံဂုဏ်ရှင်၊ သုဂတဂုဏ်ရှင် ဖြစ်တော်မူတဲ့အတွက် ငါတို့ ရာဂနဲ့ သွေးဆောင်လို့ မရနိုင်တဲ့ ပုဂ္ဂိုလ်ကြီးဖြစ်တယ်"

လို့ ချီးမွမ်းစကား ပြောကြားကာ ဖခင် မာရ်နတ်မင်းထံသို့ စိတ်ပျက်စွာ ပြန်သွားကြရသည်ဟု ကျမ်းဂန်၌ လာရှိပေသည်။

## ရှင်မောဂ္ဂလာန်နှင့် မာရ်နတ်ကြီး

တစ်ချိန်က အရှင်မောဂ္ဂလာန်သည် သုသုမာရဂိရမြို့အနီး ဘေးမဲ့တောကျောင်း၌ သီတင်းသုံးတော်မူ၏။

မာရ်နတ်သည် လွင်တီးခေါင်၌ စင်္ကြံကြွနေသည့် ရှင်မောဂ္ဂလာန်၏ဝမ်းထဲသို့ဝင်ကာ အစာဟောင်းအိမ်ပေါ်မှာ ထိုင်နေသတဲ့။

ထိုအခါ မထေရ်မြတ်က –

'ဘယ်လို ဖြစ်ပါလိမ့်၊ ငါ့ဝမ်းဟာ လေးလံလှပါတယ်၊ ပဲထမင်းစားထားသူရဲ့ဝမ်းလို ဖြစ်နေပါလား'

ဟု ကြံစည်မိ၏။

'ငါ့ဝမ်းဗိုက် လေးလံနေတာ အစာမကြေလို့ ဖြစ်ရင် စင်္ကြံလျှောက်လို့ မသင့်'

ဟု စဉ်းစားပြီး ကျောင်းသခ်မ်းအတွင်းသို့ ဝင်ကာ မူလ ထိုင်နေကျနေရာ၌ ထိုင်နေတော်မူ၏။

ထိုင်ပြီး မကြာခင် 'ဘာကြောင့် ငါ ဒီလို ဖြစ်ရတာလဲ' ဟု မိမိကိုယ်ကို နှလုံးသွင်း ဆင်ခြင်တော်မူသောအခါတွင် မာရ်နတ်ကြီးသည် သေးငယ်သောခန္ဓာကိုယ်ကို ဖန်ဆင်းကာ မိမိ၏အစာဟောင်းအိမ်အထက်တွင် ငုတ်တုတ်ကလေး ထိုင်နေသည်ကို သွားတွေ့၏။

ထိုအခါ မထေရ်မြတ်က –

"ဟဲ့–မာရ်နတ်ယုတ်၊ အမြန်ထွက်ခဲ့။ ဟဲ့–မာရ်နတ်ယုတ်၊ အမြန်ထွက်ပါ။ ဘုရားရှင်ကို မညှဉ်းဆဲပါနဲ့။ သင် ကြာရှည်လေးမြင့်စွာ အကျိုးယုတ်လိမ့်မယ်၊ ဆင်းရဲဒုက္ခရောက်လိမ့်မယ်" ဟု မိန့်ဆိုလိုက်၏။

(တပည့်ကို ညှဉ်းဆဲလျှင် ဆရာကိုလည်း ညှဉ်းဆဲရာရောက်၍ ဘုရားရှင်ကို မညှဉ်းဆဲပါနဲ့ဟု မိန့်ဆိုခြင်း ဖြစ်သည်။)

မာရ်နတ်ကြီးက -

'ဒီရဟန်းဟာ ငါ့ကို တကယ်သိလို့ ဒီလို ပြောဆိုတာမဟုတ်၊ ငါ့ကို ဒီရဟန်းသာ မဟုတ်၊ ဒီရဟန်းရဲ့ဆရာ မြတ်စွာဘုရားတောင် လျှင်မြန်စွာ မသိနိုင်'

ဟု ကြံစည်စဉ်းစား၏။

ထိုအခါ မထေရ်မြတ်ကြီးက -

"ဟဲ့-မာရ်နတ်ယုတ်၊ သင် အကြံထုတ်သမျှ၊ သင် ကြံစည်သမျှ ငါအကုန်သိ၏။ သင် ဒီလို ဒီလို ကြံစည်တယ် မဟုတ်လား"

ဟု မာရ်နတ်ကြီး ကြံစည်သမျှကို ဖွင့်ဟမိန့်ကြားတော်မူ၏။

ဤအခါမှပင် မာရ်နတ်သည် -

'ဒီရဟန်းဟာ ငါ့ကို တကယ် သိမြင်လို့သာ ဒီလို မိန့်ဆိုတာ ဖြစ်မည်' ဟု ကြံစည်ပြီး မထေရ်မြတ်၏ ခံတွင်းမှထွက်၍ တံခါးရွက်၏ အပြင်ဘက်တွင် ရပ်နေလေ၏။

မထေရ်မြတ်က -

"ဟဲ့ - မာရ်နတ်ယုတ်၊ ဒီနေရာမှာလည်း သင့်ကို ငါမြင်၏။ ဒီရဟန်းဟာ ငါ့ကို မမြင်လို့ သင် မမှတ်ထင်နဲ့။ သင် အခု တံခါးရွက်ရဲ့ အပြင်ဘက်မှာ သင် ရပ်နေတယ်" ဟု မိန့်ဆိုပြီး -

'အာကာသစိုးနတ်တွေဟာ လူတွေရဲ့ ကိုယ်နံ့ကို ယူဇနာတစ်ရာ အကွာမှာ မခံနိုင်ကြဘူး။ ဒါပေမယ့် ဒီ ဝသဝတ္တိနတ်ပြည်သား မာရ်နတ်ကြီးကတော့ တန်ခိုးအာဏာကြီးမားတဲ့ နတ်မင်းတစ်ဦးဖြစ်ပါလျက် ငါ့ဗိုက်ထဲဝင်ပြီး ထိုင်နေတယ်ဆိုတော့ ငါ့ကို ဧကန် ပြစ်မှားဖျက်ဆီးမယ့်သူ ဖြစ်ပေမယ်။ ဒီလောက် စက်ဆုပ်ရွံရှာဖွယ်ကောင်းတဲ့ နေရာမျိုးမှာ လာထိုင်နိုင်တဲ့ မာရ်နတ်အဖို့ အခြား ဘာမှ မလုပ်ဝံ့စရာရှိမှာ မဟုတ်၊ ဒီတော့ ငါ သူနဲ့ ဆွေမျိုးစပ်မှ တော်မည်။ သင်ကား ငါ့ဆွေမျိုးဖြစ်သည်ဟု ပြောလျှင် စိတ်သဘောထား မနူးညံ့သူ မရှိ။ ဒါကြောင့် ဆွေမျိုးစပ်ပြီးမှ မာရ်နတ်ရန်ကို ငြိမ်းအောင်လုပ်မည်' ဟု ကြံစည်၏။





ထို့နောက် မထေရ်မြတ်က -

"ဟဲ့-မာရ်နတ်ယုတ်၊ ငါဟာ ကကုသန်ဘုရား လက်ထက်မှာ ဒူသီမည်တဲ့မာရ်နတ် ဖြစ်ခဲ့ဖူးတယ်။ ငါ့နှမကတော့ ကာဠီလို့ ခေါ်တယ်။ ထိုအခါက သင်က ငါ့နှမ ကာဠီရဲ့သား ဖြစ်ခဲ့တယ်၊ သင်နဲ့ငါ တူဝရီး တော်စပ်ခဲ့ဖူးတယ်"

စသည်ဖြင့် ဒူသီမာရ်နတ်ဘဝက ဘုရားနှင့် ဘုရားသာဝကတို့ကို ညှဉ်းပန်းနှိပ်စက် အနှောင့်အယှက်ပြုခဲ့သည့်အတွက် နတ်သက်ကြွေ၍ ဆဖသသယတနိက စသော ငရဲကြီးသုံးမျိုးသို့ ကျရောက်၍ ဆင်းရဲဒုက္ခ အမျိုးမျိုး ရောက်ရပုံတို့ကို ကြောက်မက်ဖွယ်ရာ ဟုတ်တိုင်းမှန်စွာ မိန့်ကြားတော်မူသည်။

ထိုအခါ မာရ်နတ်သည် စိတ်နှလုံး မသာမယာဖြစ်ကာ ထိုနေရာ၌ပင် ရုတ်တရက် ပျောက်ကွယ်သွားကြောင်း မူလပဏ္ဏာသပါဠိတော် မာရတဇ္ဇနီသုတ်၌ ဟောကြားတော်မူထားပေသည်။

## မာရ်နတ်သားနှင့် အခြားသာဝကများ

မာရ်နတ်ကြီးသည် ဘုရားရှင်၏ လက်ဝဲတော်ရံအဂ္ဂသာဝကကြီး အရှင်မောဂ္ဂလာန် မထေရ်မြတ်ကြီးကိုသာ အနှောင့်အယှက်ပေးသည် မဟုတ်သေး။

အခြား သာဝက၊ သာဝိကာမများကိုလည်း အခါအခွင့်သင့်တိုင်း လိုက်လံနှောင့်ယှက်သည်ကိုလည်း တွေ့ရ၏။

ဘုရားရှင်အား အာယုသင်္ခါရလွှတ်တော်မူရန် မာရ်နတ်ကြီး လာရောက် မလျှောက်ထားမီ -

"အာနန္ဒာ၊ ငါဘုရားသည် ဣဒ္ဓိပါဒ်တရား လေးပါးကို ပွားများထားပြီး ဖြစ်၏။ လေ့ကျင့်ထားပြီး ဖြစ်၏။ ကောင်းစွာ အားထုတ်ထားပြီး ဖြစ်၏။

သို့ဖြစ်၍ ငါဘုရားသည် အလိုတော်ရှိခဲ့သော် အာယုကပ်ပတ်လုံး ဖြစ်စေ၊ အာယုကပ်ထက် ပိုလွန်၍ ဖြစ်စေ တည်နေနိုင်ပေ၏"

ဟု အရိပ်ယောင်စကားကို သုံးကြိမ်တိုင် မိန့်ကြားတော်မူ၏။

သို့သော် အာနန္ဒာသည် ဘုရားရှင်၏စကားကို မရိပ်စားမိသောကြောင့် –

"ရှင်တော်မြတ်ဘုရား၊ နတ်လူတို့၏ အကျိုးစီးပွား ချမ်းသာပွားရန်အတွက် လောကကို သနားစောင့်ရှောက်သောအားဖြင့် အာယုကပ်ပတ်လုံး တည်နေတော်မူပါ"

ဟု မလျှောက်ထားမိပါချေ။

ဤသို့ အရှင်အာနန္ဒာ မလျှောက်ထားမိခြင်းကား အရှင်အာနန္ဒာ၏စိတ်ကို မာရ်နတ်ကြီးက နှောင့်ယှက်ထားသောကြောင့် ဖြစ်ပေသည်။

တစ်ခါတစ်ရံ ရဟန်းတော်အချို့နှင့် သေလာထေရီ၊ ခေမာထေရီစသည့် ရဟန်းမများထံ ပုဏ္ဏားအိုကြီးယောင် ဖန်ဆင်းလာပြီး ကာမဂုဏ်ချမ်းသာများကို ခံစားကြရန် တိုက်တွန်းစကား ပြောကြားသတဲ့။

အယုတ်သဖြင့် ဘုရားသားတော် ရှင်ရာဟုလာကလေးကိုပင် ဆင်ယောင်ဖန်ဆင်း၍ ခြောက်လှန့်လိုက်သေးသည်။

## ဖုဿဒေဝမထေရ်မြတ်နှင့် မာရ်နတ်မင်း

မာရ်နတ်ကြီးသည် မြတ်စွာဘုရား သက်တော်ထင်ရှား ရှိစဉ်ကသာ ဘုရားနှင့် တပည့် သာဝကများကို အနှောင့်အယှက်ပြုခဲ့သည် မဟုတ်သေး။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံသွားပြီးနောက်၌လည်း သီဟိုဠ်ကျွန်း(သီရိလင်္ကာ)၌ ဖုဿဒေဝမထေရ်မြတ်ကြီးအား အနှောင့်အယှက် ပြုခဲ့သေး၏။

ဖုဿဒေဝ မထေရ်သည် အနီးရှိ စေတီတော်ရင်ပြင်ကို အမြဲ တံမြက်လှည်းလေ့ ရှိ၏။ တစ်နေ့တွင် တံမြက်လှည်းထား၍ သန့်ရှင်းနေသော ရင်ပြင်တော်ကိုကြည့်ကာ သက်တော်ထင်ရှား မြတ်စွာဘုရားကို ရည်မှန်းပြီး ရွှင်လန်းသောပီတိ ဖြစ်နေ၏။

ထိုအခါ မာရ်နတ်သည် မျောက်ညိုကြီးယောင်ဆောင်၍ နွားချေးတွေယူကာ ရင်ပြင်တော်၌ ဖြန့်ကြဲသွား၏။

မထေရ်မြတ်မှာ ဘုရားကို ရှေ့ဆက် အာရုံမပြုနိုင်တော့ဘဲ ထပ်မံ တံမြက်လှည်းကာ ပြန်သွားရ၏။





ဒုတိယနေ့၌လည်း ဗုဒ္ဓမြတ်စွာကို အာရုံပြုနေချိန်မှာပင် မာရ်နတ်သည် နွားအိုကြီးယောင်ဆောင်ကာ နွားချေးများကို ယိုချသွားပြန်၏။ ထို့ကြောင့် တံမြက်လှည်း၍ ပြန်သွားရ၏။

တတိယနေ့၌လည်း မာရ်နတ်သည် အလွန် အရုပ်ဆိုးသည့် ယောကျ်ားယောင်ဆောင်ကာ တံမြက်လှည်းထားသော နေရာတို့၌ ခြေတရွတ်ဆွဲလျက် သွားပြန်၏။

ထိုတစ်ကြိမ်တွင် မထေရ်မြတ်သည် –

'ဒီပတ်ဝန်းကျင် တစ်ယူဇနာ အရပ်မှာ ဒီမျှ အရုပ်ဆိုးသူ မတွေ့ဖူးဘူး။ သူဟာ ဧကန် မာရ်နတ်ဖြစ်ရမယ်'

ဟု စဉ်းစားမိပြီး –

"သင် မာရ်နတ်မဟုတ်လား"

ဟု မေးလိုက်သတဲ့။

မာရ်နတ်က ဟုတ်မှန်ကြောင်း ဝန်ခံသည့်အခါ –

"သင်ဟာ တန်ခိုး အလွန်ကြီးပါပေတယ်။ သက်တော်ထင်ရှား မြတ်စွာဘုရားကို ဖူးလိုက်ရသူဖြစ်လို့ ဘုရားရှင်ရဲ့ပုံတော်နှင့်တူအောင် ဖန်ဆင်းပြစမ်းပါ"

ဟု တောင်းပန်သည်။

မာရ်နတ်က –

"အတော်အတန်တူအောင်တော့ ပြနိုင်ပါရဲ့"

ဟု ဆိုပြီး ဗုဒ္ဓပုံတော်ကို စွမ်းနိုင်သမျှ တူအောင် ဖန်ဆင်းပြလေသည်။

ဖုဿဒေဝမထေရ်ကြီးသည် မာရ်နတ် ဖန်ဆင်းပြသော ဘုရားပုံတော်ကိုကြည့်ကာ –

'ရာဂ၊ ဒေါသ၊ မောဟ မကင်းတဲ့ မာရ်နတ်မင်းရဲ့ အတုပုံပင် ဒီလောက် တင့်တယ်သပ္ပာယ်ရင် ရာဂစသား ကိလေသာအညစ်အကြေးများ ကင်းစင်၍ ကြည်လင်သန့်ရှင်းတဲ့ မြတ်ဗုဒ္ဓ၏ တကယ့် ရုပ်အဆင်းတော်မှာ အဘယ်ဆိုဖွယ်ရာ ရှိတော့အံ့နည်း' ဟု တွေးကာ ဗုဒ္ဓမြတ်စွာကို အာရုံမှန်းစဉ် တစ်ကိုယ်လုံး ပီတိတွေ လွှမ်းဖုံးသွားတော့၏။

ထိုအခါ အလွန် ထင်ရှားဖြစ်ပျက်နေသည့် ပီတိကို အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဟု ဝိပဿနာရှုလေရာ (ခါတိုင်းလည်း ဘုရားအာရုံကို ဝိပဿနာဖြင့် ထုံလေ့ရှိသောကြောင့်) ထိုနေရာမှာပင် တရားတက်၍ ရဟန္တာဖြစ်သည်အထိ တရားပေါက်သွားလေတော့၏။

ဤသို့ ကုသိုလ်ကောင်းမှုပြုသူ ဟူသမျှ ကလေးသူငယ်ကအစ မာရ်နတ်ကြီး၏ ရန်သူ ဖြစ်၏။

သို့ရာတွင် မည်သူမဆို ဗောဇ္ဈင်ခုနစ်ပါးကို ပွားများလျှင် မာရ်စစ်သည်ကို နှိမ်နင်းနိုင်၏။

သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးကို ကောင်းစွာ ပွားများလျှင် မာရ်နတ်မင်းပိုင်နက်မှ လွတ်နိုင်သေး၏။

ရဟန္တာ ဖြစ်လျှင်ကား ဆိုဖွယ်ရာ မရှိ။ မာရ်နတ်မင်း၏ ပိုင်နက်ဖြစ်သည့် ဘုံသုံးပါးမှ လုံးဝ လွတ်မြောက်သွားပါတော့သည်။

□



## လူ့ပြည်သို့ ချက်ချင်း ပြန်လာသည့်နတ်များ

**သမဏနတ်သား**

နတ်ပြည်ခြောက်ထပ်ရှိ နတ်သား၊ နတ်သမီးတို့သည် လူ့ပြည်သို့ အလွန် လာခဲကြ၏။

နတ်တို့သည် လူတို့၏အနံ့ကို ယူဇနာတစ်ရာ (မိုင်ရှစ်ရာ) ခန့်ကပင် မခံနိုင်ကြဟု ဆို၏။

နတ်ပြည်၌ ကာမဂုဏ်ချမ်းသာသည် အလွန် ကြီးကျယ်၏။ လူ့ပြည်က ကာမဂုဏ်ချမ်းသာနှင့် နှိုင်းယှဉ်လျှင် မြက်ပေါ်က နှင်းရေတစ်ပေါက်နှင့် သမုဒ္ဒရာရေ ပမာဏလောက် ကွာခြား၏။

နတ်ပြည်၏ ကာမဂုဏ်ချမ်းသာကို ခံစားမိလျှင် အတိတ်ဘဝကို မေ့သွားပြီး ကာမဂုဏ်အာရုံကြောတွင် မေ့မြော၍ နေတတ်ကြ၏။

ပါရမီဓာတ်ခံ အလွန် ရင့်သန်ကြသည့် နတ်တို့သာ ဘုရားရှင်သက်တော်ထင်ရှား ရှိချိန်က သူတို့ မသိသည့် အကြောင်းအရာများကို ဘုရားရှင်ထံမှောက်သို့ လာရောက် လျှောက်ထားကြသည်။

လာရောက် လျှောက်ထားကြသည့်အချိန်မှာ ညဉ့်၏ မဇ္ဈိမယံအချိန် ဖြစ်သည်။

သို့သော် သမဏနတ်သား စသော နတ်သား၊ နတ်သမီးတို့မှာ နတ်ပြည်သို့ရောက်လျှင် ရောက်ချင်း အကြောင်းအားလျော်စွာ လူ့ပြည်သို့ ချက်ချင်း ပြန်လာနိုင်ကြသည့် နတ်အထူးများ ဖြစ်ကြသည်။

ဘုရားရှင် လက်ထက်တော်က အမျိုးသားတစ်ဦးသည် ကြည်နူး

သောသဒ္ဒါဖြင့် ရဟန်းပြု၍ ငါးဝါရသည်အထိ ဥပဇ္ဈာယ်ဆရာထံမှာ ဝတ်ကြီးဝတ်ငယ်ပြုကာ ဝိနည်းသိက္ခာပုဒ်များကို သင်ယူ၏။ ကံကြီး၊ ကံငယ်ပြုပုံကိုလည်း စုံအောင် သင်ကြားလေ့လာ၏။

ထို့နောက် သူသဘောကျသည့် ကမ္မဋ္ဌာန်းကို သင်ယူပြီး တောကျောင်း တစ်ကျောင်းသို့သွားကာ အပြင်းအထန် တရားအားထုတ်၏။ မြတ်စွာဘုရားက ယောဂီပုဂ္ဂိုလ်များ အပန်းဖြေရန်အတွက် လဲလျောင်းအိပ်ဖို့ ခွင့်ပြုထားသည့် သန်းခေါင်ယံ အချိန်မှာပင် လုံးဝမအိပ်ဘဲ ကြိုးစားအားထုတ်၏။

ဤသို့ အိပ်ချိန်၊ နားချိန် မထားဘဲ ကာလကြာမြင့်စွာ အားထုတ်လာသည့်အခါ အိပ်ရေးပျက်၍ အစားလည်း လျော့လာ၏။

ဝမ်း၌ အစာအာဟာရ လုံလောက်အောင် မရှိသောအခါ သတ္တုက ဝါတာခေါ် လေသင်တုန်း ဖြစ်ပေါ်လာပြီး ဖြတ်သတ်လိုက်သည့်အတွက် စကြံလျှောက်ကာ တရားအားထုတ်စဉ်ပဲ ပျံလွန်တော်မူသွားရာ၏။

ပါရမီဉာဏ် မရင့်သန်သေးသဖြင့် တရားထူးကိုကား ရမသွားရာချေ။ သို့သော် ဘာဝနာကုသိုလ်ကံ၏ အစွမ်းကြောင့် တာဝတိံသာနတ်ပြည်မှာ ဖြစ်ပေါ်နေနှင့်သည့် နတ်ဘုံဗိမာန်ကြီး၏ တံခါးဝမှာ နတ်ဝတ်တန်ဆာအပြည့်အစုံနှင့် နတ်သား သွားဖြစ်၏။

ထိုအခါ ဗိမာန်ရှင် နတ်သားကို စောင့်စားနေကြသည့် နတ်သမီးတစ်ထောင်ခန့်သည် –

"ဟော–ဗိမာန်ရှင် နတ်သား ရောက်လာပြီ၊ ဖျော်ဖြေကြစို့"

ဟု ဆိုကြကာ တူရိယာကိုယ်စီနှင့် နတ်သားသစ်ထံ စုပြုံဝိုင်းအုံလာကြသတဲ့။

သို့သော် နတ်သားမှာ ပျံလွန်လာမှန်း မသိသေး။ သူ့ကိုယ်သူရဟန်းဟုပင် ထင်မှတ်နေ၏။

ထို့ကြောင့် နတ်သမီးများကို 'ကျောင်းကြည့်လာသည့် ဒကာမကလေးတွေပဲ' ဟု မှတ်ထင်ပြီး အပေါ်ရုံအဝတ်ဖြင့် လက်ဝဲပခုံးကို လုံအောင်ရုံလျက် မျက်လွှာချကာ ဣန္ဒြေကြီးဖြင့် နေသည်။

ထိုအခြင်းအရာကို နတ်သမီးများ တွေ့ရသည့်အခါ –





'ဒီနတ်သားဟာ ရဟန်းဘဝက ဖြစ်လာတဲ့ နတ်သားပဲ'

ဟု နတ်သမီးများ ရိပ်စားမိသွားပြီး –

"အရှင်နတ်သား၊ ဒီဟာက နတ်ပြည်ပဲ၊ ရဟန်းတရား အားထုတ်ဖို့အခါ မဟုတ်တော့ဘူး။ နတ်စည်းစိမ်တွေကို ခံစားဖို့အခါ ဖြစ်ပါတယ်"

ဟု ဝိုင်းပြောကြသည်။

သို့သော် နတ်သားကတော့ မလှုပ်မယှက် ငြိမ်သက်စွာ ရပ်တည်နေသည်။

ထိုအခါ နတ်သမီးများက –

"ဒီနတ်သားဟာ နတ်ဘဝ ရောက်နေမှန်း မသိဘူး။ သိအောင်တို့ သူ့ကို ဖျော်ဖြေလိုက်ကြစို့"

ဟု ဆိုပြီး တူရိယာများကို တီးသူကတီး၊ သီချင်းဆိုသူကဆို၊ ကသူက ကလျက် ဖျော်ဖြေကြသည်။

သို့သော် နတ်သားက တောကျောင်းလာပြီး ကလေးမလေးတွေ ကမြင်းနေကြတယ်ထင်ပြီး နတ်သမီးများကို လုံးဝ မကြည့်ဘဲ ရပ်တည်နေသည်။

နတ်သမီးအပေါင်းတို့က နောက်ဆုံးတွင် အကြံရကာ နတ်သားရှေ့မှာ ကိုယ်လုံးပေါ်မှန်ကြီးကို ထောင်ပြလိုက်ကြသတဲ့။

ထိုအခါမှ သူ့ရုပ်သွင်ကို မှန်ထဲတွင်မြင်ပြီး သူ ရဟန်းဘဝမှ စုတေကာ နတ်ပြည်ရောက်နေမှန်း သိသွား၏။

"ငါ ရဟန်းတရား ကျင့်ခဲ့တာဟာ ဒီနတ်ပြည်ရောက်ဖို့ ကျင့်ခဲ့တာမဟုတ်။ အမြတ်ဆုံး အကျိုးဖြစ်တဲ့ အရဟတ္တဖိုလ်ရဖို့ ကျင့်ခဲ့တာပဲ။

အခုတော့ ချန်ပီယံ ရွှေတံဆိပ်ကြီးကိုရဖို့ မျှော်မှန်းပြီး လက်ဝှေ့ပွဲကြီး ဝင်ထိုးသတ်ရာမှာ မှန်လာတစ်စည်းလောက် ဆုရသလိုပဲ ဖြစ်နေပြီ"

ဆိုပြီး စိတ်မချမ်းမသာ ဖြစ်သွား၏။

ထို့နောက် –

'ဒီနတ်စည်းစိမ်ဆိုတာ ရလွယ်ပါတယ်။ ဘုရားပွင့်ဆဲကာလက ရခဲလှတယ်။ ဘုရားရဲ့တရားတော်ကို နာကြားပြီး မဂ်ဖိုလ်တရားရဖို့က အရေးကြီးတယ်၊ နတ်စည်းစိမ်တွေနဲ့ မေ့နေရင် ဘုရားနဲ့ မတွေ့ရဘဲ ဖြစ်နိုင်တယ်'

ဟု စဉ်းစားပြီး နတ်ဗိမာန် မဝင်သေးဘဲ၊ သီလ မပျက်သေးဘဲ (အဘိနွသီလော)၊ နတ်သမီးအပေါင်း ခြံရံကာ မြတ်စွာဘုရားထံတော်မှောက်သို့ သွားရောက်ရှိခိုးပြီး –

"နတ်သမီး သိန်းသောင်း အပေါင်းများစွာ သီဆိုကြွေးကြော်ရာ ဖြစ်လို့ နတ်အပေါင်းတို့အား တရားရှောင်လွှဲ မိုက်မဲစေတတ်တဲ့ မောဟနမည်ခေါ် နန္ဒဝန်ဥယျာဉ်တော်ကို ဘယ်လိုနည်းနဲ့ ကျော်လွန်ရှောင်ရှားထွက်သွားနိုင်ပါသလဲ ဘုရား"

ဟု လျှောက်ထားသည်။

ရှင်တော်ဘုရားက နတ်သား၏ အခြေအနေအလုံးစုံကို ကြည့်ရှုတော်မူပြီး မဂ္ဂင်ရှစ်ပါး ဝိပဿနာတရားကို 'ဥဇုကော နာမ သောမဂ္ဂေါ' စသော ဂါထာ သုံးပုဒ်တို့ဖြင့် ဟောကြားပြီး သစ္စာလေးပါးတရားကို ဆက်လက်ဟောကြားရာ သောတာပန်တည်သွားလေသည်။

ထိုနတ်သားကို ရဟန်းဘဝမှ ရောက်လာသော နတ်သားဖြစ်သည့်အတွက် ပါဠိလို သမဏဒေဝပုတ္တ၊ မြန်မာလို သမဏနတ်သားဟု ခေါ်ကြသည်။

ဤသို့ သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ အဋ္ဌကထာ အစ္ဆရာသုတ်၌ တွေ့ရ၏။

ဤ သမဏနတ်သား ဝတ္ထု၌ မှတ်သားစရာ ကောင်းသည့် အကြောင်းအရာများမှာ 'နယိဒံ သိထိလမာရဗ္ဘ၊ နယိဒံ အပ္ပေန ထာမသာ' ဒေသနာတော် လာသည့်အတိုင်း ယောဂီတို့ တရားအားထုတ်ရာတွင် လျော့လျော့ရဲရဲ နည်းပါးသော ဝီရိယစွမ်းအားမျှဖြင့် နိဗ္ဗာန်ကို မရနိုင်ဟု ဟောတော်မူထားသော်လည်း မိမိ၏ ကျန်းမာမှုကို လျစ်လျူရှုကာ ခေတ္တအနားယူရန် ဘုရားရှင် ခွင့်ပြုထားသည့် အချိန်မှာပင် အနားမယူဘဲ အပြင်းအထန် အားထုတ်မှုကြောင့် တရားထူး မရမီ အားထုတ်နေရင်း ပျံလွန်တော်မူသွားခြင်း၊ နတ်သားဖြစ်ချိန်တွင် နတ်သားဖြစ်မှန်း ချက်ချင်းမသိခြင်း၊ သိသည့်အခါ ရှေးဘဝကို ပြန်လည် ဆင်ခြင်မိပြီး နတ်သမီးတို့ ပွတ်သီးပွတ်သပ်ပြုမှုကြောင့် သီလမပျက်မီ ဘုရားရှင်ထံသို့ ပြန်လာနိုင်ခြင်း၊ ရဟန်းဘဝမှ နတ်ဘဝရောက်သည့်တိုင် မလွန်ကျူးသေးသမျှ သီလ





မပျက်သေးခြင်း၊ နတ်ဘဝတွင် တရားအားထုတ်နိုင်ခွင့်ရ၍ တရားအားထုတ်က လျင်မြန်စွာ တရားထူးရနိုင်ခြင်း စသော အကြောင်းအရာများ ဖြစ်ပါသည်။

## အနာထပိဏ်နတ်သား

အနာထပိဏ်နတ်သားကား အခြားသူ မဟုတ်။ အနာထပိဏ်သူဌေးကြီးဘဝမှ စုတေလာသောနတ်သား ဖြစ်၏။ အနာထပိဏ်သူဌေးကြီးအကြောင်းကိုကား အကျယ်မတင်ပြတော့။

စာဖတ်ပရိသတ်များ သိကြပြီးဖြစ်သည့် အနာထပိဏ်သူဌေးကား သာဝတ္ထိပြည်မွန် ဇေတဝန်ကျောင်းဒကာကြီး ဖြစ်၏။ ငါးဆယ့်လေးကုဋေကုန် ဇေတဝန်ကျောင်းတော်ကြီးကို ဘုရားအမှူးရှိသော သံဃာတော်များအား ဆောက်လုပ်လှူဒါန်းသည်။

သံဃာတော်များအား နေ့စဉ် လှူဒါန်းသည့် နိဗဒ္ဓအလှူတော်များမှာ စာရေးတံဆွမ်းငါးရာ၊ ပက္ခိတဆွမ်းငါးရာ၊ စာရေးတံယာဂုဆွမ်းငါးရာ၊ ပက္ခိတယာဂုဆွမ်းငါးရာ၊ နိစ္စဘတ်ဆွမ်းငါးရာ၊ အာဂန္တုက(ဧည့်သည်)ဆွမ်းငါးရာ၊ ဂမိက (ခရီးသွား) ဆွမ်းငါးရာ၊ ဂိလာနဆွမ်းငါးရာ၊ ဂိလာနုပဋ္ဌာကဆွမ်းငါးရာ၊ သံဃာတော်နေထိုင်နေရာငါးရာတို့ ဖြစ်သည်။

ထို့ကြောင့် ဗုဒ္ဓ ရှင်တော်မြတ်ဘုရား၏ သာသနာတော်အား လှူဒါန်းသူ ဒါယကာတို့တွင် အထူးချွန်ဆုံး၊ အသာလွန်ဆုံး ဒါယကာ ဧတဒဂ်ဘွဲ့ကို ချီးမြှင့်ခံခဲ့ရသူ ပုဂ္ဂိုလ်မွန်ကြီး ဖြစ်၏။

ကျောင်းဒကာ အနာထပိဏ်သူဌေးသည် တစ်နေ့လျှင် အနည်းဆုံး တစ်ခေါက် ဘုရားကျောင်းတော်သို့ မှန်မှန်ရောက်မြဲ ဖြစ်၏။ တစ်ချိန်၌မူ ပြင်းထန်စွာ မကျန်းမမာ ဖြစ်လာသဖြင့် ကျောင်းသို့ မရောက်နိုင်တော့။

ထို့ကြောင့် ယောကျ်ားတစ်ယောက်ကို ကျောင်းတော်သို့ စေလွှတ်ကာ မိမိကိုယ်စား ဘုရားရှင်ကို ဖူးမြော်ကန်တော့ခိုင်း၏။

မကျန်းမမာ ဖြစ်နေကြောင်းကိုလည်း အလျှောက်ခိုင်း၏။ အရှင်သာရိပုတ္တရာအားလည်း သနားစောင့်ရှောက် ချီးမြှင့်သောအားဖြင့် အိမ်သို့ ကြွလာတော်မူရန် အပင့်ခိုင်းလိုက်၏။

အရှင်သာရိပုတ္တရာသည် အရှင်အာနန္ဒာနှင့်အတူ အနာထပိဏ် သူဌေးအိမ်သို့ ကြွလာ၏။ ရောဂါအခြေအနေကို မေးမြန်းစုံစမ်းကြည့်သော အခါ ရောဂါမှာ လွန်နေပြီဖြစ်၍ မကြာမီ သေဆုံးတော့မည်ကို သိရ၏။

ထို့ကြောင့် လေးနက်သော သတိပေးစကား ဝိပဿနာတရားကို ဟောကြားတော်မူ၏။ တရားဆုံးသောအခါ အနာထပိဏ်သူဌေးသည် ဝမ်းနည်းလွန်းသဖြင့် ငိုရှာ၏။ အရှင်အာနန္ဒာက သေရမှာကြောက်၍ ငိုသည်ထင်သဖြင့် သတိပေးစကား ပြောကြား၏။

သူဌေးကြီးက –

"အရှင်ဘုရား ထင်တဲ့အတိုင်း မဟုတ်ပါ။ တပည့်တော်ဟာ တစ်သက်လုံး ဘုရားရှင်နှင့် မထေရ်ကြီးများထံ ချဉ်းကပ်ခဲ့ပါသော်လည်း ယနေ့ ဟောကြားတဲ့ တရားတော်လောက် လေးနက်တဲ့တရားကို မနာဘူးတဲ့ အတွက် ဝမ်းနည်းပြီး မျက်ရည်ကျတာပါ ဘုရား" ဟု ပြန်လျှောက်၏။

အမှန်စင်စစ် ဘုရားရှင်နှင့် သာဝကကြီးများသည် ဤမျှ လေးနက် သော ဝိပဿနာတရားကို မဟောသည် မဟုတ်။ အကြိမ်များစွာ ဟော ကြားခဲ့ကြ၏။ သို့သော် လူဝတ်ကြောင် ပရိသတ်များ၌မူ ဟောခဲ၏။ ရဟန်း ပရိသတ်၌သာ အဟောများ၏။

ဤသူဌေးကြီးအတွက်မူ ဤမျှ စုံလင်လေးနက်သော တရားမျိုး ကို ယခုလို သီးသန့်မဟောခဲ့ကြ။

ဒါနဘက်၌ အားသန်သည့် သူဌေးဖြစ်၍ ဒါနနှင့်စပ်သည့် တရား ကိုသာ အဟောများခဲ့၏။

ဤအကြောင်းများကို အရှင်သာရိပုတ္တရာ မထေရ်မြတ်က သူဌေးကြီးအား ရှင်းပြတော်မူရသည်။

သူဌေးကြီးက လူဝတ်ကြောင်များကိုလည်း ထိုတရားမျိုးကို ဟောကြားရန် တောင်းပန်လျှောက်ထားလိုက်၏။

ထို့နောက် အရှင်သာရိပုတ္တရာနှင့် အရှင်အာနန္ဒာတို့သည် ကျောင်းတော်သို့ ပြန်ကြွသွားကြ၏။

သူဌေးကြီးလည်း မကြာမီပင် တရားတော်ကို အာရုံပြုရင်း ကွယ်လွန်သွား၍ တုသိတာနတ်ပြည်၌ သွားဖြစ်၏။





အဘယ်ကြောင့် ဤစည်းစိမ် ဤဘုံဗိမာန်တို့ကို ရရှိသနည်းဟု ဆင်ခြင်သောအခါ ဇေတဝန်ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်း ခဲ့ပုံမှစ၍ သေခါနီး အရှင်သာရိပုတ္တရာမထေရ်ကြီး တရားဟောတော် မူပုံအထိ ပြန်သိသည်။ ထိုအခါ –

'ငါ ဘုရားရှင်ထံသွားပြီး လျှောက်ဦးမှပဲ၊ အခု နတ်စည်းစိမ် တွေကို သွားပြီး ခံစားရင် ငါ ဘုရားထံရောက်တော့မှာ မဟုတ်ဘူး'

ဟု စဉ်းစားမိပြီး ထိုနေ့ည သန်းခေါင်ယံအချိန်မှာ ဇေတဝန် ကျောင်းတော်ကြီး၌ သီတင်းသုံးတော်မူသည့် ဘုရားရှင်ထံမှောက်သို့ သွားရောက်ကာ –

(၁) မိမိ လှူဒါန်းခဲ့သည့် ကျောင်းတော်ကြီးတွင် ရဟန်း သံဃာ များသာမက ဗုဒ္ဓရှင်တော်ဘုရားပါ သီတင်းသုံးတော်မူ ကြတဲ့အတွက် မိမိမှာ ဝမ်းမြောက်ဝမ်းသာဖြစ်ရကြောင်း၊

(၂) သတ္တဝါတို့သည် သီလ၊ သမာဓိ၊ ပညာ အကျင့်သုံးဖြာဖြင့် သာ ကိလေသာမှ စင်ကြယ်နိုင်ကြ၍ အမျိုးအနွယ်အားဖြင့် ဖြစ်စေ၊ ပစ္စည်းဥစ္စာအားဖြင့် ဖြစ်စေ ကိလေသာတို့မှ မစင်ကြယ်နိုင်ကြကြောင်း၊

(၃) ဘုရားရှင်၏တပည့်ထဲတွင် အရှင်သာရိပုတ္တရာသည် သီလ၊ သမာဓိ၊ ပညာဂုဏ်အရာမှာ အမြတ်ဆုံး၊ အချီးမွမ်းအပ်ဆုံး ပုဂ္ဂိုလ်ဖြစ်ကြောင်း

စသည်ဖြင့် ဇေတဝန်ကျောင်းတော်၊ အကျင့်တရားတော်နှင့် အရှင်သာရိပုတ္တရာမထေရ်ကြီးတို့ကို ချီးကျူးလျှောက်ထားပြီး နတ်ပြည်သို့ ပြန်သွားကြောင်း ဥပရိပဏ္ဏာသပါဠိတော်၊ အနာထပိဏ္ဍိကောဝါဒသုတ်၌ ဟောကြားတော်မူထားသည်ကို လေ့လာဖတ်ရှုရပါသည်။

ဤအနာထပိဏ်နတ်သားဝတ္ထု၌ မှတ်သားစရာများမှာ လောက လူ့ဘောင်တွင် ကိစ္စများပြောင်းလှသည့်အတွက် လူဝတ်ကြောင်များအား ဘုရားရှင်နှင့် တပည့်သာဝကများက ဝိပဿနာတရားကို စုံစုံလင်လင် ဟောကြားလေ့မရှိခြင်း၊ အနာထပိဏ်သူဌေးကြီးမှာ တုသိတာနတ်ဘုံတွင် နတ်သားဖြစ်၍ ဘုံစဉ်စံ သောတာပန်ဖြစ်ခြင်း၊ နတ်ဖြစ်လျှင် ဖြစ်ချင်း

ရှေးဘဝကို ဆင်ခြင်မိမှသာ နတ်စည်းစိမ်ကို မခံစားမီ လူ့ပြည်သို့ အကြောင်းအားလျော်စွာ ချက်ချင်း ပြန်လာနိုင်ခြင်းတို့ ဖြစ်ပါသည်။

## မဋ္ဌကုဏ္ဍလီနတ်သား

ဘုရားရှင် လက်ထက်တော်က သာဝတ္ထိပြည်တွင် အဒိန္နပုဗ္ဗက မည်သော ပုဏ္ဏားသူဌေးမိသားစုတစ်စု ရှိ၏။

သားကလေးတစ်ယောက်သာ ထွန်းကား၍ အလွန်ချစ်၏။ အလွန်မြတ်နိုး၏။ သို့သော် သားကို ချစ်သည်ထက် ပစ္စည်းဥစ္စာကို ပို၍ ချစ်၏။ ပို၍ ခင်တွယ်၏။ ထို့ကြောင့် နာမည်နှင့်အလိုက် မည်သည့် ပုဂ္ဂိုလ်အားမျှ တစ်စုံတစ်ခု ပေးကမ်းလှူဒါန်းခြင်း မပြုခဲ့ပေ။

(အဒိန္နပုဗ္ဗက = ရှေးက တစ်ကြိမ်တစ်ခါမျှ မလှူဒါန်း မပေးကမ်းခဲ့ဘူးသူ)

သားချစ်ကလေးကို နားတောင်းပန်ဆင်ပေးရာမှာပင် ရွှေပန်းထိမ်သည်ထံ အပ်နှံလျှင် လုပ်ခပေးရမည် စိုးသောကြောင့် မိမိကိုယ်တိုင် ရွှေကို ခတ်ပြီး ပြေပြစ်သော နားတောင်းကို ပန်ဆင်ပေး၏။

ထို့ကြောင့် ထိုသူငယ်ကို ပါဠိလို မဋ္ဌကုဏ္ဍလီ၊ မြန်မာလို မောင်နားတောင်းဟု ခေါ်၏။

မဋ္ဌကုဏ္ဍလီ သူငယ်သည် တစ်ဆယ့်ခြောက်နှစ်သား အရွယ်တွင် ကိုယ်လက်ဖျော့တော့သည့် ပဏ္ဍု ခေါ် ရောဂါဖြစ်၏။

သားထက် ပစ္စည်းကိုချစ်သော ပုဏ္ဏားကြီးသည် ဆရာပင့်၍ ဆေးကုလျှင် သမားခ ပေးရမည် စိုးသောကြောင့် သမားများထံ ဆေးမေးမြန်းပြီး ကိုယ်တိုင်ကုသ၏။

ရောဂါရင့်လာသည့်အခါတွင် မနေသာတော့ဘဲ သမားတော်တစ်ဦးကို ပင့်ရတော့၏။

သမားတော်က လူနာအခြေအနေကိုကြည့်ပြီး –

"ကျွန်ုပ်မှာ ကိစ္စတစ်ခုရှိသေးတယ်၊ အခြား သမားတော်တစ်ဦးကို ပင့်ပြီးကုပါ"

ဟု ဆိုကာ ထွက်ခွာသွား၏။





ထိုအခါ ပုဏ္ဏားကြီးသည် သူ့သားအခြေအနေကို ရိပ်စားမိပြီး–

'လူနာကြည့်သူတွေလာရင် ငါ့အိမ်ထဲက ပစ္စည်းတွေကို တွေ့သွားကြလိမ့်မယ်၊ သားကို အိမ်ပြင်ထုတ်မှ တော်မယ်'

ဟု စဉ်းစားကာ သားကို အိမ်ဦးပြင်မှာ ပြောင်းသိပ်ထား၏။

ထိုနေ့မှာပင် ဗုဒ္ဓဘုရားရှင်သည် နံနက် မိုးသောက်ယံတွင် ကျွတ်ထိုက်သောသတ္တဝါတို့ကို ဗုဒ္ဓစက္ခုဖြင့် ရှုကြည့်တော်မူရာ အိမ်ဦးကြမ်းပြင်တွင် လဲလျောင်းနေသည့် မဋ္ဌကုဏ္ဍလီ သူငယ်သည် ဉာဏ်တော်တွင် ထင်လာ၏။

'ငါဘုရား ကြွသွားသဖြင့် ထိုသူငယ်အား အကျိုးစီးပွား ရှိမည်လော' ဟု ဆင်ခြင်တော်မူသည့်အခါ သူငယ်နှင့် သူငယ်၏ဖခင် နှစ်ဦးစလုံး အကျိုးစီးပွား ရှိမည်ဟု မြင်တော်မူ၍ မြတ်စွာဘုရားသည် နံနက် မိုးသောက်ချိန်တွင် သံဃာတော်အပေါင်း ခြံရံကာ သာဝတ္ထိပြည်တွင်းသို့ ဆွမ်းခံဝင်ခဲ့လေသည်။

ပုဏ္ဏားကြီး၏ အိမ်တံခါးအနီး ရောက်သည့်အခါ မဋ္ဌကုဏ္ဍလီ သူငယ်မှာ အိမ်အတွင်းဘက်သို့ မျက်နှာမူကာ လျောင်းနေသည့်အတွက် ထိုသူငယ်ထံ ရောင်ခြည်တော်လွှတ်လိုက်၏။

သူငယ်သည် –

'ဒီအရောင် ဘာအရောင်ပါလိမ့်'

ဟု ဆိုပြီး အိမ်ပြင်ဘက် လှည့်လိုက်သည်နှင့် တစ်ပြိုင်နက် ဘုရားရှင်ကို ကြည်ညိုဖွယ်ရာ ဖူးမြင်လိုက်ရ၏။

ထိုအခါ သူငယ်သည် –

'ငါဟာ ဖခင်မိုက်ကြောင့် ဒီလို ကြည်ညိုဖွယ်ရာ ဗုဒ္ဓမြတ်စွာရဲ့ ထံတော်ပါးတွင် ဗုဒ္ဓဝေယျာဝစ္စများကိုလည်း ပြုခွင့် မရ။

ယခုတော့ ငါ့လက်တွေလည်း မလှုပ်ရှားနိုင်လို့ ဘာမှ အလုပ်နိုင်တော့'

ဟု ဆင်ခြင်ကာ စိတ်ဖြင့်သာ ကြည်ညိုလိုက်၏။

ဘုရားရှင်သည် သူငယ်၏ ကြည်ညိုစိတ်ဖြစ်ပုံကို သိတော်မူ၍ ဆက်လက် ကြွသွားတော်မူ၏။

သူငယ်သည် မြတ်စွာဘုရားအား မျက်စိဖြင့် မြင်ရာအရပ်ကို လွန်လျှင် ဘုရားရှင်အား ကြည်ညိုသော အာသန္နကံ ကုသိုလ်စေတစိတ်ဖြင့် စုတေ၍ တာဝတိံသာနတ်ပြည်တွင် ယူဇနာ ၃၀ ရှိသော ရွှေဗိမာန်၌ ဖြစ်၏။ နတ်သမီးတစ်ထောင် အခြံအရံရှိ၏။

ပုဏ္ဏားကြီးကား သား၏အလောင်းကို သုသာန်တွင် မီးသင်္ဂြိုဟ်ပြီး နေ့တိုင်း သင်္ချိုင်းသို့သွားကာ ငိုကြွေးမြည်တမ်းနေ၏။

မဋ္ဌကုဏ္ဍလီနတ်သားသည် နတ်သမီးတစ်ထောင် ခြံရံ၍ နေသော သုံးဂါဝုတ်ပမာဏရှိ၍ လှည်းအစီးခြောက်ဆယ်တိုက်ရှိ အဝတ်တန်ဆာတို့ဖြင့် တန်ဆာဆင်ထားသည့် မိမိခန္ဓာကိုယ်ကိုကြည့်ကာ –

'ဒီ စည်းစိမ်ချမ်းသာကို ဘယ်ကံကြောင့် ငါရသလဲ'

ဟု ဆင်ခြင်ကြည့်သောအခါ –

'ဘုရားရှင်၌ ကြည်ညိုစိတ်ရှိသောကြောင့် ရသည့်အကြောင်း'

ကို သိသည့်အပြင် သူ့ဖခင်ကြီး သင်္ချိုင်းသို့သွား၍ ငိုကြွေးနေသည်ကိုလည်း သိ၏။

နတ်သားသည် ဖခင်ကြီးကို ပြောင်းလဲသွားအောင်လုပ်မည်ဟု ကြံစည်ကာ မဋ္ဌကုဏ္ဍလီသူငယ် အသွင် သဏ္ဌာန်အတိုင်း ဖန်ဆင်း၍ ငိုကြွေးနေသောဖခင်ကြီး၏ မနီးမဝေးတွင် လက်နှစ်ဖက်ကို အထက်သို့ မြှောက်ချီကာ ပြင်းထန်စွာ ငိုကြွေးနေသတဲ့။

ပုဏ္ဏားကြီးသည် ထိုသူငယ်ကို မြင်သောအခါ –

"မကြာမီက သေသွားသည့် ငါ့သား မဋ္ဌကုဏ္ဍလီနဲ့ အင်မတန်တူတဲ့ အမောင်လုလင်၊ ဘာကြောင့် ဒီသင်္ချိုင်းထဲလာပြီး ပြင်းထန်စွာ ငိုကြွေးနေရသလဲ"

ဟု မေးလိုက်၏။

သူငယ်က –

"ကျွန်ုပ်မှာ ရွှေရထားအိမ်ကြီးတစ်ခု ရှိပါတယ်။ ရထားအိမ်ကြီးမှာ တပ်ဆင်ဖို့ ဘီးနှစ်ဘီး လိုနေပါတယ်။ အဲဒီ ဘီးနှစ်ဘီးကို မရတဲ့အတွက် ငိုကြွေးနေတာပါ"

ဟု ပြန်ပြော၏။





"ဒီလိုဆိုရင် ရွှေဘီး လိုချင်သလား။ ဒါမှမဟုတ် ပတ္တမြားဘီး၊ သံဘီး၊ ငွေဘီးတွေ လိုချင်သလား။ အဘ ပေးပါ့မယ်"

ဟု ပုဏ္ဏားကြီးက ဆို၏။

"ဘယ်လောက်ကြီးတဲ့ဘီးကို ပေးမှာလဲ"

ဟု မေးသည့်အခါ–

"သင် လိုချင်တဲ့ပမာဏကိုသာ ပြောပါ၊ ပြုလုပ်ပေးမည်"

ဟု ပြန်ပြော၏။

"အို–ပုဏ္ဏားကြီး၊ ကျွန်ုပ်အလိုရှိတဲ့ ရထားဘီးအစုံဟာ အခြားမဟုတ်ပါဘူး။ ကောင်းကင်မှာသွားနေ၍ အထင်အရှားမြင်နေရတဲ့ လဝန်းကြီးနဲ့ နေဝန်းကြီးတို့ပဲ ဖြစ်ပါတယ်။

ဒီလဝန်း၊ နေဝန်း ဘီးအစုံနဲ့သာ ကျွန်ုပ်ရထားဟာ သင့်တော်ပါတယ်။ သင် ဝန်ခံထားတဲ့အတိုင်း ပေးပါ"

ဟု သူငယ်က တောင်းဆို၏။

ပုဏ္ဏားကြီးက –

"အမောင်လုလင်၊ သင်ဟာ မရစကောင်းတဲ့အရာတွေကို လိုချင်တောင့်တတဲ့အတွက် အလွန် မိုက်မဲသူ ဖြစ်တယ်၊ သင်သေသော် သေသွားမယ်၊ သင် လိုချင်တဲ့လ, နေတို့ကိုတော့ ရမှာ မဟုတ်ဘူး" ဟု ပြော၏။

"အို–ပုဏ္ဏားကြီး၊ ကျွန်ုပ်မေးပါရစေ၊ အရောင်တဝင်းဝင်းတောက်ပတဲ့ အဆင်းသဏ္ဌာန်နဲ့ ကောင်းကင်ပြင်တွင် ထင်ထင်ရှားရှား လှည့်ပတ်သွားနေတာ မြင်နေရတဲ့ နေလနှစ်ပါးကို လိုချင်တောင့်တနေတဲ့ အကျွန်ုပ်နဲ့ သေသွားလို့ အစအနကလေးမျှ မတွေ့မမြင်ရတဲ့သားကို တောင့်တနေတဲ့ သင်ပုဏ္ဏားကြီး နှစ်ယောက်တို့တွင် ဘယ်သူက ပိုမိုက်ပါသလဲ"

ဟု သူငယ်က ပြန်မေးလိုက်၏။

"အမောင်လုလင်၊ သင်ရဲ့မေးမြန်းချက် အကွက်ဆိုက်လှပါတယ်။ အလွန်မှန်ပါတယ်၊ မတွေ့မမြင်ရတော့တဲ့သားကို တောင့်တနေတဲ့ ကျွန်ုပ်ကသာ သင့်ထက် ပိုမိုက်ပါတယ်။ ခုကစပြီး စိုးရိမ်ပူဆွေး မငိုကြွေးတော့ပါဘူး။ ဒါနဲ့ သင်က ဘယ်သူလဲ။ နတ်လား၊ ဂန္ဓဗ္ဗလား၊ သိကြားမင်းလား၊ ဘယ်သူ့သားလဲ" ဟု မေးလိုက်သတဲ့။

"ကျွန်ုပ်မှာ အခြားသူ မဟုတ်ပါ။ သင်ရဲ့သား မဋ္ဌကုဏ္ဍလီပဲ ဖြစ်ပါတယ်။ ကုသိုလ်ကောင်းမှုတစ်ခုကို ပြုခဲ့တဲ့အတွက် သိကြားမင်းစံရာ တာဝတိံသာနတ်ပြည်မှာ နတ်သားဖြစ်နေပါတယ်" ဟု ပြောသည့်အခါ–

"ငါ့သား၊ ငါတို့အိမ်မှာ နည်းများမဟူ အလှူဒါနလည်း မလုပ်၊ ဥပုသ်သီတင်းစောင့်သုံးခြင်းလည်း မရှိပါဘူး။ သို့ပါလျက် ဘယ်ကောင်းမှုကံကြောင့် နတ်ရွာသုဂတိသို့ ရောက်သွားပါသလဲ"

ဟု ထပ်မေး၏။

သူငယ်က သေခါနီးတွင် ဘုရားရှင်ကို ဖူးမြင်ရ၍ ကြည်ညိုတဲ့ စိတ်ကြောင့် နတ်ပြည်သို့ ရောက်ရကြောင်း စုံလင်စွာ ပြန်ပြောဆို၏။

ထိုအခါ ပုဏ္ဏားကြီးက –

"သူသည် ယနေ့မှစ၍ သင် တိုက်တွန်းသည့်အတိုင်း ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်ပါ့မယ်။ ငါးပါးသီလကို မကျိုးမပေါက် မပြောက်မကျားအောင် စောင့်ထိန်းပါ့မယ်"

ဟု ဝန်ခံကတိပြုလိုက်သောအခါ နတ်သားလည်း ထိုနေရာ၌ပင် ပျောက်ကွယ်သွားတော့၏။

အဒိန္နပုဗ္ဗကပုဏ္ဏားကြီးသည် နောက်တစ်နေ့တွင် ဘုရားအမှူးရှိသော သံဃာတော်များအား မိမိအိမ်တွင် ဆွမ်းပင့်ကပ်၏။

မိစ္ဆာဒိဋ္ဌိ အယူရှိသူက မြတ်စွာဘုရားကို ဆွမ်းပင့်ကပ်ပွဲဖြစ်၍ မိစ္ဆာဒိဋ္ဌိများနှင့် သမ္မာဒိဋ္ဌိ (ဗုဒ္ဓဘာသာဝင်) များ နှစ်မျိုးနှစ်စားလုံး ရောက်လာကြ၏။

သို့သော် ရည်ရွယ်ချက်ချင်းကတော့ မတူကြ။

မိစ္ဆာဒိဋ္ဌိအယူရှိသူများက –

'ဒီနေ့ ရဟန်းဂေါတမကို အမေးပုစ္ဆာနဲ့ ညှဉ်းပန်းနှိပ်စက်တာကို ကြည့်ကြမယ်'

ဟု ရည်ရွယ်လာကြသကဲ့သို့ သမ္မာဒိဋ္ဌိအယူရှိသူများကလည်း–

'ဒီနေ့ ဘုရားရှင်၏ တင့်တယ်စမ္မာယ်ခြင်းကို ကြည်ညိုကြမယ်'

ဟု ရည်ရွယ်လာကြ၏။

ဆွမ်းကပ်ပြီးသည့်အခါ ပုဏ္ဏားကြီးက –





"အို–ဂေါတမ၊ အရှင်ဘုရားတို့အား မလှူလည်း မလှူ၊ ပူဇော်မှုလည်း မပြု၊ တရားကို မနာကြား၊ ဥပုသ် သီလကိုလည်း မစောင့်သုံးဘဲ စိတ်က ကြည်ညိုရုံ သက်သက်မျှဖြင့် နတ်ပြည်၌ ဖြစ်တယ်ဆိုတာ ဟုတ်ပါသလား"

ဟု လျှောက်၏။

ဘုရားရှင်က –

"ဘာကြောင့် ငါ့ကို မေးနေရသေးသလဲ၊ သင်ရဲ့သား မဋ္ဌကုဏ္ဍလီကိုယ်တိုင် သင် သင်္ချိုင်းမှာ ငိုနေတုန်းက ငါဘုရား၌ ကြည်ညိုစိတ်ကြောင့် သူ နတ်ပြည်မှာ ဖြစ်တဲ့အကြောင်းကို ပြောပြီးပြီ မဟုတ်လား"

စသည်ဖြင့် သားအဖနှစ်ယောက် တွေ့ဆုံခန်းကို အစုံအလင် ဟောကြားပြီး –

"ငါဘုရား၌ ကြည်ညိုစိတ်ဖြစ်ရုံမျှဖြင့် နတ်ပြည်ရောက်သူတို့ အရေအတွက်မှာ ရေတွက်မရ၊ ရာထောင်မက များလှ၏"

ဟု မိန့်ကြားတော်မူ၏။

ထို့နောက် ထိုအကြောင်းအရာများနှင့် ပတ်သက်၍ အချို့ မယုံကြည်သလို ဖြစ်နေကြသည်ကို ဉာဏ်တော်ဖြင့် သိတော်မူသဖြင့် လူအများ ယုံမှားကင်းစေရန် –

"မဋ္ဌကုဏ္ဍလီနတ်သားသည် ဗိမာန်နှင့်အတူတကွ လာရောက်စေသတည်း"

ဟု အဓိဋ္ဌာန်ပြုတော်မူလိုက်သည်။

တစ်ခဏချင်းမှာပင် မဋ္ဌကုဏ္ဍလီ နတ်သားသည် နတ်ဝတ်တန်ဆာ ဆင်ယင်ထားသည့် သုံးဂါဝုတ် ပမာဏရှိသော ခန္ဓာကိုယ်ဖြင့် ရောက်လာလျက် ဗိမာန်မှ ဆင်းသက်ကာ ဘုရားရှင်ကို ဦးတင်ရှိခိုးပြီး သင့်တင့်သောနေရာ၌ ရပ်တည်နေ၏။

ထိုအခါ ဘုရားရှင်က –

"ကိုယ်ရောင်ကိုယ်ဝါ လွန်စွာ ထွန်းလင်းတောက်ပ၍ တန်ခိုးအာနုဘော်ကြီးမားလှသော အို–နတ်သား၊ သင်ဟာ လူဖြစ်စဉ်က ဘယ်လိုကောင်းမှုမျိုးကို ပြုခဲ့သည့်အတွက် ဒီလို စည်းစိမ်ချမ်းသာမျိုးကို ရရှိသလဲ"

ဟု မိမိကိုယ်တိုင်က သိစေကာမူ ပရိသတ်များ ယုံကြည်သွားအောင် မေးတော်မူလိုက်သည်။

"ရွှေဘုန်းတော်သခင် ရှင်ပင်မြတ်ဘုရား၊ ဤသို့သော စည်းစိမ်ချမ်းသာကို အရှင်ဘုရားတို့၌ ကြည်ညိုခဲ့သောစိတ်ကြောင့် တပည့်တော်ရခဲ့ခြင်း ဖြစ်ပါသည် ဘုရား"

ဟု လျှောက်ထားသောအခါ ဘုရားရှင်က -

"သင်သည် ငါဘုရား၌ ကြည်ညိုစိတ်ကြောင့် ဒီစည်းစိမ်ချမ်းသာကို ရတယ်ဆိုတာ မှန်ပါသလား" ဟု မေးရာ နတ်သားက -

"အာမဘန္တေ-မှန်ပါသည် အရှင်ဘုရား"

ဟု ထပ်မံ လျှောက်ထား၏။

မြတ်စွာဘုရားနှင့် နတ်သားတို့၏ အမေး၊ အဖြေ စကားကို ကြားသိကြရသည့်အခါ လူအပေါင်းသည် မဋ္ဌကုဏ္ဍလီနတ်သားကိုကြည့်ကာ-

"အို-အချင်းတို့၊ မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးတော်များကား အလွန်အကြူး အထူးချီးကျူးဖွယ်၊ အံ့သြဖွယ်ကြီးပါတကား၊ အဒိန္နပုဗ္ဗက ပုဏ္ဏားကြီးရဲ့သား မဋ္ဌကုဏ္ဍလီ သတို့သားဟာ ဘာကုသိုလ်ကောင်းမှုမှ မပြုဘဲ မြတ်စွာဘုရား၌ ကြည်ညိုစိတ် ဖြစ်ပွားရုံမျှနဲ့ ဒီလို စည်းစိမ်ချမ်းသာမျိုးကို ရရှိ ခံစားရပါကလား"

ဟု တအံ့တသြ ချီးမွမ်းစကား ပြောကြားကြသတဲ့။

ထိုအခါ မြတ်စွာဘုရားသည် ပရိသတ်အပေါင်းအား -

'မနောပုဗ္ဗင်္ဂမာ ဓမ္မာ၊ မနောသေဋ္ဌာ မနောမယာ'

စသော ဂါထာကို ဟောကြားတော်မူ၏။

အဓိပ္ပာယ်အချုပ်မှာ -

'ကောင်းမှု၊ မကောင်းမှုတို့ကို ပြုကြရာ၌ ကျန်နာမက္ခန္ဓာတရားသုံးပါးတို့သည် ဝိညာဏက္ခန္ဓာဟူသော စိတ်သာ ပဓာန နာယကရှိကြ၏။ စိတ်သာ အကြီးအမှူး အဓိပတိရှိကြ၏။ စိတ်ဖြင့် ပြီးကြရကုန်၏။

အကယ်၍ သဒ္ဓါရှေ့သွား ယုံကြည်သောစိတ်ထားဖြင့် ပြောဆို ပြုလုပ်ခဲ့ပါလျှင် ထို သုစရိုက်ဆယ်ပါး အကျင့်တရားရှိသူနောက်သို့ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာသောအကျိုးတရားသည် (ဝါ) လူ၊ နတ်၊ နိဗ္ဗာန်





သုံးတန်သော ချမ်းသာသည် အရိပ်ပမာ အစဉ်လိုက်ပါ၍နေ၏'

ဟု ဆိုလိုပေသည်။

ထိုဂါထာဆုံးသည့်အခါ ရှစ်သောင်းလေးထောင်သောသတ္တဝါတို့ အကျွတ်တရားရကြ၏။ မဋ္ဌကုဏ္ဍလီနတ်သားနှင့် အဒိန္နပုဗ္ဗက ပုဏ္ဏားသားအဖ နှစ်ဦးလုံး သောတာပန်တည်သွားကြ၏။

ထိုအခါမှ အဒိန္နပုဗ္ဗက ပုဏ္ဏားကြီးသည် မိမိ၏ များစွာသော စည်းစိမ်ဥစ္စာတို့ကို မြတ်စွာဘုရား သာသနာတော်၌ စွန့်လွှတ်လှူဒါန်းလေသည်။ ဤ မဋ္ဌကုဏ္ဍလီနတ်သားဝတ္ထု၌ မှတ်သားစရာကောင်းသည့် အချက်များမှာ -

(၁) ရှေးအခါက မည်သည့် ကုသိုလ်ကောင်းမှုကိုမျှ မပြုခဲ့ပါဘဲလျက် သေခါနီး ကာလတွင်မှ ဘုရားရှင်ကို ဖူးမြင်ကြည်ညိုလိုက်ရသည့် ကုသိုလ်စိတ်မျှဖြင့် နတ်စည်းစိမ်ချမ်းသာကို ခံစားရခြင်း၊

(၂) မြတ်စွာဘုရား၏ မဟာကရုဏာဉာဏ်တော်သည် ဘာသာမရွေး၊ လူမျိုးမရွေး သတ္တဝါ အားလုံးအပေါ်၌ ထားရှိတော်မူခြင်း၊

(၃) အချို့ နတ်သား၊ နတ်သမီးတို့သည် နတ်ဖြစ်လျှင်ဖြစ်ချင်း အကြောင်းအားလျော်စွာ မိမိတို့၏ ရှေးဘဝကို ပြန်လည် ဆင်ခြင်လေ့ရှိကြခြင်း၊

(၄) ဗုဒ္ဓဘာသာဝင် မဖြစ်စေကာမူ ကုသိုလ်ကောင်းမှုပြုလျှင် ကမ္မနိယာမ သဘောအတိုင်း ကောင်းကျိုးကို ခံစားရခြင်း၊

(၅) ဗုဒ္ဓဘာသာမှတစ်ပါး အခြားဘာသာဝင်များ ဖြစ်သော်လည်း ဗုဒ္ဓတရားတော်ကို နာကြား၍ ကျင့်ကြံအားထုတ်လျှင် မဂ်တရား၊ ဖိုလ်တရားများ ရရှိနိုင်ခြင်း၊

(၆) ဘုရားရှင်တို့မည်သည် သတ္တဝါအများ အကျိုးခံစားရမည်ဆိုလျှင် အဓိဋ္ဌာန်တန်ခိုးဖြင့် သက်ဆိုင်သူ နတ်သားကို ရှေ့တော်မှောက်ရောက်စေ၍ လက်တွေ့ကျကျ သက်သေပြကာ တရားဟောကြားတော်မူခြင်း၊

(၇) သေခါနီး ကာလ၌ ပြုသော အာသန္နကံ ကုသိုလ်သည် အရေးအကြီးဆုံးဖြစ်ခြင်းတို့ ဖြစ်သည်။

ဤဝတ္ထုဖြင့် မဇ္ဈိမကုဏ္ဍလီသတို့သား ဘုရားရှင်အား ဖူးမြော်ကြည်ညို လိုက်ရသည့်ကုသိုလ်သည် သာမန်အားဖြင့်ကြည့်လျှင် ဒါနကုသိုလ်လည်း မဟုတ်၊ သီလကုသိုလ်လည်း မဟုတ်သဖြင့် မကြီးကျယ်ဟု ထင်ရသော်လည်း ဒါနကုသိုလ်၊ သီလကုသိုလ်တို့ထက် အကျိုးပေးသတ္တိ ကြီးကျယ်သည့် ဗုဒ္ဓါနုဿတိ ဘာဝနာကုသိုလ်ဖြစ်ကြောင်း မှတ်သားရန် ဖြစ်ပေသည်။

## ရေဝတီနတ်သမီး

မဟာသက္ကရာဇ် ၁၄၈ ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့ နံနက်၌ ဗုဒ္ဓမြတ်စွာ၏ လက်ယာတော်ရံ တရားစစ်သေနာပတိကြီးဖြစ်တော်မူသည့် အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးသည် မယ်တော် ရူပသာရီ သူဌေး ကတော် ပုဏ္ဏေးမကြီး၏ နေအိမ်ပြာသာဒ်ထက်ရှိ အရှင်မြတ် ဖွားမြင်ခဲ့ရာ တိုက်ခန်းတွင် ပရိနိဗ္ဗာန် စံဝင်ခဲ့သည်ကို ဗုဒ္ဓဘာသာဝင် သူတော်စင်တို့ သိရှိပြီး ဖြစ်ပါသည်။

မထေရ်မြတ်၏ သာဓုကီဠနသဘင် ဆင်ယင်ကျင်းပရန်အတွက် သောတာပန်အရိယာဖြစ်စဖြစ်သော မယ်တော်သူဌေးကတော် ပုဏ္ဏေးမကြီး က ရွှေပြာသာဒ် ၅၀၀၊ ရွှေမဏ္ဍပ် ၅၀၀ တို့ကို ဆောက်လုပ်သည်။ သိကြားမင်းကြီးကလည်း ရွှေပြာသာဒ် ၅၀၀ နှင့် ရွှေမုခ်ဦး တဲနန်းမဏ္ဍပ် ၅၀၀ တို့ကို ဝိသကြုံနတ်သားအား ဖန်ဆင်းစေ၏။ ဤသို့ ရွှေပြာသာဒ် နှင့် ရွှေမဏ္ဍပ်တို့မှာ ၂၀၀၀ တိတိ ရှိလေသည်။

ထို့နောက် နာလကရွာကြီး၏အလယ်၌ ကြီးစွာသောမဏ္ဍပ်ကြီး ကို အခိုင်အမာဆောက်လုပ်စေ၍ ထိုမဏ္ဍပ်ကြီးအလယ်၌ အကြီးဆုံးသော ရွှေပြာသာဒ်ကြီးကို ထားရှိကာ ကျန်ပြာသာဒ်များကို ဝန်းရံထားပြီးလျှင် သာဓုကီဠနသဘင်ကို ဆင်ယင်ကျင်းပကြသည်။

ထိုသဘင်ပွဲကြီး၌ လူတို့အကြား၌ နတ်များ၊ နတ်တို့၏ အကြား၌ လူများ စည်ကားသိုက်မြိုက်စွာ သွားလာကော်ရော် ပူဇော်ကြသည်ဟုဆို၏။

မထေရ်မြတ်၏တပည့် ဒါယိကာမတစ်ဦးဖြစ်သော ရေဝတီ ခေါ်သည့် အမျိုးသမီးသည် –

'ငါလည်း မထေရ်မြတ်အား ပူဇော်မှုကိုပြုမယ်'





ဟု ကြံစည်ကာ ရွှေပန်းအိုး သုံးလုံးတို့ကို ပြုလုပ်စေပြီး ဈာပန သဘင် ဆင်ယင်ကျင်းပရာသို့ ရောက်လာသတဲ့။

ထိုအချိန်တွင် သိကြားမင်းကြီးကလည်း မထေရ်မြတ်ကို ပူဇော်ရန် နတ်သမီးကချေသည်ပေါင်း နှစ်ကုဋေ ငါးသန်း ခြံရံကာ လူ့ပြည်သို့ ဆင်းသက်လာ၏။

ထိုအခါ ဈာပနသဘင်ရှိ လူထုပရိသတ်ကြီးသည် 'သိကြား မင်းကြီး ဆင်းလာပြီ' ဆိုပြီး နောက်ဘက်သို့ ဆုတ်လာကြ၏။

ထိုပရိသတ်တွင် ရေဝတီ အမျိုးသမီးလည်း ပါဝင်၍ သူလည်း အများနည်းတူ နောက်သို့ ဆုတ်ရရာ ကိုယ်ဝန်ရှိနေသူ ဖြစ်သောကြောင့် အခြား သူများကဲ့သို့ အမြန် မဆုတ်နိုင်ရှာ၍ လူအများကြားတွင် လဲကာ လူများနင်းမိပြီး ထိုနေရာ၌ပင် ကွယ်လွန်သွားရရှာ၏။

ရေဝတီ အမျိုးသမီးသည် ကွယ်လွန်သည်နှင့် တစ်ပြိုင်နက် တာဝတိံသာနတ်ပြည်တွင် ရွှေဗိမာန်ကြီး၌ နတ်သမီး သွားဖြစ်၏။

ထိုရေဝတီနတ်သမီး၏ ခန္ဓာကိုယ်မှာ ရတနာတုံး ရတနာစိုင်ကြီး ကဲ့သို့ သုံးဂါဝုတ်ခန့် ပမာဏ ရှိ၏။ အဆင်တန်ဆာတို့မှာလည်း လှည်း အစီး ခြောက်ဆယ်ခန့်ရှိ၏။ အခြံအရံနတ်သမီးပေါင်း တစ်ထောင်ရှိ၏။

ပထမတွင် ရေဝတီအမျိုးသမီးသည် သူ နတ်သမီး လာဖြစ်သည်ကို မသိသေး။ အခြံအရံ နတ်သမီးတို့က နတ်၌ဖြစ်သော ကိုယ်လုံးပေါ်မှန်ကြီးကို ရေဝတီနတ်သမီးရှေ့၌ ချထားကြခါမှ သူ နတ်သမီးဖြစ်မှန်း သိသွား၏။

သူ၏ ကြီးစွာသော စည်းစိမ် အသရေကို မြင်ရသောအခါ –

'ငါ၏စည်းစိမ်ကား ကြီးကျယ်လှဘိ၏။ ငါသည် အဘယ်သို့ သော ကောင်းမှုကံကို ပြုခဲ့ပါသလဲ' ဟု ဆင်ခြင်၏။

ထိုအခါ –

'ငါသည် ရှင်သာရိပုတ္တရာ မထေရ်မြတ်၏ ပရိနိဗ္ဗာန်စံရာဌာန၌ ရွှေပန်းအိုးသုံးလုံးတို့ဖြင့် ပူဇော်ခဲ့၏။ လူများ နင်းမိ၍ ထိုနေရာမှာပင် ကွယ်လွန်ခဲ့ကာ ဤတာဝတိံသာနတ်ပြည်၌ ယခုလို နတ်သမီး လာဖြစ် ခြင်း ဖြစ်သည်။ မထေရ်မြတ်ကို အမှီပြု၍ ရရှိလာသည့်ကောင်းမှုအကျိုးကို ယခု ချက်ချင်းပင် လူအပေါင်းတို့အား ပြောကြားအံ့'

ဟု ကြံစည်ကာ ရွှေဗိမာန်ကြီးနှင့်တကွ လူ့ပြည်သို့ ဆင်းသက်လာလေ၏။

ရျာပနသဘင်ရှိ လူထုပရိသတ်ကြီးသည် ကောင်းကင်ယံ အမြင့်ကြီးတွင် ရွှေဗိမာန်ကြီးကို မြင်ကြရသောအခါ –

"အလို...နေနှစ်စင်း ထွက်လာပါပြီကော"

ဟု တအံ့တသြ ကြည့်ရှုနေကြ၏။

ရွှေဗိမာန်ကြီး တရွေ့ရွေ့ နီးကပ်လာတော့မှ –

"ဤအရာကား နေမဟုတ်၊ ရွှေဗိမာန်ကြီးတစ်ဆောင်ပါလား"

ဟု ပြောဆိုကြ၏။

ထိုသို့ လူအများ ပြောကြားနေကြစဉ် ရွှေဗိမာန်ကြီးသည် အနီးသို့ ရောက်လာကာ မထေရ်မြတ်၏ ဥတုဇရုပ်ကလာပ်တော်ကို သဂြိုဟ်ရန် စုပုံထားသော နံ့သာထင်းပုံအထက် ကောင်းကင်၌ ရပ်တည်ထား၏။

ရေဝတီ နတ်သမီးသည် ရွှေဗိမာန်ကြီးကို ကောင်းကင်၌ပင် ထားခဲ့၍ မြေပြင်သို့ သက်ဆင်းလာလေ၏။

လူထုပရိသတ်ကြီးက –

"ရှင်မ၊ သင်သည် အဘယ်သူနည်း" ဟု ဝိုင်းမေးကြရာ –

"သင်တို့ ငါ့ကို မသိကြဘူးလား။ ငါကား ရေဝတီ ခေါ်တဲ့ အမျိုးသမီးပဲ ဖြစ်ပါတယ်။

ရွှေပန်းအိုးသုံးလုံးတို့ဖြင့် မထေရ်မြတ်ကို ပူဇော်ပြီးနောက် လူများအနင်းခံရ၍ ကွယ်လွန်သွားကာ တာဝတိံသာနတ်ပြည်မှာ ယခုလို နတ်သမီး ဖြစ်ရတယ်။ ငါ့ရဲ့ စည်းစိမ်ချမ်းသာတွေကို ကြည့်ရှုကြပါကုန်။ သင်တို့ ကလည်း ယခုအခါ အလှူဒါန ပေးလှူကြပါ။ ထိုဒါနမှတစ်ပါး အခြား ကောင်းမှုများကိုလည်း ပြုလုပ်ကြပါ"

ဟု ကုသိုလ်ကောင်းမှု ပြုလုပ်ခြင်း၏ ဂုဏ်ကျေးဇူးစကားကို ပြောကြားလေသည်။

ထို့နောက် မထေရ်မြတ်၏ နံ့သာထင်းပုံကို လက်ယာရစ် လှည့်ကာ ရှိခိုးပြီးနောက် မိမိနေရာ တာဝတိံသာနတ်ပြည်ဌာနသို့ပင် ပြန်သွားလေသတည်း။





## သီရိလင်္ကာသူ နတ်သမီးနှစ်ဦး

ယခု သီရိလင်္ကာနိုင်ငံ ခေါ် သီဟိုဠ်ကျွန်းတွင် သာသနာတော်နှစ် ၃၆၃ တွင် အဘယဒုဋ္ဌဂါမဏိမင်း နန်းတက်၍ နှစ်ပေါင်း ၂၄ နှစ် မင်းပြု၏။

ထိုမင်းလက်ထက်တွင် သာသနာတော်မှာ နေရောင်လရောင်ပမာ ထွန်းလင်းဖြာခဲ့သည်။ မင်းကြီးသည် သာသနာတော်၏ အကျိုးစီးပွား အလို့ငှာ ၉၉ ဆောင်သော ကျောင်းတိုက်တို့ကို ဆောက်လုပ်လှူဒါန်း၏။ တစ်ဆယ့်ကိုးကုဋေသော ဥစ္စာတို့ဖြင့် မရိစဝဋ္ဋိမည်သော ကျောင်းကို လှူဒါန်း၏။ ကုဋေသုံးဆယ်သောဥစ္စာတို့ဖြင့် နတ်ဗိမာန်နှင့်တူစွာ လောဟပါသာဒ (ကြေးပြာသာဒ်) ကို ဆောက်လှူ၏။ မဟာစေတီတော်ကြီးကိုလည်း တန်ဖိုးမဖြတ်နိုင်သော နှစ်ဆယ်သော အရာဝတ္ထုတို့ဖြင့် တည်လှူ၏။

မရိစဝဋ္ဋိကျောင်းကြီးကို ခုနစ်ရက်လုံး အနုမောဒနာပြုသောအခါ၊ လောဟပါသာဒ အဆောက်အအုံကို ခုနစ်ရက်ပတ်လုံး အနုမောဒနာပြုသောအခါ၊ မဟာစေတီတော်ကို စတည်စဉ် ခုနစ်ရက်ပတ်လုံး၊ ဓာတ်တော်ဌာပနာစဉ် ခုနစ်ရက်ပတ်လုံး အရပ်လေးမျက်နှာမှ ကြွလာကြကုန်သော ရဟန်း၊ ရဟန်းမ များစွာတို့အား အဖိုးများစွာထိုက်သော အလှူကြီးကို ပေးလှူ၏။ သီဟိုဠ်ကျွန်းရှိ သံဃာတော်များအား သုံးကြိမ်တိုင်တိုင် တိစီဝရိပ် သင်္ကန်းများကို လှူဒါန်းသည်။ တစ်ဆယ့်ရှစ်ရပ်သောဌာန၌ နေကုန်သော ရဟန်းတို့အား ဆွမ်း၊ ယာဂု၊ ဆေးပစ္စည်းတို့ဖြင့် လည်းကောင်း၊ သမားဟူးရားတို့ဖြင့် လည်းကောင်း ကောင်းစွာ လုပ်ကျွေးပြုစုသည်။ လေးဆယ့်လေးဌာနတို့၌ ပျားဆွမ်း၊ ဃနာဆွမ်းတို့ကို ကပ်လှူ၏။ ဆီကြော်နို့ခဲနှင့် ထောပတ်ဖြင့် ချက်သော မဟာဇလမုန့်တို့ကို ဆွမ်းနှင့်တကွ နိစ္စဘတ် ကပ်လှူ၏။

ဤသို့ ဒုဋ္ဌဂါမဏိမင်းသည် များစွာသောကောင်းမှုတို့ကို ပြုခဲ့၏။

ဤကောင်းမှုများအနက် မဟာစေတီတော်ကို တည်ထားရာ၌ အခကြေးငွေတို့ဖြင့် ပြုလုပ်ကြသော ယောကျာ်း၊ မိန်းမတို့သည် ကြည်ညိုသောစိတ်ဖြင့် လုပ်ဆောင်ကြသည်ဖြစ်၍ ကွယ်လွန်သေဆုံးကြသည့်အခါ နတ်ရွာသုဂတိတို့သို့ ရောက်သောသူတို့ အလွန်များကုန်၏ဟု ဆို၏။

ထိုတွင် ဆင်းရဲသူ အမျိုးသမီးနှစ်ဦးတို့သည် အခကြေးငွေယူ၍ မဟာစေတီတည်ရာ၌ အုတ်သယ်ခြင်းအမှုကို ပြုကြ၏။

ထိုအမျိုးသမီး နှစ်ဦးတို့သည် စေတီတော်တည်ပြီးစဉ်ပင် ကွယ်လွန်ကြ၍ တာဝတိံသာနတ်ပြည်တွင် နတ်သမီး ဖြစ်ကြ၏။

မိမိတို့ကောင်းမှုကို ပြန်လည် ဆင်ခြင်ကြသည့်အခါ ဤမဟာစေတီတော်ကြီး၏ ကျေးဇူးတရားဖြစ်သည်ဟု သိကြ၍ ပန်းနံ့သာ လက်ဆွဲကာ နတ်ပြည်မှ မဟာစေတီတော်သို့ ဆင်းလာ၍ ပူဇော်ကြသည်။

ထိုခဏတွင် ဘာတိဝင်္ကအရပ်၌ သီတင်းသုံးသော မဟာသုဝမထေရ်သည် စေတီတော်ကို ရှိခိုးပူဇော်ရန် ညဥ့်အခါ ရောက်လာခဲ့ရာ နတ်သမီးနှစ်ဦးကို မြင်တော်မူ၍ စေတီတော်၏အနီး စရည်းပင်ကြီးအကွယ်တွင် ကပ်ကာ စောင့်ကြည့်နေ၏။

မထေရ်မြတ်သည် နတ်သမီးတို့ စေတီတော်ကို ရှိခိုးပူဇော်ပြီးသောအခါ အနီးသို့ ကပ်သွား၍ –

"လွန်မြတ်သော ကိုယ်ရောင်ကိုယ်ဝါတို့ဖြင့် သီဟိုဠ်တစ်ကျွန်းလုံးကို လွှမ်းဖုံးတောက်ပ တင့်တယ်လှပစေသော အို–နတ်သမီးတို့။

သင်တို့သည် ဤလူ့ပြည်က ဘယ်ကောင်းမှု ပြုခဲ့ကြသောကြောင့် ထူးမြတ်သော နတ်သမီးစည်းစိမ် ချမ်းသာကို ရကြပါသနည်း"

ဟု မေးလိုက်၏။

"အရှင်ဘုရား၊ တပည့်တော်မတို့သည် ဤမဟာစေတီတော်ကို တည်စဉ်က အခကြေးငွေပင် ယူကြပါသော်လည်း ကြည်ညိုစွာသောစိတ်ဖြင့် အုတ်များကို သယ်ခဲ့ဖူးပါသည်။ ထိုကောင်းမှုကြောင့် စုတေသောအခါ တာဝတိံသာ နတ်ချမ်းသာကိုရခြင်း ဖြစ်ပါသည် ဘုရား"

ဟု နတ်သမီးတို့က ပြန်လည် လျှောက်ထားကြောင်း မဟာဝင်ကျမ်း၌ လာရှိပေသည်။

ဤဝတ္ထုတွင် ဘုရားစေတီတော်များကို တည်ရာ၌ အခကြေးငွေဖြင့် တာဝန်ထမ်းဆောင်ကြသည့် ပန်းရန်သမားများ၊ အုတ်သယ်သူများ၊ အုတ်ဖုတ်သူများ စသည်တို့အတွက် နတ်သမီးတို့၏ စိတ်ထားပုံကို အလွန်အတုယူစရာ ကောင်းလှ၏။





မြန်မာစကားပုံ၌ 'စိတ်ထားတတ်တော့ မြတ်' ဆိုသည်မှာ ဤ နတ်သမီးနှစ်ဦးတို့ အုတ်သယ်စဉ်က ထားခဲ့သည့် စိတ်ဓာတ်မျိုးပင် ဖြစ်သည်။

## ဒုဋ္ဌဂါမဏိနတ်သား

မဟာစေတီတော်ကြီးကို တည်တော်မူသော ဒုဋ္ဌဂါမဏိမင်းကြီးသည် မဟာစေတီအုတ်ရိုးသာပြီး၍ ထီးတော်တင်ခြင်း၊ အင်္ဂတေလိမ်းကျံခြင်း ကိစ္စများ မပြီးမီမှာပင် နတ်ရွာစံလုနီးပါး ရောဂါဝေဒနာ ပြင်းထန်စွာ ဖြစ်ပေါ်လာ၏။ ညီတော် တိဿကို ခေါ်တော်မူသည်။ စေတီတော်၌ မပြီးသေးသောကိစ္စများကို ပြီးအောင်ပြုလုပ်ရန် အမိန့်ပေး၏။

ညီတော် တိဿမင်းသားသည် နောင်တော် အမိန့်ရှိသည့်အတိုင်း လျင်မြန်စွာ ယာယီပြီးစီးရန် အရေးပေါ်အနေဖြင့် စေတီတော်ကြီးတစ်ခုလုံးကို ဖြူစင်သော အဝတ်တို့ဖြင့် ရစ်ပတ်ကာ ပန်းချီသမားတို့အား ပန်းချီဆေးရေးတို့ကို ခြယ်လှယ်စေ၏။

ဝါးဖြင့်လုပ်သော ထီးတော်ကို လည်းကောင်း၊ ပဒုမ္မာကြာရွက်ဖြင့် ပြုလုပ်သော လဝန်း,နေဝန်းတို့ကို လည်းကောင်း၊ ပွတ်တိုင်, ဆည်းလည်း, ညောင်ရွက်တို့ကို လည်းကောင်း ပြုစေ၏။ ပန်းချီဆေးရေးတို့ဖြင့် ရေးသားခြယ်လှယ်ပြီးသော် စေတီတော်ပြီးကြောင်း မင်းကြီးအား လျှောက်ထား၏။

မင်းကြီးလည်း စီးမြဲသောယာဉ်ဖြင့် လျောင်းလျက်ပင် ထမ်းစေ၍ စေတီတော်ကို လယ်ယာရစ် လှည့်လည် ရှိခိုးကာ တောင်တံခါးဝတွင် သန့်ရှင်းစွာ ခင်းထားသော မြေခင်း၌ လက်ယာနံပါးဖြင့် လျောင်းလျက် မဟာစေတီကို ပူဇော်ရှိခိုး၏။ တစ်ဖန် လက်ဝဲနံပါးဖြင့် လျောင်းပြန်လျက် လောဟပါသာဒကို ရှုမြင်၍ ပူဇော်ရှိခိုး၏။

မင်းကြီးကို ကြည့်ရှုမေးမြန်းရန် အရပ်ရပ်မှ ရဟန်းတော်များ အမြောက်အမြား ကြွလာကြ၏။ ထိုရဟန်းတော်များသည် အစုဖွဲ့ကာ တရားတော်များကို ရွတ်ဖတ် သရဇ္ဈာယ်ကြ၏။

ထိုရဟန်းတော်များ အစုအဝေး၌ ထေရပုတ္တာအဘယမထေရ်ကို မမြင်သဖြင့် –

'ဒီ အဘယမည်တဲ့ စစ်ဗိုလ်ကြီးဟာ ကျေးကုလားတွေနဲ့ ငါ ၂၈ ကြိမ်တိုင် စစ်တိုက်ရာမှာ ငါနိုင်မယ်ထင်ပြီး ငါနဲ့ အဖော်ပြုကာ တိုက်ခဲ့တယ်။ အခု သေမင်းနဲ့ စစ်ထိုးရာတွင် ငါရှုံးမယ်သိလို့ ငါ့ထံသို့ မရောက်လာတာဘဲ' ဟု ကြံတွေး၏။

ထိုအကြံကို ပဥ္စလိတောင်၌ သီတင်းသုံးနေသော အဘယမထေရ် သိ၍ ရဟန္တာငါးရာ ခြံရံ၍ ကောင်းကင်ခရီးဖြင့် ကြွလာကာ မင်းကြီးအနီးတွင် ဝန်းရံလျက် ရပ်ကြ၏။

မင်းကြီးသည် မထေရ်ကို မြင်သည့်အခါ ခင်မင်ကြည်ညိုသော စိတ်ရှိ၍ ဝမ်းမြောက်ဝမ်းသာ အနီးသို့ ကြွလာစေပြီး –

"အရှင်ဘုရား၊တပည့်တော်ဟာ အရှင်ဘုရား အပါအဝင် စစ်သူကြီး တစ်ကျိပ်တို့နှင့်အတူ စစ်တိုက်ရပ်ခဲ့ပါပြီ။ အခုမှာ တပည့်တော် တစ်ဦးတည်းသာ သေမင်းနဲ့ စစ်တိုက်နေရပါ၏။ ရန်သူ သေမင်းကိုတော့ နိုင်အောင် တိုက်နိုင်မည် မဟုတ်ပါ" ဟု လျှောက်၏။

အဘယမည်သော ရဟန္တာမထေရ်က ရုပ်နာမ်ဟူသမျှ အမြဲမရှိ၊ အစိုးမရသည့် သင်္ခါရတရားများသာဖြစ်ကြောင်း ဟောကြားတော်မူပြီး–

"မင်းကြီး၊ သင်သည် ဘုရားရှင်သာသနာ ထွန်းလင်းအောင် များစွာသော ကောင်းမှုတို့ကို ၊ ယနေ့တိုင် ပြုလုပ်သည့် ကုသိုလ်တို့ကို အောက်မေ့တော်မူပါ။ အောက်မေ့တတ်ပါက နတ်ချမ်းသာကို လျင်စွာ ရောက်မည်"

ဟု လမ်းညွှန်တော်မူ၏။

မင်းကြီးသည် အလွန် အားတက်ဝမ်းမြောက်သွားကာ –

"အရှင်ဘုရား၊ အရှင်မြတ်သည် တပည့်တော်၏ နှစ်ကြိမ်မြောက် စစ်ပွဲမှာလည်း အဖော်ကောင်း ဖြစ်ပါပေသည်"

ဟု လျှောက်ထားကာ ကောင်းမှုစာရင်းပုရပိုက်ကို စာရေးအား ဖတ်ကြားလျှောက်ထားစေသည်။

အလှူစာရင်း ဖတ်ကြားပြီးသည့်အခါ မင်းကြီးက –

"ငါ ဘုရင်အဖြစ်၌ လှူဒါန်းခဲ့သော ဒါနများစွာရှိပေမယ့် စိတ်က နှစ်သက်လွန်းသည် မဟုတ်။ ဆင်းရဲဒုက္ခ ရောက်စဉ်က အသက်မငဲ့မူ၍





လှူခဲ့ရသော ဆပ်ဆွမ်းနှင့် စားအုံဆဲဆဲ တစ်ယောက်စာထမင်းအလှူကိုသာ ငါ အလွန်နှစ်သက်၏။ ဝမ်းမြောက်ဝမ်းသာရှိ၏"

ဟု အပရစေတနာများ ဖြစ်ပွားကြောင်း မိန့်ကြား၏။

ထို့နောက် ညီတော် တိဿအား မှာထားစရာများ အားလုံး မှာကြား၍ ဆိတ်ဆိတ်နေတော်မူ၏။

ရဟန်းသံဃာများက တရားတော်များကို ရွတ်ဖတ် သရဇ္ဈာယ်ကြ၏။

ထိုအချိန်မှာပင် နတ်ရထားခြောက်စင်း ဆိုက်ရောက်လာပြီး –

"သူ့ရထားစီးပါ၊ ငါ့ရထားစီးပါ"

ဟု မင်းကြီးကို လျှောက်ကြသတဲ့။

'ငါ တရားနာနေပါသေးတယ်၊ ခဏဆိုင်းပါဦး'

ဟူသော သဘောဖြင့် လက်ဝါးကာပြလိုက်၏။

ရဟန်းတော်များက သူတို့ကို တားမြစ်သည်ထင်ကာ သရဇ္ဈာယ်ခြင်းကို ရပ်လိုက်ကြ၏။ မင်းကြီးက –

"အရှင်ဘုရားတို့ကို လက်ဝါးကာပြခြင်း မဟုတ်ပါ။ နတ်ရထားခြောက်စင်းမှ နတ်တို့ကို လက်ဝါးကာပြခြင်း ဖြစ်သည်" ဟု လျှောက်၏။

အဘယ မထေရ်က နတ်ရထားရောက်ကြောင်း လူအများ သံသယကင်းအောင် မင်းကြီးပြောသည့်အတိုင်း ပန်းကုံးကြီးခြောက်ကုံးကို ကောင်းကင်သို့ ပစ်လွှတ်စေရာ ပန်းကုံးများသည် ရထားများတွင် အသီးသီး ချိတ်မိကာ တွဲရရွဲ ဆွဲနေကြ၏။ ထိုအခါမှ လူအများ ယုံကြည်သွားကြ၏။

ထို့နောက် မင်းကြီးက –

"အဘယ်နတ်ပြည်သည် ပျော်ဖွယ်ရာ ကောင်းပါသလဲ"

ဟု အဘယမထေရ်ကို လျှောက်ထားရာ –

"မေတ္တေယျ ဘုရားလောင်းနတ်သားရှိသည့် တုသိတာနတ်ပြည်သည် ပျော်ဖွယ်ရာကောင်းကြောင်း" မိန့်တော်မူ၏။

ထိုအခါ မင်းကြီးသည် မဟာစေတီကို ရှုမျှော်ကာ လျောင်းလျက်ပင် မျက်စိမှိတ်တော်မူ၏။ ထိုခဏ၌ နတ်ရွာစံ၍ တုသိတာနတ်ရထား၌ နတ်သား သွားဖြစ်၏။

မိမိ ပြုလုပ်သည့် ကောင်းမှုကံ၏ အကျိုးတရားကို လူအများ ထင်ရှားသိစေရန် နတ်ဝတ်တန်ဆာတို့ဖြင့် လွှန်စွာတင့်တယ်သောကိုယ်ကို လူအများတို့အား ထင်ရှားပြလျက် မဟာစေတီတော်ကို လက်ယာရစ် သုံးပတ်လှည့်ကာ စေတီနှင့် သံဃာတော်များကို ရှိခိုးပြီးမှ တုသိတာ နတ်ပြည်သို့ တက်သွားလေသည်။

ဤဝတ္ထု၌ သေခါနီးတွင် မိတ်ဆွေကောင်း အရေးကြီးပုံ၊ သေခါနီးတွင် ပြုလုပ်အပ်၊ ပြန်လည် အောက်မေ့အပ်သည့် အာသန္နကံ အရေးကြီးပုံတို့ကို သတိပြုသင့်ကြပေသည်။

❒



## မိစ္ဆာဒိဋ္ဌိမှ ဖြစ်လာသောနတ်များ

တစ်ခါက -

"မိစ္ဆာဒိဋ္ဌိတွေ သေရင် အပါယ်ကျတယ်လို့ ကြားဖူးပါတယ်။ နတ်တွေမှာ မိစ္ဆာနတ်တွေ ရှိတယ်ဆိုတော့ အဲဒီနတ်တွေဟာ မိစ္ဆာဒိဋ္ဌိတွေ သေလို့ ဖြစ်လာတဲ့နတ်တွေလား။ မိစ္ဆာဒိဋ္ဌိတွေ သေရင် နတ်ပြည်ရောက်နိုင် သလား"

ဟု ဓမ္မမိတ်ဆွေတစ်ဦးက မေးဖူးပါတယ်။

ယခု ဓမ္မမိတ်ဆွေနှင့် အမေး၊ အဖြေအတိုင်း ပြန်လည် တင်ပြပါမည်။

"မိစ္ဆာဒိဋ္ဌိတွေ သေရင် အပါယ်ကျတယ် ဆိုတာ တစ်ဝက် မှန်ပါ တယ်။ ရာနှုန်းပြည့်တော့ မမှန်ပါဘူး။

မိစ္ဆာနတ်တွေ ရှိတယ်ဆိုတာ ဟုတ်ပါတယ်။ ဒါပေမယ့် အဲဒီ မိစ္ဆာနတ်တွေဟာ မိစ္ဆာဒိဋ္ဌိတွေ သေလို့ ဖြစ်လာကြတဲ့ နတ်တွေပဲလို့ ကျမ်းဂန်မှာ မတွေ့ရပါဘူး။ နောက်ပြီး အချို့မိစ္ဆာဒိဋ္ဌိတွေ သေရင် နတ်ပြည် ရောက်နိုင်ပါတယ်။ ရောက်တဲ့ အထောက်အထား သာဓကတွေလည်း ဘုရားဟော ပါဠိတော်မှာ ရှိပါတယ်"

"တစ်ဝက်မှန်တယ်ဆိုတာ ဘယ်လို သဘောပါလဲ"

"ကျွန်တော် ရှင်းပြပါ့မယ်။ မှားတဲ့အယူ ရှိသူတွေကို ပါဠိလို မိစ္ဆာဒိဋ္ဌိကလို့ ခေါ်တယ်။ မြန်မာလိုကတော့ က အက္ခရာဖျောက်ပြီး မိစ္ဆာ ဒိဋ္ဌိပဲ ခေါ်ကြတယ်။

များတဲ့အယူဆိုတာက ကောင်းမှုကံ၊ မကောင်းမှုကံ ဆိုတာ မရှိဘူး။ ထိုကံတွေရဲ့ ကောင်းကျိုး၊ ဆိုးကျိုး ဆိုတာလည်း မရှိဘူးလို့ ကံနဲ့ ကံရဲ့အကျိုးနဲ့ ပတ်သက်ပြီး များများယွင်းယွင်းယူတဲ့ အယူမျိုး ဖြစ်တယ်။ အဲဒါကလည်း အမျိုးမျိုးရှိတယ်။

ဘုရားလက်ထက်က –

'တကယ်တော့ ကံ ဆိုတာ ရှိတာ မဟုတ်ဘူး။ လူတွေရဲ့ သတ်မှတ်ချက်အရသာ ကုသိုလ်ကံ၊ အကုသိုလ်ကံလို့ ခေါ်နေကြတယ်။ ဒီကံတွေ ပြုနေကြပေမယ့် ပြုရာ မရောက်ပါဘူး'

လို့ ပူရဏကဿပ ဂိုဏ်းဆရာကြီးက ယူတယ်။ အဲဒီအယူကို အကိရိယ(ပြုရာမရောက်တဲ့) မိစ္ဆာဒိဋ္ဌိလို့ ခေါ်တယ်။

မက္ခလိဂေါသာလ ဂိုဏ်းဆရာကြီးကတော့ –

'လောကမှာ ဆင်းရဲတယ်၊ ချမ်းသာတယ်ဆိုတာ ဘယ်အကြောင်းကြောင့်မှ ဖြစ်ပေါ်လာတာ မဟုတ်ဘူး။ သူ့အချိန် ကျရောက်လာလျှင် ဆင်းရဲကြ၊ ချမ်းသာကြရတာပဲ။ သံသရာမှ လွတ်မြောက်တဲ့နေရာမှာ တောင် အကြောင်းမရှိဘူး။ တရားကျင့်ကြံ အားထုတ်နေစရာလည်း မလိုဘူး။ သူ့အချိန်စေ့ရင် သူ့ဘာသာသူ အလိုအလျောက် လွတ်မြောက်သွားကြတာပဲ'

လို့ ယူဆတယ်။ အဲဒီအယူကိုတော့ အဟေတုက (အကြောင်းမဲ့) မိစ္ဆာဒိဋ္ဌိလို့ ခေါ်တယ်။

'ကောင်းမှုကံ၊ မကောင်းမှုကံ ဆိုတာတော့ ရှိတယ်။ ဒါပေမယ့် ဒီကံတွေရဲ့ အကျိုး ဆိုတာတွေကတော့ မရှိဘူး။ တမလွန်လောက ဆိုတာလည်း မရှိဘူး။ ပေးကမ်း လှူဒါန်းတာဟာလည်း အကျိုး မရှိဘူး။ အလကားပဲ။ မိဘတွေကို လုပ်ကျွေးပြုစုတာလည်း အကျိုးမရှိ၊ ပြစ်မှားရင်လည်း အပြစ်မဖြစ်'

လို့ အဇိတကေသကမ္ဗလ ဂိုဏ်းဆရာကြီးက ယူတယ်။ အဲဒီအယူကိုတော့ နတ္ထိက (အကျိုးမဲ့) မိစ္ဆာဒိဋ္ဌိလို့ ခေါ်တယ်။

အင်္ဂုတ္တိုရ်ပါဠိတော် တိတ္ထာယတနသုတ်မှာ ဟောထားတဲ့ ဣဿရနိမ္မာနဒိဋ္ဌိ၊ ပုဗ္ဗေကတဟေတုဒိဋ္ဌိ ဆိုတာတွေလည်း ရှိသေးတယ်။





ဣဿရနိမ္မာနဒိဋ္ဌိ ဆိုတာက –

သတ္တဝါတွေကို ဘုရားသခင်က ဖန်ဆင်းပေးထားတာ၊ သတ္တဝါတွေဟာ ဘုရားသခင် သို့မဟုတ် ဗြဟ္မာကြီးက ဖန်ဆင်းပေးတဲ့အတိုင်း ဆင်းရဲ၊ ချမ်းသာ ဖြစ်နေကြတယ်လို့ ယူဆတဲ့အယူ ဖြစ်တယ်။

ကံကြောင့် ဖြစ်တယ်လို့ မယူဘဲ ဘုရားရှင် ဖန်ဆင်းတာကြောင့် ဖြစ်တယ်လို့ ယူဆတဲ့အတွက် ဣဿရနိမ္မာန (အစိုးရသခင် ဖန်ဆင်းရှင်) ဒိဋ္ဌိလို့ ခေါ်တယ်။

ပုဗ္ဗေကတဟေတုဒိဋ္ဌိကတော့ ကံနဲ့ ကံရဲ့အကျိုးတွေကို ယုံကြည်ပေမယ်လို့ အခု ဘဝမှာ ခံစားနေကြရတဲ့ ကောင်းကျိုး၊ ဆိုးပြစ်တွေ အားလုံးဟာ အခုဘဝမှာ လုပ်တဲ့ကံကြောင့် မဟုတ်ဘူး။ ရှေးရှေးဘဝတွေက ပြုလုပ်ခဲ့ကြတဲ့ အတိတ်ကံကြောင့်ချည်းပဲ ဖြစ်တယ်လို့ ယူတဲ့အယူများ ဖြစ်တယ်။

(ပုဗ္ဗေကတဟေတု=ရှေးပြုခဲ့တဲ့ကံဟူသော အကြောင်းကြောင့် ဖြစ်တယ်+ဒိဋ္ဌိ=အယူမှား)

ကျွန်တော်တို့ ဗုဒ္ဓဘာသာဝင်တွေလို အခုဘဝမှာ လုပ်တဲ့ကံနဲ့ ရှေးဘဝမှာ လုပ်ခဲ့တဲ့ကံ နှစ်မျိုးလုံးကို ယုံကြည်တဲ့ ကမ္မဝါဒီပုဂ္ဂိုလ်တွေ ဖြစ်ပေမယ့် သတ္တဝါတွေရဲ့ ခန္ဓာကိုယ်ထဲမှာ အရာရာကို စီမံပြုလုပ်ပေးတဲ့ ခန္ဓာအိမ်ရဲ့ပိုင်ရှင် အတ္တဆိုတဲ့ အကောင်ကလေး ရှိတယ်လို့ စွဲလမ်းယုံကြည်တဲ့ပုဂ္ဂိုလ် အချို့လည်း ရှိသေးတယ်။ အဲဒီလို ယူတဲ့ ပုဂ္ဂိုလ်မျိုးကို အတ္တဒိဋ္ဌိအယူရှိသူလို့ ခေါ်တယ်"

"မိစ္ဆာဒိဋ္ဌိတွေကလည်း များလှချေလား ဆရာ"

"ဟုတ်ကဲ့၊ များပါတယ်။ သုတ်သီလက္ခန်ပါဠိတော် ဗြဟ္မဇာလသုတ်မှာ ဟောထားတဲ့ မိစ္ဆာဒိဋ္ဌိ ၆၂ ပါးလည်း ရှိသေးတယ်။

အဲဒီ မိစ္ဆာဒိဋ္ဌိတွေကတော့ အတ္တဒိဋ္ဌိကို အခြေခံပြီး ကွဲပြားသွားကြတဲ့ ဒိဋ္ဌိတွေ ဖြစ်ပါတယ်။

ကျွန်တော်ပြောခဲ့တဲ့ နတ္ထိကဒိဋ္ဌိ၊ အဟေတုကဒိဋ္ဌိ၊ အကိရိယဒိဋ္ဌိကြီး သုံးမျိုးကတော့ ကံနဲ့ ကံရဲ့အကျိုးတရားတွေပေါ်မှာ သဘောထားခံယူချက် လွဲမှားသွားကြတဲ့ မိစ္ဆာဒိဋ္ဌိကြီးတွေ ဖြစ်ပါတယ်။

အဲဒီ ဒိဋ္ဌိကြီးတွေကို သုတ်သီလက္ခန်ပါဠိတော် သာမညဖလသုတ်မှာ ဟောထားပါတယ်။ ဉ္စာသရနိမ္မာနဒိဋ္ဌိကလည်း ဖန်ဆင်းရှင်ဝါဒဆိုတော့ ကံကိုပယ်တဲ့ အယူတစ်မျိုးပါ”

“ဆရာ အခု ပြောခဲ့တာတွေဟာ အကုန်လုံး အယူမှားတွေချည်းပဲလား”

“ဟုတ်ပါတယ်။ အကုန်လုံး အယူမှားတွေချည်းပဲလို့ ဘုရားဟောထားပါတယ်။ ဒါပေမယ့် ဒီအယူတွေထဲမှာ ကံနဲ့ ကံရဲ့အကျိုးတွေကို ပယ်တဲ့ နတ္ထိကဒိဋ္ဌိ၊ အဟေတုကဒိဋ္ဌိ၊ အကိရိယဒိဋ္ဌိကြီး သုံးမျိုးသာ အပါယ်ကျစေနိုင်တဲ့ဒိဋ္ဌိတွေလို့ ကျမ်းဂန်မှာ ဆိုပါတယ်။

အဲဒီ အယူမှားတွေကို လက်ခံ ယုံကြည် စွဲယူကြတဲ့နေရာမှာ အလေး အပေါ့အရ နှစ်မျိုး ကွဲပြားခြားနားကြပါတယ်။

နတ္ထိကဒိဋ္ဌိ စတဲ့ အယူမှားတွေကို ယူကြတဲ့နေရာမှာ ပူရဏကဿပ စတဲ့ ဂိုဏ်းဆရာကြီးတွေလို ဘုရားရှင်တောင် ချွတ်လို့ မရအောင် အခိုင်အမာ စွဲစွဲမြဲမြဲ တစ်သက်လုံး အရိုးစွဲအောင် သဲသဲမဲမဲ ယူထားပြီး အဲဒီ အယူအတိုင်း မပျက်မကွက် ကျင့်ကြံပြုလုပ် အားထုတ်နေတဲ့လူမျိုးတွေလည်း ရှိကြတယ်။ အယူခိုင်မြဲတဲ့အတွက် သို့မဟုတ် သေရင်အပါယ်ဘုံကိုကျဖို့ မြဲတဲ့အတွက် နိယတမိစ္ဆာဒိဋ္ဌိလို့ ခေါ်တာဖြစ်တယ်။

(နိယတ=စွဲစွဲမြဲမြဲဖြစ်သော)

နောက်တစ်မျိုးကတော့ အဲဒီ အယူမှားတွေကို ယူထားပေမယ့် မိဘ၊ ဘိုးဘွား၊ ဆရာသမားတွေ ယူလာတဲ့အယူဖြစ်လို့ မိရိုးဖလာယူရတဲ့ အယူသဘောမျိုးသာဖြစ်ပြီး နိယတမိစ္ဆာဒိဋ္ဌိတွေလို အခိုင်အမာ စွဲစွဲမြဲမြဲ မဟုတ်ဘဲ ပေါ့ပေါ့ဆဆ ယူတဲ့လူမျိုးတွေ ဖြစ်ပါတယ်။ အဲဒီ လူမျိုးတွေကိုတော့ အယူလည်း မခိုင်မြဲ၊ အပါယ်ကျဖို့လည်း မသေချာတဲ့အတွက် အနိယတမိစ္ဆာဒိဋ္ဌိလို့ ကျမ်းဂန်တွေမှာ ပြဆိုထားပါတယ်။

အဲဒီလို နှစ်မျိုး နှစ်စား ကွဲသွားတယ်။ အဲဒီ နှစ်မျိုးအနက် နိယတမိစ္ဆာဒိဋ္ဌိဖြစ်ရင် အပါယ်ကျဖို့ သေချာတယ်။ အနိယတမိစ္ဆာဒိဋ္ဌိ ဆိုရင်တော့ အပါယ်ကျဖို့ မသေချာတဲ့အတွက် မိစ္ဆာဒိဋ္ဌိတွေ သေရင် အပါယ်ကျတယ်လို့ ဆိုတဲ့စကားဟာ တစ်ဝက်သာ မှန်တယ်လို့ ကျွန်တော် ပြောခဲ့တာပါ”





“အဲဒီလို အနိယတမိစ္ဆာဒိဋ္ဌိတွေ သေရင် အပါယ်ကျဖို့ မသေချာဘူးဆိုတော့ သူတို့ နတ်ပြည်လည်း ရောက်နိုင်တယ်လို့ ယူဆရမှာလား ဆရာ”

“ဟုတ်ပါတယ်။ ဒိဋ္ဌိတွေရဲ့ အယူဝါဒဟာ ကောင်းတာရော၊ မကောင်းတာရော သောင်းပြောင်းထွေလာ ရောကောက်ထည့်ထားတဲ့ အရှူးခြင်းတောင်းနဲ့တူတယ်လို့ သုတ်သီလက္ခန်ဋီကာမှာ ဆိုထားပါတယ်။

သူတို့ဟာ အကုသိုလ်တွေကို လုပ်သလို ကုသိုလ်တွေကိုလည်း လုပ်တယ်လို့ ဆိုလိုတာပါပဲ။ ဥဒါန်းပါဠိတော်မှာလည်း ဒိဋ္ဌိတွေဟာ ပညာမျက်စိ ကန်းနေသူဖြစ်လို့ အကျိုးရှိ၊ အကျိုးမဲ့ကိုလည်း မမြင်၊ ကုသိုလ်, အကုသိုလ် ဆိုတာလည်း မသိတဲ့အတွက် အကုသိုလ်ကို လုပ်ကြသလို ကုသိုလ်ကိုလည်း လုပ်တတ်ကြတယ်လို့ ဟောထားပါတယ်။

ဘုရားလက်ထက်တုန်းက ကဿပပရိဗိုဇ်ဟာ ဘုရားရှင်ကို –

‘အရှင် ဂေါတမဟာ ကျုပ်တို့ရဲ့ အယူမှန်သမျှတွေကို ကဲ့ရဲ့ ရှုတ်ချတာချည်းပဲလို့ ဆိုတာ မှန်ပါသလား’

လို့ မေးလျှောက်ခဲ့ဖူးတယ်။

ဘုရားက –

‘ဒီလို မဟုတ်ပါဘူး။ ငါ့အယူဝါဒနဲ့ မတူတာကိုသာ ကဲ့ရဲ့ပြီး တူတာကိုတော့ မကဲ့ရဲ့ပါဘူး’

လို့ မိန့်ကြားခဲ့တာကိုထောက်ရင် သူတို့ရဲ့ အယူအဆဟာ အဆိုးချည်းပဲ မဟုတ်၊ အကောင်းလည်း ရှိသေးတယ်ဆိုတာ သိနိုင်ပါတယ်။

အဲဒီတော့ အနိယတမိစ္ဆာဒိဋ္ဌိတွေဟာ အကုသိုလ်တွေချည်း လုပ်ကြတာ မဟုတ်ပါဘူး။ အခါအခွင့်သင့်တဲ့အချိန်မှာ ကုသိုလ်တွေကိုလည်း ပြုလုပ်ကြပါသေးတယ်။

အဲဒီ အကြောင်းနဲ့ပတ်သက်ပြီး မဟာဝဂ္ဂသံယုတ် အဋ္ဌကထာနဲ့ ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာတွေမှာ –

‘မိစ္ဆာဒိဋ္ဌိတွေဟာ သမ္မာဒိဋ္ဌိပုဂ္ဂိုလ်တွေကို အမှီပြုပြီး လဆန်း၊ လဆုတ်တွေမှာ ယာဂုအလှူ၊ ထမင်းအလှူတွေကို ပေးလှူကြတယ်။ လမ်းဘေးမှာ ဆောက်ထားတဲ့ ရင်ခွဲဇရပ်တွေကို ဝတ္တရားအနေနဲ့ ပြုပြင်ကြတယ်။ လမ်းဆုံလမ်းခွမှာ အများ နားခိုစရာ ဇရပ်တွေကို ဆောက်ကြ

တယ်။ အများသောက်သုံးဖို့ ရေတွင်း ရေကန်တွေကို တူးကြတယ်။ အများစားသုံးဖို့ သစ်သီးဥယျာဉ်၊ ပန်းဥယျာဉ်တွေကို စိုက်ကြတယ်။ အကူးအသန်းခက်တဲ့ မြစ်ချောင်းတွေမှာ မြစ်ကူး၊ ချောင်းကူး တံတားတွေကို ထိုးကြ၊ ဆောက်ကြတယ်။ မညီညွတ်တဲ့ မြေပြင်၊ တောင်ကုန်းတွေကို ညီညွတ်အောင် ပြုလုပ်ပေးကြတယ်' လို့ မိန့်ဆိုထားပါတယ်။

ယခုအခါမှာလည်း ခေတ်ကာလအလိုက် ဗုဒ္ဓဘာသာဝင် မဟုတ်သူတွေဟာ ဆေးရုံကြီးတွေကိုဆောက်၊ ကျန်းမာရေးဌာနဖွင့်၊ ဆေးပစ္စည်းတွေနဲ့ ဆေးရုံအသုံးအဆောင်တွေကိုလှူ၊ သူနာပြုလုပ်ငန်းတွေကို စေတနာဝန်ထမ်း လုပ်နေကြတဲ့အပြင် မျက်မမြင်၊ မိဘမဲ့ကလေး၊ အရူး စတဲ့ ဒုက္ခိတတွေကို အဝတ်အစားပေးတယ်။ ကျွေးမွေးစောင့်ရှောက်တယ်။ ဘိုးဘွားရိပ်သာတွေကိုလည်း တည်ဆောက်ပြီး အမှီခို မရှိတဲ့ ဘိုးဘွားတွေကို ကျွေးမွေးစောင့်ရှောက်တယ်။ ရေဘေး၊ မီးဘေး အကြီးအကျယ်ကြုံကြရတဲ့ တိုင်းပြည်ကို ဝိုင်းဝန်းထောက်ပံ့ကူညီကြတယ်။ အဲဒီလို ဒါနကုသိုလ်တွေကို အမြောက်အမြား ပြုလုပ်နေကြတာ မျက်မြင်ပဲ မဟုတ်လား။

အဲဒီလို အနိယတမိစ္ဆာဒိဋ္ဌိတွေဟာ မိစ္ဆာအယူကို ယူထားကြပေမယ့် ဒါန စတဲ့ ကုသိုလ်တွေကို လုပ်လေ့လုပ်ထရှိတဲ့အတွက်ကြောင့် နတ်ပြည်ကို ရောက်နိုင်ကြပါတယ်။

ဘုရားရှင်လက်ထက်က သန်းခေါင်ယံအချိန်မှာ အသမ၊ သဟလိ၊ နီက၊ အာကောဋက၊ ဝေဂဏ္ဍရီ၊ မာဏဝဂါမိယ ဆိုတဲ့ နတ်သားခြောက်ယောက်တို့ ရောက်လာကြပြီး တစ်ဦးစီ လျှောက်ထားကြတယ်။

မာဏဝဂါမိယ နတ်သားတစ်ဦးသာ ဗုဒ္ဓဘာသာမှ ဖြစ်လာတဲ့ နတ်သားဖြစ်ပြီး ကျန်နတ်သားငါးဦးတို့က မဟာပူရဏကဿပ၊ မက္ခလိဂေါသာလ စတဲ့ တိတ္ထိဂိုဏ်းဆရာကြီးတွေရဲ့တပည့် မိစ္ဆာဒိဋ္ဌိတွေက ဖြစ်လာကြတဲ့ နတ်သားတွေ ဖြစ်ကြတယ်လို့ သံယုတ်ပါဠိတော် နာနာတိတ္ထိယသာဝကသုတ်မှာ ဟောထားပါတယ်။

သူတို့ဟာ လူ့ဘဝတုန်းက မိစ္ဆာဒိဋ္ဌိတွေဆိုပေမယ့် အနိယတမိစ္ဆာဒိဋ္ဌိတွေဖြစ်လို့ ကုသိုလ်ကောင်းမှုတွေကို ပြုကြတဲ့အတွက် နတ်သားတွေ ဖြစ်သွားကြတာ ဖြစ်ပါတယ်။





ဒါပေမယ့် သူတို့ နတ်ပြည်ကို ရောက်လာတာဟာ သူတို့ရဲ့ ဆရာကြီးတွေကို ကြည်ညို လေးစားတဲ့အတွက် ရောက်လာကြတာလို့ ထင်မြင် ယူဆနေကြသေးတယ်။ ဒါကြောင့် သူတို့ ဆရာတွေရဲ့ ဂုဏ်ကျေးဇူးတွေကို ချီးကျူးပြောဆိုရအောင် ဘုရားရှင်ထံ လာကြတယ်လို့ အဋ္ဌကထာမှာ ဖွင့်ပြထားပါတယ်။

သူတို့ထဲမှာ ဝေဂဏ္ဍရီ နတ်သားတစ်ဦးတည်းသာ သူတို့ ဆရာကြီးတွေရဲ့ အယူအကျင့်ကို ကဲ့ရဲ့ပြောဆိုပြီး ကျန်တဲ့နတ်သားတွေကတော့ သူတို့ဆရာကြီးတွေရဲ့ အယူအကျင့်တွေကို ချီးကျူးပြောဆိုသွားကြတယ်။

မာဏဝဂါမိယ နတ်သားကတော့ ဗုဒ္ဓဘာသာနတ်သားဖြစ်လို့ ဗုဒ္ဓဘုရားသခင်ရဲ့ ဂုဏ်ကျေးဇူးတွေကို ချီးကျူးလျှောက်ထားတယ်။

ပြီးတော့ ဒေဝပုတ္တသံယုတ် တာယနသုတ်မှာ တာယနခေါ်တဲ့ နတ်သားဟာလည်း ရှေးလူ့ဘဝတုန်းက မိစ္ဆာဒိဋ္ဌိဆရာကြီးတစ်ဦး ဖြစ်ခဲ့တယ် ဆိုတာကို တွေ့ရသေးတယ်။

ဒါပေမယ့် ကမ္မဝါဒီ ဖြစ်တဲ့အတွက် လှူဒါန်းပေးကမ်းမှုတွေကို ပြုလုပ်တယ်။ ခိုကိုးရာမဲ့သူတွေအတွက် စားဝတ်နေရေးကို တတ်နိုင်သမျှ တာဝန်ယူတည်ထားခဲ့တယ်။ ရေတွင်း၊ ရေကန်တူးဖော်ခြင်း စတဲ့ ကောင်းမှုကုသိုလ်တွေကိုလည်း ပြုခဲ့တယ်။

အဲဒီ ကုသိုလ်တွေကြောင့် နတ်ပြည်ရောက်ခဲ့တာ ဖြစ်ပါတယ်။ နတ်ဖြစ်တဲ့အခါ ဘုရားရှင်ရဲ့အဆုံးအမ (သာသနာ)နဲ့ လျော်တဲ့ဂါထာတွေကို ဘုရားရှင်ထံလာပြီး လျှောက်ထားတယ်။

အခု ပြောခဲ့တာတွေဟာ မိစ္ဆာဒိဋ္ဌိတွေ ဖြစ်ပေမယ့် နိယတမိစ္ဆာဒိဋ္ဌိ မဖြစ်ရင် ဒါန စတဲ့ ကုသိုလ်တွေကို ပြုလုပ်ကြပါက သေရင် နတ်ပြည်ရောက်နိုင်တယ် ဆိုတဲ့ အထောက်အထား သာဓကတွေပါပဲ။

ဒီ ဒေဝပုတ္တသံယုတ် ပါဠိတော်လာ နတ်သားတွေအကြောင်းကို ကြည့်ရင် အသမ၊ သဟလိ စတဲ့ နတ်သားတွေလို အမြင်မှန် မရကြဘဲ သူတို့ ဆရာကြီးတွေရဲ့ အယူကို ဆက်လက် ယူနေကြတဲ့ မိစ္ဆာဒိဋ္ဌိနတ်တွေ ရှိသလို ဝေဂဏ္ဍရီနတ်သား၊ တာယနနတ်သားတို့လို အမြင်မှန်ရသွားပြီး သမ္မာဒိဋ္ဌိဖြစ်သွားတဲ့ နတ်သားတွေလည်း ရှိတယ်ဆိုတာ တွေ့ရပါတယ်။

ပြီးတော့ အာဠွာနာဋိယသုတ်လာ နတ်မင်းကြီးလေးပါးရဲ့ လျှောက်ထားချက်အရ နတ်ပြည်မှာ မြတ်စွာဘုရားကို မကြည်ညို လူတို့အား ညှဉ်းပန်းနှိပ်စက်တတ်တဲ့ နတ်တွေကို နတ်ဆိုးနတ်ဝါး၊ နတ်မိစ္ဆာတွေလို့ ခေါ်ကြောင်း သိရပါတယ်။

ဒီနတ်မိစ္ဆာတွေဟာ မိစ္ဆာဒိဋ္ဌိက ဖြစ်လာတဲ့နတ် ရှိသလို သမ္မာဒိဋ္ဌိက ဖြစ်လာတဲ့ နတ်တွေလည်းရှိကြောင်း ကျမ်းဂန်အရ ထင်ရှားသိသာလှပါတယ်"

"ဟုတ်ကဲ့၊ သိချင်တဲ့အချက်ကလေးတွေ ရှင်းသွားပါပြီ"

ဟု ပြောဆိုနှုတ်ဆက်ကာ ဓမ္မမိတ်ဆွေကြီးသည် ထွက်ခွာသွားပါတော့သည်။

## တိရစ္ဆာန်မှဖြစ်သော နတ်များ

### ကဏ္ဍကမြင်းနတ်သား

ကဏ္ဍက နတ်သားကား ဘုရားလောင်း သိဒ္ဓတ္ထမင်းသား၏ ကဏ္ဍကမည်သော စီးတော်မြင်းဘဝမှ ဖြစ်လာသည့် နတ်သား ဖြစ်သည်။

သူသည် ဘုရားလောင်း၏ ဖွားဖက်တော်တစ်ဦး ဖြစ်သည်။ ဘုရားလောင်း သိဒ္ဓတ္ထမင်းသားသည် အနော်မာမြစ် တစ်ဖက်ကမ်းတွင် ရဟန်းပြုပြီးသည့်အခါ ဆန္နအမတ်နှင့် ကဏ္ဍက စီးတော်မြင်းတို့အား နေပြည်တော်သို့ ပြန်ကြရန် အမိန့်ပေးသည်။

ထိုအခါ ကဏ္ဍက စီးတော်မြင်းမှာ ဘဝများစွာတို့၌ အလောင်းတော်မြတ်ထံပါး ခစားမြဲမြဲ အစေအပါးခံခဲ့ရသူ ဖြစ်သောကြောင့် အလောင်းတော်နှင့် ခွဲခွာရခြင်း ဆင်းရဲဒုက္ခကို မခံမရပ်နိုင်ဘဲ နှလုံးကွဲ၍ သေပွဲဝင်သွားရရှာသည်။

ထိုစီးတော်မြင်း ကွယ်လွန်သည့်အခါ တာဝတိံသာနတ်ပြည်တွင် ကြီးကျယ်ခမ်းနားသော စည်းစိမ်အခြံအရံများနှင့် ပြည့်စုံသော ကဏ္ဍက အမည်ရှိသည့် နတ်သားဖြစ်ကြောင်း ဗုဒ္ဓဝံသအဋ္ဌကထာ၌ မိန့်ဆိုထား၏။

ဤ၌ ကဏ္ဍက စီးတော်မြင်း နတ်သားဖြစ်ရပုံကို အတန်ငယ် ရှင်းပြပါဦးမည်။





ကဏ္ဍကစီးတော်မြင်း သေခြင်းအကြောင်းကိုကြည့်လျှင် –

'နောက်တစ်ဖန် ငါ့သခင်အား ပြန်လည်ဖူးမြော်ရန် အခွင့်အလမ်း မရှိတော့ပြီ'

ဟု အရှင်သခင်နှင့် ခွဲခွာရသဖြင့် ဖြစ်ပေါ်လာသော စိုးရိမ်ပူဆွေးခြင်း သောကကြောင့် နှလုံးကွဲကာ သေပွဲဝင်ရသည်ကို တွေ့ရသည်။

သို့သော် နတ်သား သွားဖြစ်ရခြင်းမှာကား ဘုရားလောင်းသည် တောထွက်ရန် ကဏ္ဍကမြင်းတော်ကို စီးအံ့ဆဲဆဲအချိန်တွင် –

"ချစ်သား ကဏ္ဍက၊ ယနေ့ ညတစ်ည ငါ့ကို ဆောင်ကြဉ်းပေးပါ၊ ငါသည် သင့်ကို အမှီပြုပြီး သဗ္ဗညုတ ရွှေဉာဏ်တော်ကိုရသည့်အခါ သတ္တဝါတွေကို သံသရာမှ ကယ်တင်မည်"

ဆိုသည့် ဘုရားလောင်း၏စကားကို ကြားရရာ အလွန် နှစ်သက်ဝမ်းမြောက်ခြင်း ပီတိသောမနဿတို့နှင့် ယှဉ်သော ကုသိုလ်စိတ်များ ဖြစ်ပွားခဲ့ရသည်။

ထို့ပြင် ဘုရားလောင်းနှင့် ခွဲခွာ၍ မမြင်ရာအရပ်သို့ ရောက်သည့်အခါ၌လည်း –

"ဒီလောကခေါင်းဆောင် ဘုရားအလောင်းတော်ကို ငါပို့ဆောင်ပြီးပြီ။ ငါ၏ ခန္ဓာကိုယ်မှာ အကျိုးရှိသောခန္ဓာကိုယ် ဖြစ်လေပြီ"

ဟုလည်း မသေမီကလေးတွင် ကြည်လင်ဝမ်းမြောက်သောစိတ် ဖြစ်ခဲ့သည်။ ထိုကုသိုလ်များ၏ အစွမ်းကြောင့် တာဝတိံသာနတ်ပြည်၌ နတ်သား ဖြစ်ရကြောင်းကို ထိုနတ်သားကိုယ်တိုင် အရှင်မဟာမောဂ္ဂလာန်မထေရ်မြတ်အား လျှောက်သည်ကို ဝိမာနဝတ္ထု ပါဠိတော်၌ တွေ့ရသည်။

### ဆင်နတ်သားနှင့် မျောက်နတ်သား

ဆင်နတ်သားမှာ ပါလိလေယျက ခေါ်တဲ့ ပလလဲဆင်မင်းက ဖြစ်လာသောနတ်သား ဖြစ်၏။

ဗုဒ္ဓရှင်တော်ဘုရားသည် ကောသမ္ဗီပြည်တွင် တပည့်ရဟန်းတော်များ မညီမညွတ်မှုကို အကြောင်းပြု၍ ပါလိလေယျယ တောအုပ်သို့ ကြွတော်မူကာ ထိုတောအုပ်၌ တစ်ပါးတည်း ဝါဆိုတော်မူသည်။

ထိုအချိန်၌ ဆင်အပေါင်းနှင့် နေရသည့် ဆင်းရဲဒုက္ခကို သည်းမခံနိုင်သဖြင့် ဆင်အုပ်မှ ဖဲခွာ၍ တစ်ကောင်တည်း ထိုတောအုပ်၌နေသော ပါလိလေယျက ဆင်မင်းသည် ဘုရားရှင်အား စိတ်အားထက်သန်စွာ စောင့်ရှောက် လုပ်ကျွေးပြုစုသည်။ ဘုရားရှင် သီတင်းသုံးတော်မူရန် အလွန်ကောင်းမြတ်လှသော အင်ကြင်းပင်ရင်းကို ခြေတို့ဖြင့် ညီညာပြေပြစ်အောင် ပြုလုပ်၍ နှာမောင်းဖြင့် သစ်ခက်ကိုချိုးကာ တံမြက်လှည်းပေး၏။

မြတ်စွာဘုရားအတွက် သောက်တော်ရေ၊ သုံးတော်ရေတို့ကိုလည်း တည်ထားပေး၏။ ရေသုံးသပ်တော်မူရန် ရေပူရေနွေးကိုလည်း စီမံပေး၏။ နတ်သြဇာသဖွယ် ချိုမြိန်ကောင်းမြတ်သည့် သစ်သီးကြီးငယ် အသွယ်သွယ်တို့ကို ရှာဖွေပေးလှူ၏။

တောအနီးရှိ ပါလိလေယျကရွာသို့ မြတ်စွာဘုရား ဆွမ်းခံကြွသည့်အခါ သပိတ်၊ သင်္ကန်းတော်တို့ကို မိမိ ဦးကင်းပေါ်သို့တင်ကာ ရွာနားအထိ လိုက်ပို့ကာ စောင့်နေ၏။

ပြန်ကြွတော်မူသည့်အခါ၌လည်း ရှေးနည်းအတိုင်း သပိတ်၊ သင်္ကန်းတို့ကို ဆောင်ယူလေ၏။

ပြုဖွယ်ကိစ္စတို့ကို ပြုပြီးသောအခါ သစ်ခက်ဖြင့် ယပ်လေခတ်ပေး၏။ ညအခါ၌လည်း အရုဏ်တက်ချိန်အထိ တောအုပ်အကြား လှည့်ပတ်သွားလာကာ ဘေးရန်တို့ကို ကာကွယ်စောင့်ရှောက်ပေး၏။

နံနက်မိုးသောက် အလင်းရောက်သည့်အခါ မျက်နှာသစ်တော်ရေကို အစပြုပြီး ပြုထိုက်သည့် ဝတ်ကြီးဝတ်ငယ် ဟူသမျှတို့ကို ပုံမှန် အမြဲ ပြုစု၏။

ထိုတောအုပ်ကြီးရှိ မျောက်ကြီးတစ်ကောင်ကလည်း ဘုရားရှင်အား ပါလိလေယျကဆင်မင်း ပြုစုလုပ်ကျွေးသည်ကိုမြင်၍ အားကျကာ ပျားကောင်မရှိသော ပျားလဘို့ကို ငှက်ပျောဖက်ပေါ်တင်ပြီး ဆက်ကပ်လေသည်။

သို့သော် ဘုရားရှင်ဘုဉ်းပေးတော်မမူသည်ကို မြင်ရ၍ ပျားတံ၏ အစွန်းကို ကြည့်ရှုရာ ပျားဥများကို တွေ့ရသဖြင့် ထိုပျားဥတို့ကို ဖယ်ရှားပြီးမှ ပြန်ဆက်ကပ်သည်။





မိမိ ပြန်ဆက်ကပ်သည့်ပျားလဘို့ကို ဘုရားရှင် ဘုဉ်းပေးသည်ကို မြင်သောအခါ အလွန်နှစ်သက်ကြည်လင် ရွှင်လန်း၍ ကခုန်ရာ သစ်ပင်ပေါ်မှ လိမ့်ကျသေဆုံးသွား၍ တာဝတိံသာနတ်ပြည်တွင် ယူဇနာသုံးဆယ် အပြန့်ကျယ်သော ရွှေဗိမာန်ကြီး၌ နတ်သမီးတစ်ထောင် အခြံအရံရှိသည့် မက္ကဋနတ်သား ဖြစ်လေသည်။

သီတင်းဝါလကျွတ်သည့်အခါ အရှင်အာနန္ဒာထေရ်သည် ရဟန်းငါးရာနှင့်အတူလာ၍ မြတ်စွာဘုရားကို ပင့်တော်မူကြသည်။

ပါလိလေယျက ဆင်သည်လည်း ပိန္နဲသီး၊ ငှက်ပျောသီး စသော ချိုမြိန် ကောင်းမွန်သည့် သစ်သီးကြီးငယ် အသွယ်သွယ်တို့ကို တောထဲမှ စုပေါင်းသယ်ယူကာ ဘုရားအမှူးရှိသော သံဃာတော် ငါးရာကျော်တို့အား သစ်သီးဆွမ်း ဆက်ကပ်၏။

ထို့နောက် ဘုရားရှင်သည် သပိတ်၊ သင်္ကန်းကို ယူတော်မူလျက် ရဟန်းငါးရာတို့နှင့်အတူ တောတွင်းမှ ထွက်ကြွတော်မူ၏။

ပါလိလေယျက ဆင်ကြီးသည် ရဟန်းတို့၏ အကြား အကြားဖြင့် သွား၍ မြတ်စွာဘုရားရှေ့တော်မှ ဖီလာကန့်လန့် ရပ်တန့်လာ၏။

ထိုအခါ ဘုရားရှင်က –

“ပါလိလေယျက၊ အခု ငါဘုရား ကြွခြင်းသည် မပြန်မလှည့် သောကြွခြင်း ဖြစ်၏။ သင့်မှာ ဤဘဝ ဤခန္ဓာကိုယ်ဖြင့် ဈာန်၊ ဝိပဿနာ၊ မဂ်၊ ဖိုလ်တရားများကို ရနိုင်ခွင့် မရှိ။ သင်သည် ဤနေရာ၌ပင် နေရစ်တော့လော့”

ဟုမိန့်တော်မူသည့်အခါ ဆင်ကြီးသည် မိမိခံတွင်းထဲသို့ နှာမောင်းကို ထိုးသွင်းကာ စိုးရိမ်ပူဆွေး ငိုကြွေးလျက်သာ ဘုရားရှင်ကိုယ်တော်နောက်မှ တကောက်ကောက် လိုက်ပါတော့၏။

ရွာအနီးသို့ ရောက်သည့်အခါ မြတ်စွာဘုရားက –

“ပါလိလေယျက ဒီနေရာမှစပြီး သင်လိုက်ရန် မြေအရပ် မဟုတ်တော့ပြီ၊ လူတို့နေရာအရပ်သည် သင့်အတွက် ဘေးရန်ရှိပါတယ်။ အခု သင် ရပ်ပြီး နေရစ်တော့”

ဟု မိန့်တော်မူသည့်အခါ ဆင်ကြီးသည် ဘုရားရှင် မိန့်တော်မူ

သည့်အတိုင်း ထိုနေရာမှာပင် ရပ်ကာ ငိုကြွေးလျက် ဘုရားရှင်ကို ဖူးမြော်ကြည့်ရှုနေ၏။

သူ မြင်နိုင်ရာ အရပ်မှ ဘုရားရှင် ပျောက်ကွယ်သွားသည်နှင့် တစ်ပြိုင်နက် နှလုံးကွဲကာ သေပွဲဝင်သွားရရှာ၏။

သို့သော်လည်း ဘုရားရှင်၌ ကြည်ညိုသော သဒ္ဓါတရားကြောင့် တာဝတိံသာနတ်ပြည်တွင် ယူဇနာသုံးဆယ် အပြန့်ကျယ်သော ရွှေဗိမာန်ကြီး၌ နတ်သမီးတစ်ထောင် အခြံအရံရှိသော ပါလိလေယျကနတ်သား သွားဖြစ်ပေသည်ဟု ဓမ္မပဒအဋ္ဌကထာ၌ လာရှိသည်။

**ခွေးနတ်သား**

ရှေးအခါက အလ္လကပ္ပတိုင်းသား ကောတုဟလိကမည်သော အမျိုးသားသည် ကာဠီမည်သော ဇနီးသည်နှင့်အတူ အလ္လကပ္ပတိုင်းမှ ကောသမ္ဗီပြည်သို့ ခရီးထွက်ခဲ့သည်။

လမ်းခရီးအကြားရှိ နွားကျောင်းသားတစ်ဦး၏အိမ်သို့ ရောက်သည့်အခါ နွားကျောင်းသားအိမ်၌ ဒါနမင်္ဂလာပြုချိန်ဖြစ်၍ ထိုခရီးသည် ဇနီးမောင်နှံအား မြောက်မြားလှစွာသော ထောပတ်နှင့် နို့ဃနာတို့ကို ကျွေးမွေး၏။ ဇနီးဖြစ်သူမှာ မျှတရုံမျှစားသော်လည်း ယောကျ်ားဖြစ်သူကမူ ခုနစ်ရက်တိုင်တိုင် အစာရေစာ ငတ်မွတ်လာသည့်အတွက် ရသတဏှာကို မဖြတ်နိုင်ဘဲ မထနိုင်လောက်အောင်ပင် စားလိုက်လေသည်။

နို့ဃနာ စားနေစဉ်၌လည်း နွားကျောင်းသားကိုယ်တိုင် နို့ဃနာများကို ကျွေးနေသည့် ခွေးမကြီးကိုကြည့်ပြီး –

'ဒီခွေးမကြီးဟာ အင်မတန် ကံကောင်းတယ်၊ ဒီလို ကောင်းမွန်တဲ့ အစားအစာတွေကို နေ့စဉ်ပဲ စားနေရတယ်' ဟု စဉ်းစားမိသတဲ့။

ထိုညဉ့်၌ပင် ကောတုဟလိကသည် အစာမကြေ ရောဂါဖြင့် သေဆုံးသွားရာ ထိုခွေးမကြီးဝမ်း၌ ဖြစ်လေသည်။

ထိုနွားကျောင်းသား၏ ခွေးမကြီးသည် အချိန်တန်သည့်အခါ ခွေးထီးကလေးတစ်ကောင် မွေးဖွား၍ နွားကျောင်းသားသည် ထိုခွေးငယ်ကလေးအား နွားမတစ်ကောင်မှထွက်သည့် နို့ရည်ကို တိုက်ကျွေး၏။





နွားကျောင်းသားအိမ်၌ ပစ္စေကဗုဒ္ဓါတစ်ပါး အမြဲမပြတ်ကြွရောက် ဆွမ်းဘုဉ်းပေးလေ့ရှိ၏။ ပစ္စေကဗုဒ္ဓါ အရှင်သူမြတ်သည် ဆွမ်းဘုဉ်းပေးပြီးသည့်အခါ ထိုခွေးငယ်အား ထမင်းတစ်ခဲကို ကျွေးတော်မူလေ့ရှိရာ ခွေးငယ်သည် ပစ္စေကဗုဒ္ဓါအရှင်မြတ်အား ခင်၍နေသည်။

နွားကျောင်းသားသည် ခွေးငယ်နှင့်အတူ တစ်နေ့လျှင် နှစ်ကြိမ် ပစ္စေကဗုဒ္ဓါအရှင်မြတ်ထံ အပင့်သွားလေ့ရှိသည်။

နွားကျောင်းသား မအားလပ်သည့်အခါ၌မူ ခွေးငယ်တစ်ကောင်တည်း ပစ္စေကဗုဒ္ဓါအား သွားပင့်ရသည်။

သွားပင့်သည့်အခါ ခွေးငယ်သည် အရှင်ပစ္စေကဗုဒ္ဓါ၏ ကျောင်းသခ်မ်းတံခါးဝ၌ သုံးကြိမ် ဟောင်ခြင်းဖြင့် ဘေးအန္တရာယ် မရှိအောင် လမ်းရှင်းပေးကာ ရှေ့မှ သွားလေ့ရှိ၏။ ပြန်ကြွတော်မူသည့်အခါ၌လည်း ထိုအတိုင်းပင် ဆောင်ရွက်ပေးလေ့ ရှိသည်။

ထိုခွေးငယ် သေဆုံးသည့်အခါတွင် တာဝတိံသာနတ်ပြည်၌ နတ်သားဖြစ်၍ နတ်သမီးတစ်ထောင် ခြံရံလျက် ကြီးစွာသော စည်းစိမ်ကို ခံစားရ၏။ ထိုနတ်သား နားရင်း၌ ကပ်၍ တိုးတိုးကလေးပြောသောအသံသည်ပင် ယူဇနာတစ်သောင်းကျယ်သော နတ်ပြည်တစ်ပြည်လုံးကြားရ၏။

ထို့ကြောင့် ထိုခွေးဘဝမှလာသော နတ်သားအား ဃောသက နတ်သားဟု ခေါ်ကြသည်။

ဤသို့ ဖြစ်ခြင်းမှာ ပစ္စေကဗုဒ္ဓါအရှင်မြတ်၌ ချစ်ခင်မြတ်နိုးသော စိတ်ဖြင့် အူခြင်း၊ ဟောင်ခြင်းတို့ကို ပြုခဲ့သောကောင်းမှုကံ၏ အကျိုးတရားပင် ဖြစ်သည်ဟု ဓမ္မပဒအဋ္ဌကထာ၌ မိန့်ဆိုထားပေသည်။

**လင်းနို့သားငါးရာနတ်သား**

ကဿပ မြတ်စွာဘုရား လက်ထက်တော်အခါက လင်းနို့ငယ်ငါးရာတို့သည် တစ်ခုသော တောင်ဂူမ်းထဲ၌ လင်းနို့သဘာဝအတိုင်း တွဲရရွဲဆွဲကာ နေထိုင်ကြ၏။

ထိုတောင်ဂူမ်းအနီးတွင် အဘိဓမ္မာဆောင် ရဟန်းတော်များ သီတင်းသုံး နေထိုင်လျက် ရှိပါသည်။

အဘိဓမ္မာဆောင် ရဟန်းနှစ်ပါးတို့သည် နေ့စဉ် အဘိဓမ္မာတရားတော်ကို အာဂုံရွတ်ဆိုလေ့ ရှိကြသည်။ လင်းနို့ငယ် ငါးရာတို့သည် ကုသိုလ်တရား၊ အကုသိုလ်တရား ဟူ၍ ခွဲခြား မသိကြသော်ငြားလည်း ထိုရဟန်းနှစ်ပါးတို့ ရွတ်ဆိုသောအသံကို ကြားရသည့်အခါတိုင်း 'ဒီအသံဟာ တရားသံပဲ' ဟူသော နိမိတ်အာရုံကို ယူလေ့ ရှိကြသည်။

ထိုလင်းနို့ငယ် ငါးရာတို့ သေဆုံးကြသည့်အခါ 'တရားသံပဲ' ဟူသော အာရုံကို ယူခဲ့သည့် ကုသိုလ်ကြောင့် နတ်ပြည်၌ နတ်သားများ ဖြစ်ကြသည်။

ထိုလင်းနို့ဘဝမှ ဖြစ်လာသော နတ်သားတို့သည် ဂေါတမဘုရားရှင် ပွင့်တော်မူလာသောအခါ လူ့ပြည်၌ ဖြစ်ကြ၍ ဘုရားရှင်၏ ရေမီးအစုံစုံ တန်ခိုးပြာဋိဟာ ပြတော်မူသည်ကို ကြည်ညိုပြီး အရှင်သာရိပုတ္တရာ မထေရ်ထံတွင် ရဟန်းပြုကြသည်။

စန္ဒကူးတော၌ ရှင်သာရိပုတ္တရာအား ဘုရားရှင် ဟောကြားတော်မူသည့် အဘိဓမ္မာတရားတော်ကို ရှင်သာရိပုတ္တရာက တစ်ဖန် ပြန်၍ ဟောကြားသည့် တပည့်ငါးရာတို့ကား ထိုလင်းနို့ငယ်ဘဝ၌ အဘိဓမ္မာအထုံ ပါခဲ့သည့် ရဟန်းငါးရာတို့ပင် ဖြစ်ပေသည်။

**ဖားနတ်သား**

စမ္ပာပြည် ဂဂ္ဂရာမည်သော ရေကန်ကြီး၏အနီးတွင် ဘုရားရှင် သီတင်းသုံးတော်မူချိန် ဖြစ်သည်။

ဗုဒ္ဓမြတ်စွာသည် ထုံးစံအတိုင်း မိုးသောက်ချိန်တွင် မဟာကရုဏာသမာပတ်မှ ထတော်မူ၍ ချွတ်ချွတ်ရမည့် ဝေနေယျသတ္တဝါများကို ကြည့်ရှုတော်မူသည့်အခါ –

'ယနေ့ညနေ တရားဟောချိန်တွင် ဖားတစ်ကောင်ဟာ တရားဟူသောအာရုံနိမိတ်ကိုယူစဉ် သူတစ်ပါးရဲ့ လုံ့လပယောဂကြောင့် သေပြီး နတ်ပြည်၌ဖြစ်ကာ များစွာသော နတ်အခြံအရံဖြင့် တရားနာပရိသတ်တို့ မျက်မှောက်သို့ ရောက်လာလိမ့်မည်။ ထိုအခါ လူများစွာတို့ တရားထူးရကြမည်' ဟု မြင်တော်မူ၏။





ထို့နောက် ပြုနေကျ ဗုဒ္ဓကိစ္စအတိုင်း နံနက်စောစောတွင် ရဟန်းသံဃာတော်များနှင့်အတူ စမ္ပာမြို့ထဲသို့ ဆွမ်းခံကြွတော်မူ၏။ ဆွမ်းဘုဉ်းပေးတော်မူ၍ ရဟန်းများ မိမိတို့ နေထိုင်ရာသို့ အသီးသီး ကြွသွားကြသည့်အခါ ဘုရားရှင်သည် ဂန္ဓကုဋီတိုက်သို့ဝင်ကာ ဖလသမာပတ်ချမ်းသာဖြင့် တစ်နေ့လုံး သီတင်းသုံးတော်မူ၏။

ညနေချမ်းတွင် ပရိသတ်လေးပါးတို့ စုံသည့်အခါ ဂန္ဓကုဋီမှ ထွက်ကြွတော်မူ၍ ရေကန်ကြီးအနီးရှိ တရားသဘင်ဆင်ရာ မဏ္ဍပ်သို့ ဝင်ကာ ထိုင်တော်မူခဲ့၏။ ထို့နောက် အင်္ဂါရှစ်ပါးနှင့်ပြည့်စုံသော အသံတော်ဖြင့် တရားဟောတော်မူ၏။

ထိုခဏ၌ ဖားကြီးတစ်ကောင်သည် ရေကန်မှ တက်လာ၍ 'ဒီအသံသည် တရားသံပဲ' ဟု အာရုံနိမိတ်ကိုယူကာ ပရိသတ်အဆုံး၌နေ၏။

ထိုနေရာအနီးသို့ ရောက်လာသည့် နွားကျောင်းသားတစ်ယောက်ကလည်း မြတ်စွာဘုရား တရားဟောကြားနေပုံနှင့် ပရိသတ်က အလွန်ငြိမ်သက်စွာ တရားနာယူနေပုံတို့ကို တွေ့ရှိရ၍ တက်ကြွသည့်စိတ်ဖြင့် ဖားဝပ်နေသည်ကို မကြည့်မိဘဲ နွားကျောင်းသားတုတ်ကို ထောက်ပြီး ရပ်လိုက်ရာ ဖားကြီး၏ ဦးခေါင်းကို ထောက်မိသွား၏။

ဖားကြီးသည် တရားဟူသောအမှတ်ဖြင့် ကြည်လင်စိတ် ဖြစ်နေစဉ် သေဆုံးသွားရာ တာဝတိံသာနတ်ပြည်ရှိ တစ်ဆယ့်နှစ်ယူဇနာရှိသော ရွှေဗိမာန်၌ နတ်သား သွားဖြစ်၏။

ထိုအခါ နတ်သမီးတွေ ခြံရံနေသည့် မိမိကိုယ်ကို ကြည့်ပြီး ပြန်၍ ဆင်ခြင်ရာ မြတ်စွာဘုရား၏ တရားသံကို အာရုံယူခဲ့သည့် ကုသိုလ်ကံကြောင့် ဤနတ်စည်းစိမ် ရရှိကြောင်း သိရှိသွား၏။

ထို့ကြောင့် ဖားနတ်သားသည် ချက်ချင်း ဗိမာန်နှင့်တကွ ဆင်းသက်လာပြီး လူအများ ကြည့်နေစဉ် ဗိမာန်မှဆင်းကာ အခြံအရံများနှင့်အတူ ဘုရားရှင်၏ ခြေတော်ရင်းအစုံကို ရှိခိုး၍ လက်အုပ်ချီကာ ရပ်နေ၏။

ထိုအခါ ပရိသတ်အများ ကံ၏အကျိုးတရားကို ထင်ရှားစွာသိရန် နတ်သားအား လွန်ခဲ့သည့်ဘဝနှင့် ပြုခဲ့သည့်ကုသိုလ်ကို မေးမြန်းပြီး သတ္တဝါ ၈၄၀၀၀ တို့ တရားထူးရကြသည်ဟု ဝိမာနဝတ္ထုပါဠိ၊ အဋ္ဌကထာ၌လာ၏။

ဤသို့ ဒုဂ္ဂတိအဟိတ် ပုဂ္ဂိုလ်များဖြစ်သည့် တိရစ္ဆာန်သတ္တဝါများ၌ မဟာကုသိုလ်စိတ်များ ဖြစ်နိုင်သည့်အားလျော်စွာ တိရစ္ဆာန်တို့သည် ကံထူးရှိ၍ သူတော်ကောင်းမိတ်ဆွေများကို မှီဝဲဆည်းကပ်ရပါက နတ်ဘုံစသော သုဂတိဘုံများသို့ ရောက်နိုင်ကြပေသည်။

❐



## နတ်များအကြောင်း အခြား သိကောင်းစရာများ

နတ်စည်းစိမ်ကား လူ့စည်းစိမ်ထက် နေရာတိုင်းပင် သာလွန်၏။ မြက်ဖျားပေါ်က ဆီးနှင်းပေါက်နှင့် သမုဒ္ဒရာရေများ ကွာခြားသလောက် လူ့စည်းစိမ်နှင့် နတ်စည်းစိမ်မှာ ကွာခြား၏။

နတ်ပြည်ခြောက်ဘုံ၌လည်း တန်ခိုးအရာ၊ စည်းစိမ်အရာတို့တွင် တစ်ဘုံနှင့်တစ်ဘုံ ကွာခြားကြ၏။

စတုမဟာရာဇ်နတ်စည်းစိမ်ထက် တာဝတိံသာနတ်စည်းစိမ်က သာလွန်သည်။ ထို့အတူ တာဝတိံသာထက် ယာမာ၊ ယာမာထက် တုသိတာ၊ တုသိတာထက် နိမ္မာနရတိ၊ နိမ္မာနရတိထက် ပရနိမ္မိတဝသဝတ္တီနတ်စည်းစိမ်က သာလွန်ကြီးကျယ်ကြသည်။

ဤသို့ နတ်ဘုံအချင်းချင်းသာ အထက်နှင့်အောက် စည်းစိမ်ချမ်းသာ တန်ခိုးအရာတို့၌ ကွာခြားကြသည် မဟုတ်။ တစ်ဘုံတည်း တစ်ထပ်တည်းရှိ နတ်အချင်းချင်းပင် အကြောင်းကံ အကျိုးပေးအလိုက် ကွာခြားကြသည်။

အချို့ နတ်တို့က အခြံအရံ စည်းစိမ် ချမ်းသာများ၍ တန်ခိုးကြီးမားကြသော်လည်း အချို့ နတ်တို့မှာ အခြံအရံစည်းစိမ်ချမ်းသာ နည်း၍ တန်ခိုးငယ်ကြသည်။

နတ်တို့၏ ခန္ဓာကိုယ်မှ ထွက်သောအရောင်၊ အဝတ်တန်ဆာများမှ ထွက်သောအရောင်နှင့် ဘုံဗိမာန်တို့မှထွက်သော အရောင်အဝါတို့မှာ အနည်းဆုံး ၁၂ ယူဇနာအထိ ထွန်းလင်းတောက်ပကြ၏။

ဘုန်းတန်ခိုးကြီးသော နတ်တို့၏ ကိုယ်ရောင်ကိုယ်ဝါ စသည်တို့ကား ယူဇနာ တစ်ရာတိုင်တိုင် ထွန်းလင်းတောက်ပကြသည်ဟု ကျမ်းဂန်၌ ဆို၏။ ထိုမျှ တန်ခိုးကြီးသော နတ်တို့လာလျှင် ဘီလူး၊ သရဲတို့ ထွက်ပြေးကြရသည်။

နတ်တို့၏ ခန္ဓာကိုယ်မှာ အားလုံးပင် သုံးဂါဝုတ်ချည်း ရှိကြ၍ အရပ်အမောင်းမှာ ပုကွခြင်း၊ ရှည်ခြင်း အလျှင်း မရှိကြချေ။

နတ်ဖြစ်လာချိန်မှစ၍ စုတေပျက်ကြွေ သေလွန်သည့်အချိန်အထိ နတ်သားများမှာ အသက် ၂၀ အရွယ်ရှိ၍ နတ်သမီးတို့မှာ အသက် ၁၆နှစ် အရွယ်ပင် ရှိကြ၏။

နတ်တို့ပြည်တွင် အိုခြင်းဆင်းရဲ (ဇရာဒုက္ခ)မရှိသဖြင့် နတ်သား၊ နတ်သမီးတိုင်း သွားကျိုး ဆံဖြူ နားအူ မျက်မွဲ အရေတွန့်တွဲခြင်း မရှိ။ ပကတိ အလှမပျက်ဘဲ တစ်သက်လုံး နုပျိုလျက် ရှိကြ၏။

နတ်သားတို့မှာ မုတ်ဆိတ် ကြင်စွယ် ပယ်ဖွယ်ကိစ္စများလည်း မရှိချေ။ နတ်တို့၏ လက်ဝတ်တန်ဆာ၊ ခြေဝတ်တန်ဆာ စသော ဝတ်စားတန်ဆာများမှာ လှည်းအစီး ၆၀ တိုက်ခန့် ရှိသည်ဟုဆို၏။

## နတ်တို့ ကာမဂုဏ်ခံစားကြပုံ

နတ်ပြည်ခြောက်ထပ်ရှိ နတ်သား၊ နတ်သမီးတို့မှာ လူသားများကဲ့သို့ ကာမဘုံသား သတ္တဝါများ ဖြစ်ရကား ကာမဘုံသား လူသားများကဲ့သို့ပင် နှစ်ယောက်စုံတွဲ ယှဉ်နွဲ၍သာ ကာမဂုဏ်ချမ်းသာကို ပေါင်းဖော်ခံစားကြလေသတဲ့။

ထိုသို့ ဖောဋ္ဌဗ္ဗာရုံ ကာမဂုဏ်ကို စုံတွဲ ခံစားကြသော်လည်း နတ်သား၊ နတ်သမီးတို့အား လူသားများကဲ့သို့ သုက်သွေးလွှတ်ထွက်ခြင်း၊ ရွှေ့လျားခြင်း၊ အလျှင်း မရှိကြချေ။

သို့သော် နတ်တို့မှာ ရဟန္တာအရှင်မြတ်များကဲ့သို့ သုက်ဓာတ်မရှိကြသည် မဟုတ်။ ကေန်အမှန် ရှိကြသည်ဟု ကထာဝတ္ထုအဋ္ဌကထာ၌ မိန့်ဆိုထား၏။

ယင်းသို့ နတ်သား၊ နတ်သမီးတို့သည် လူသားတို့ကဲ့သို့ ကာမဂုဏ်





ကိစ္စ ပြုကြသော်လည်း နတ်သမီးတို့မှာ လူမိန်းမများကဲ့သို့ ဓမ္မတာသွေးလာခြင်း၊ ကိုယ်ဝန်ဆောင်ခြင်း၊ မွေးဖွားခြင်း၊ နို့တိုက်ရခြင်းများ လုံးဝမရှိကြဟု မိလိန္ဒပဉှာပါဠိတော် စသည်တို့၌ မိန့်ဆို၏။

သို့သော် စတုမဟာရာဇ်နတ်မျိုးဖြစ်သော ဘုမ္မစိုးနတ်သမီးတို့၌ကား ဓမ္မတာသွေးလာခြင်း၊ ကိုယ်ဝန်ဆောင်ခြင်း စသည်တို့ ရှိကြသေးသည်ဟု သမ္မောဟဝိနောဒနီအဋ္ဌကထာ စသည်တို့၌ ဖွင့်ဆိုထား၏။

နတ်တို့မှာ တစ်ခါတည်း ကိုယ်ထင်ရှား ဖြစ်ပေါ်လာကြသည့် ဥပပါတ်သတ္တဝါမျိုးဖြစ်၍ နတ်သမီးတို့မှာ ကိုယ်ဝန်ဆောင်ခြင်း၊ သားဖွားခြင်း ကိစ္စများ မရှိကြသော်လည်း နတ်တို့၌ သားသမီးများ ရှိကြ၏။

မှန်ပါသည်။

မိမိတို့၏ရင်ခွင်၌ အလိုအလျောက် ပေါ်ပေါက်လာကြသော နတ်သား၊ နတ်သမီးတို့သည် မိမိတို့၏သားသမီးအရာ၌ တည်ကြ၏။ သားသမီးများ ဖြစ်ကြ၏။ အိပ်ရာထဲတွင် ပေါ်ပေါက်လာကြသည့် နတ်သမီးတို့မှာ ထိုနတ်တို့၏ ခြေရင်းအလုပ်အကျွေး အခြွေအရံများ ဖြစ်ကြ၏။

အိပ်ရာအပြင်ဘက်တွင် ဝန်းရံပေါ်လာကြသည့် နတ်သမီးတို့ကား တန်ဆာပြုပြင် ဆင်ယင်မှုကို ပြုလုပ်ပေးကြရသည့် အခြွေအရံတို့ ဖြစ်ကြ၏။ ဗိမာန်အတွင်း အခြားနေရာများ၌ ပေါ်လာကြသည့် နတ်သမီးတို့မှာ ကျေးကျွန်များ ဖြစ်ကြသည်ဟု သုတ်မဟာဝါအဋ္ဌကထာ၊ သက္ကပဉှာသုတ်၌ မိန့်ဆိုထားပေသည်။

ဤနတ်တို့ ကာမဂုဏ်ခံစားမှုနှင့် ပတ်သက်၍ သုတ်ပါထေယျအဋ္ဌကထာ၊ ဣတိဝုတ်အဋ္ဌကထာနှင့် သာရတ္ထဒီပနီဋီကာတို့၌ အချို့သော မထေရ်များက လူသားများကဲ့သို့ နှစ်ပါးစုံတွဲ ပေါင်းဖော်မှီဝဲခြင်းသည် စာတုမဟာရာဇ်၊ တာဝတိံသာ နတ်ဘုံနှစ်ဘုံရှိ နတ်သား၊ နတ်သမီးတို့သာ ဖြစ်ကြ၏။ ယာမာနတ်တို့မှာ အချင်းချင်း ဖက်ရုံမျှဖြင့်၊ တုသိတာနတ်တို့မှာ လက်ဖြင့် ကိုင်တွယ်သုံးသပ်ရုံမျှဖြင့်၊ နိမ္မာနရတိနတ်တို့မှာ ပြုံးပြရုံမျှဖြင့်၊ ပရနိမ္မိတဝသဝတ္တီနတ်တို့မှာ တစ်ဦးကိုတစ်ဦး ကြည့်ရုံမျှဖြင့် ကာမကိစ္စပြီးကြသည်ဟု ဆိုကြ၏။

ထိုဆရာတို့၏ အယူကို ကိုယ်ဖြင့် မတွေ့ထိဘဲ ဖောဋ္ဌဗ္ဗာရုံ ကာမဂုဏ်ကိစ္စ မပြီးနိုင်သောကြောင့် လည်းကောင်း၊ ကာမဂုဏ်ကိစ္စ အရာ၌ အယုတ် အလတ် အမြတ်သဘော မရှိသောကြောင့် လည်းကောင်း မူလအဋ္ဌကထာကြီး၌ ပယ်ထား၏။

ထို့ကြောင့် နတ်ပြည်ခြောက်ထပ်လုံးရှိ နတ်များအားလုံး နှစ်ပါးတွဲ ပေါင်းဖော် မှီဝဲကြ၏ဟု မိန့်ဆိုထားကြပေသည်။

ဤ အကြောင်းအရာများနှင့် ပတ်သက်၍ မန်လည် ဆရာတော် ဘုရားကြီးက -

'တွေ့မဆုံ၊ ကြည့်မျှော်ရုံ၊ ရယ်ရွှင်ကြကာနဲ့၊ ကိစ္စကုန်ကြောင်း'

စသည်ဖြင့် ဒွေးချိုးကဗျာဖြင့် မေးတော်မူသဖြင့် မင်းကွန်း အလယ်တောရ အရှင်ပဏ္ဍဝံသ မထေရ်မြတ်က ဤကဲ့သို့ ဒွေးချိုးကဗျာ လေးများဖြင့် ဖြေကြားတော်မူခဲ့လေသည်။

(၁) တွေ့မဆုံ ကြည့်မျှော်ရုံ ရယ်ရွှင်ကြကာနှင့် ကိစ္စကုန်တဲ့။
ဆိုကြဟန် စင်စစ်ကယ် မမှန်ဟု၊
မြတ်ကျမ်းဂန် သည့်နယ်ရှိသည် ဘုန်းသိပါငဲ့။

(၂) အမွေပို၊ မဖြေလို စိတ်တော်ရှိပါဘူး၊ ကိုယ်သိသားမို့။
နတ်ခြောက်သူ၊ ချစ်သွေးနှစ်ကိုယ်မြူလို့၊
ဟိုအမူ လူလို ကျင့်ကြတယ်၊ သင်းက ဤသို့။

(၃) ဆကာမာဘူမိမှာ ကုမာရီနတ်အပျို၊ လူတို့လို ဟုတ်ဘဲ။
မွှင့်မြဲငယ်မို၊ ရှစ်ရက်လျှင် တစ်ကြိမ်စီပ၊
ချိန်ရာသီ ပေါ်တဲ့ပန်းငယ် လန်းမပွင့်မြဲ။

## နတ်သမီးတို့၏အလှနှင့် ဖောဋ္ဌဗ္ဗအတွေ့ဓာတ်

နတ်တို့၏ခန္ဓာကိုယ်သည် လူတို့၏ ပကတိမျက်စိဖြင့် မမြင်နိုင် လောက်အောင် သိမ်မွေ့နူးညံ့လှ၏။ ရုပ်ကြမ်းဖန်ဆင်းပြမှ လူတို့ မြင်ရ ၏။ ထိုဖန်ဆင်းပြသော ရုပ်ကြမ်းသည်ပင် လူတို့ တွေ့ထိလျှင် မေ့သွား လောက်အောင် နူးညံ့သေး၏။ အတွေ့ဓာတ်နူးညံ့ပုံကို သာဓကဆောင်ပြ ပါဦးမည်။





ရှေးအခါက ဟိမဝန္တာတောကြီး၌ ဣသိသိင်္ဂမည်သော ရသေ့ တစ်ပါးရှိ၏။ ဈာန်အဘိညာဉ်ရ၍ ပြင်းထန်သောအကျင့်ရှိ၏။ ဣန္ဒြေများ ကို ကောင်းစွာ ချုပ်တည်း စောင့်စည်းလေ့ရှိ၏။

ထိုရသေ့၏ သီလတန်ခိုးကြောင့် သိကြားမင်း၏နေရာသည် တုန်လှုပ်၏။ သိကြားမင်းသည် ဆင်ခြင်ကြည့်သောအခါ သူ့နေရာကို ယူမည့် ဣသိသိင်္ဂရသေ့ကို တွေ့၏။

ထို့ကြောင့် ဣသိသိင်္ဂရသေ့၏သီလကို ဖျက်ဆီးရန် မိမိ၏အခြွေ အရံ နတ်သမီးများထဲမှ အလမ္ဗုသာမည်သော နတ်သမီးကိုခေါ်၍ -

"ရှင်မ၊ သွားပါချေ၊ ဣသိသိင်္ဂ ရသေ့ထံ ချဉ်းကပ်၍ မိမိအလိုသို့ ဆွဲဆောင်ကာ ရသေ့၏သီလကို ဖျက်ဆီးလော့" ဟု စေခိုင်း၏။

နတ်သမီးက -

"အရှင် စေခိုင်းသည့်အတိုင်း သွားပါမည်။ သို့သော် တန်ခိုးကြီး သည့် ရသေ့၏သီလကို ဖျက်ဆီးရန် ကြောက်ပါသည်။ ရှင်ရသေ့ကို ဖျက်ဆီးသည့်အတွက် ငရဲသို့ သတ္တဝါအများ ကျရောက်ကြပါသည်။ ထို့ကြောင့် သီလကို ဖျက်ဆီးမည်ဟု ကြံစည်စဉ်မှာပင် အကျွန်ုပ်မှာ ကြက်သီးထလှပါပြီ"

ဟု ဆိုကာ ဣသိသိင်္ဂ ရှင်ရသေ့ထံသို့ သွားခဲ့သည်။

အလမ္ဗုသာ နတ်သမီးသည် နံနက်စောစော နေထွက်ပြုစချိန်တွင် မီးဖိုချောင်ကို တံမြက်လှည်းနေသည့် ဣသိသိင်္ဂ ရှင်ရသေ့၏ရှေ့တွင် မိန်းမတို့၏ တင့်တယ်လှပခြင်းကိုပြလျက် ရပ်နေပေသည်။

ရသေ့သည် နတ်သမီးကိုမြင်လျှင် -

"သင်ကား ဘယ်သူပါလဲ။ ဆန်းကြယ်တဲ့ ပုလဲသွယ်လည်ရွဲ၊ ပတ္တမြားနားတောင်း စတဲ့ လက်ဝတ်တန်ဆာတွေကလည်း အပြည့်ပါပဲ။ သင့်ကိုယ်မှာလည်း သောက်ရှူးကြယ်ရောင်၊ နေရောင်တွေလို အရောင် တွေကလည်း တလက်လက် ထွက်နေတယ်။ ရွှေအဆင်းလို ဝါဝင်းနေတဲ့ စန္ဒကူး နံ့သာတွေကိုလည်း လိမ်းကျံထားတယ်။ အရွယ်ကလည်း ရှုချင် စဖွယ် ပျိုမျစ်နုနယ် ငယ်ရွယ်သူ ဖြစ်တယ်။ ခါးကလည်း လှပတင့်တယ် သေးသေးသွယ်သွယ် ရှိတယ်။

ပေါင်တံအစုံကလည်း ဆင်နှာမောင်းသဖွယ် အရင်းကြီးပြီး အဖျားသေးသွယ်ရှိတယ်။ ရင်မှာ ထွက်ပြူနေကြတဲ့ နှစ်မြွှာသော သားမြတ်အစုံဟာလည်း မရှုံ့မတွန့် တွဲလျားမကျ ပြည့်တင်း ဖောင်းပွနေကြတယ်။ ရွှေမှုရီးစည်သဖွယ် တင့်တယ်ကျော့ရှင်းတဲ့လည်တံ၊ နီမြန်းတဲ့နှုတ်ခမ်းတွေကလည်း အလွန် ကြည့်ကောင်းလှပါတယ်။ သင့်ရဲ့ မျက်လုံးကလေးတွေကလည်း ရှည်လည်းရှည် ကျယ်လည်းကျယ်ပြီး ညိုသင့်ရာညို၊ နီသင့်ရာနီနေလို့ အလွန်လှပနေပါတယ်။

မရှည်မတို ပင်ကို ပြေပြစ်ချောမွေ့၍ သပ်ရပ်စွာ ဖြီးထားသည့်ဆံပင်တို့မှာလည်း စန္ဒကူးနံ့သာ တကြိုင်ကြိုင် ပျံ့သင်းနေပါတယ်။ ဒီလူ့လောကကြီးမှာ သင့်လို ချောမောလှပတဲ့ အမျိုးသမီးကို ငါ တစ်ခါမှ မမြင်ဖူးဘူးပါ။ သင်ကား ဘယ်သူပါလဲ" ဟု မေးလိုက်၏။

"သခင်ဘုန်းဟော ရှင်ရသေ့၊ အရှင်ဘုရားရဲ့ ကြင်နာယုဖိတ်မေတ္တာစိတ်ဟာ အကျွန်ုပ်ဆီသို့ ရောက်နေပါပြီ။ ကျွန်ုပ်ကို ဘယ်သူလဲလို့ မေးမြန်းရမယ့်အချိန် မဟုတ်တော့ပါ။

ကြွတော်မူပါ။ ကျွန်ုပ်တို့ နှစ်ဦး ကြည်နူးမွေ့လျော် ကျောင်းထဲ၌ ပျော်ပွဲခံကြပါစို့။ ကြွသာ ကြွတော်မူပါ။ အရှင့်ကို ပွေ့ဖက်ပါ့မယ်"

ဟုဆိုကာ နတ်သမီးသည် ပြန်လည် ထွက်ခွာမည့်ဟန်ပြု၏။

ထိုအခါ ဣသိသိင်္ဂ ရသေ့ကလေးမှာ မတွေးနေ၊ မငေးနေနိုင်တော့ဘဲ လျင်မြန်စွာ ပြေးလိုက်၍ အလမ္ဗုသာ နတ်သမီး၏ဆံထုံးကို ဖြည်းဖြည်းကလေး ဆွဲလိုက်၏။

ထိုအခိုက်တွင် နတ်သမီးသည် ရသေ့ကလေးကို လှည့်ကာ ပွေ့ဖက်လိုက်တော့၏။ ဣသိသိင်္ဂရသေ့ကလေးမှာ နတ်သမီး၏ ဖောဋ္ဌဗ္ဗအတွေ့ဖြင့် နတ်သမီး၏ ရင်ခွင်ဝယ် သုံးနှစ်တိုင်တိုင် မေ့မော၍ နေသတဲ့။

သတိပြန်ရသည့်အခါ ရသေ့ကလေးသည် –

"ငါသည် မီးလည်း မပူဇော်မိ၊ ဗေဒင်တွေကိုလည်း မသရဇ္ဈာယ်မိ၊ ငါ့စိတ်ကို ဘယ်သူကများ ကိလေသာနဲ့ ဖြားယောင်းလိုက်ပါသလဲ၊ ငါ့ဈာန်လျှောအောင် လုပ်တဲ့သူဟာ ဘယ်သူပါလဲ"

ဟု ဆိုကာ ငိုကြွေးမြည်တမ်း၏။





ထိုအခါ နတ်သမီးသည် ကိုယ်ထင်ပြပြီး ရသေ့ကလေးအား ဖြစ်ကြောင်းကုန်စင် လျှောက်တင်ရတော့၏။

ထိုအကြောင်းကို သိရသောအခါ ရသေ့ကလေးသည် သတိသံဝေဂရ၍ ကြိုးစားအားထုတ်ရာ ဈာန်သမာပတ်များကို ပြန်လည်ရရှိ၏။

အလမ္ဗုသာ နတ်သမီးသည် ရသေ့ကလေး၏ခြေကို ဦးခိုက်ကာ သူ့အား အမျက်မထွက်ပါမည့်အကြောင်း တောင်းပန်၍ ရိုသေစွာ ကန်တော့ပြီး တာဝတိံသာနတ်ပြည်သို့ ပြန်သွားသည်။

နတ်တို့သေဌ်နင်း သိကြားမင်းကြီးက နတ်သမီး၏ ဆောင်ရွက်ချက်များကို အလွန်နှစ်သက် သဘောကျ၍ ဆုပေးမည်ပြုသောအခါ –

"အကျွန်ုပ်အား၊ ဆုပေးမယ်ဆိုလျှင် ရသေ့ ရဟန်းတွေကို ဖြားယောင်းဖျက်ဆီးရန် ဘယ်သောအခါမှ မသွားရလိုပါဟူသော ဆုမျိုးကိုသာ အကျွန်ုပ် လိုချင် တောင့်တပါသည်"

ဟု နတ်သမီးတို့၏အလုနှင့် ဖောဋ္ဌဗ္ဗ အတွေ့ဓာတ်အကြောင်းကို အလမ္ဗုသာဇာတ်၌ လေ့လာဖတ်ရှုရပေသည်။

သီဟိုဠ်ကျွန်း (သီရိလင်္ကာ)၌ သာသနာထွန်းကားချိန်တွင်လည်း ကောဋ္ဌပဗ္ဗတ(တောင်စွန်း) ကျောင်းတိုက်ကြီးအနီးမှာ ကံ့ကော်ပင်လိုဏ်ဂူတည်ရှိ၏။

လိုဏ်ဂူအနီး၌ ကံ့ကော်ပင်ကြီး ရှိသောကြောင့် ကံ့ကော်ပင်လိုဏ်ဂူဟု ခေါ်ခြင်း ဖြစ်၏။

နတ်သမီးတစ်ယောက်သည် လိုဏ်ဂူ၏တံခါးဝတွင် ပေါက်နေသော ကံ့ကော်လက်ကို အမှီပြုနေ၏။

တစ်နေ့တွင် လိုဏ်ဂူတွင်း၌ ရဟန်းတော်တစ်ပါးသည် မဟာသမယသုတ်ကို ရွတ်ဖတ် သရဇ္ဈာယ်၏။ ပြီးဆုံးသောအခါ နတ်သမီးက ကျယ်လောင်စွာ သာဓုခေါ်၏။

ရဟန်းငယ်က သာဓုခေါ်သူသည် မည်သူလဲဟု မေးသောအခါ နတ်သမီးက –

"အကျွန်ုပ် နတ်သမီး ဖြစ်ပါသည်။ မဟာဝုန်တော၌ မြတ်စွာဘုရား ဟောကြားသည့်အခါ တစ်ကြိမ်သာ နာကြားရပြီး ယနေ့ တစ်ကြိမ်

သာ ဤသုတ် နောက်ထပ် ကြားနာရပါသည်။ အရှင်ဘုရားသည် မြတ်စွာဘုရား ဟောတော်မူသည့်အတိုင်း တစ်လုံးတစ်ပါဒမျှ မချွတ်ယွင်းအောင် ကောင်းစွာ သင်ယူအပ်ပါပေသည်။ ထို့ကြောင့် သာဓုခေါ်ရပါသည်”

စသည်ဖြင့် အပြန်အလှန် မေးကြ၊ ဖြေကြပြီး နောက်ဆုံး၌ –

“သင်နတ်သမီးရဲ့ကိုယ်ကို ငါတို့မြင်အောင် ပြနိုင်လျှင် ပြစမ်းပါ”

ဟု ရဟန်းတော်က တောင်းဆို၏။

နတ်သမီးသည် တစ်ကိုယ်လုံးမြင်အောင် ပြနိုင်သော်လည်း တစ်ကိုယ်လုံး မြင်အောင်ပြလိုက်ပါက သူ၏အလှအပကြောင့် ရဟန်းငယ်အား သာသနာ့အန္တရာယ် ဖြစ်ဖွယ်ရှိသည့်အတွက် –

“တစ်ကိုယ်လုံးတော့ မပြနိုင်ပါ၊ လက်ဆစ် တစ်ဆစ်မျှကိုသာ မြင်အောင်ပြပါမည်”

ဟု လျှောက်ထားကာ လိုဏ်ဂူထဲသို့ သွင်းပြရာ နေ၊ လ၊ အထောင် အရောင်ထွက်သကဲ့သို့ ထိန်လင်းသွားသည်ဟု သုတ်မဟာဝါ အဋ္ဌကထာ၌ မိန့်ဆိုထားသည်ကိုလည်း တွေ့ရှိရပေသည်။

## နတ်တို့အချင်းချင်း တရားဖြစ်ကြပုံ

ဤသို့ နတ်သစ်များ ကုသိုလ်ကံအလျောက် နေရာအနှံ့အပြား ပေါ်ပေါက်လာမှုကြောင့် နတ်ပြည်လောကတွင် နတ်တို့အချင်းချင်း တရားဖြစ်ကြရသည်။

အချို့ နတ်သားသစ်၊ နတ်သမီးသစ်များသည် နတ်သားဟောင်းနှစ်ဦးတို့၏ ဗိမာန်နှစ်ခုကြား အလယ်၌ ဖြစ်ပေါ်လာကြရသည်။

ထိုအခါ ဗိမာန်ရှင်နတ်သားတို့ နတ်သစ် သို့မဟုတ် နတ်သမီးအသစ်ကို သူပိုင်သည်၊ ငါပိုင်သည်ဟု အငြင်းပွားကြပြီး သိကြားမင်းထံ တရားဆိုင်ကြရ၏။

သိကြားမင်း၏ ဆုံးဖြတ်ချက်ကား အလွန် စိတ်ဝင်စားစရာကောင်းလှ၏။ နတ်သားသစ် သို့မဟုတ် နတ်သမီးသစ် ပေါ်လာသော နေရာသည် အကြင်ဗိမာန်ရှင်နတ်သားနှင့် နီး၏။ ထိုဗိမာန်ရှင်ကို ပိုင်စေဟု ဆုံးဖြတ်၏။





အကယ်၍ ဗိမာန်ရှင်နတ်သားနှစ်ဦးတို့၏ ဗိမာန်နှစ်ခု အလယ် ဗဟိုတည့်တည့်၌ ပေါ်လာလျှင် ထိုပေါ်လာသော နတ်သားသစ်၏ သို့မဟုတ် နတ်သမီးသစ်၏မျက်နှာမူရာ ဗိမာန်ရှင် နတ်သားက ပိုင်စေဟု ဆုံးဖြတ်၏။

ပေါ်လာသော နတ်သားသစ်၊ နတ်သမီးသစ်သည် မည်သည့် ဗိမာန်ဘက်ကိုမျှ မျက်နှာမပြုခဲ့လျှင် နတ်သားနှစ်ဦးတို့ အငြင်းမပွားနိုင်ရန် ထိုနတ်သားသစ်၊ နတ်သမီးသစ်ကို သိကြားမင်းက ကိုယ်ပိုင် သိမ်းပိုက်လိုက်သည်ဟု မူလ ပဏ္ဏာသအဋ္ဌကထာ၌ မိန့်ဆိုထား၏။

နတ်တို့သည် နတ်သားသစ်၊ နတ်သမီးသစ်များ အတွက်သာ တရားဖြစ်ကြသည်မဟုတ်။ ဘုံဗိမာန်များအတွက်လည်း တရားဖြစ်ကြသေးသည်။ တစ်ချိန်က နတ်သားနှစ်ဦး ဗိမာန်အတွက် အငြင်းပွား ရန်ဖြစ်ကြရာ ဝေဿဝဏ် ခေါ် ကုဝေရနတ်မင်းကြီးက အဆုံးအဖြတ်ပေးလိုက်ရသည်ဟု မဟာနိပါတ် ဝိဓူရဇာတက အဋ္ဌကထာ၌ တွေ့ရသည်။

## နတ်သုဓာနှင့် နတ်တို့ ကျင်ကြီးကျင်ငယ်

နတ်များသည် လူသားများကဲ့သို့ အစားအစာများကို စားသောက်ကြရသေး၏။

စားသောက်ချိန် ရောက်လာသည့်အခါတွင် သုဓာဘုတ် ခေါ် နတ်သုဓာ အဆီအနှစ်များ အလိုအလျောက် ပေါ်ပေါက်လာကြသည်ဟု ဆိုပေသည်။ ကံအကျိုးပေးကား အလွန် ဆန်းကြယ်လှ၏။

သုဓာဘောဇနမှ သုဓာဘုတ် ဖြစ်လာ၏။ နတ်သုဓာ ဟူသော စားဖွယ်ဘောဇဉ်ဟု အဓိပ္ပာယ်ရသည်။

(သုဓာ=နတ်သုဓာဟူသော+ဘောဇန=ဘုဇ်=ဘုတ်=ဘောဇဉ်)

ထိုနတ်သုဓာများကား အလွန် သိမ်မွေ့နူးညံ့လှ၍ ကြေကျက်ခဲ၏။ နတ်တို့၏ လျှာဖျား၌ တင်ထားခါမျှပင် ခြေဖျားအထိ တစ်ကိုယ်လုံး ပျံ့နှံ့သွား၏။ ထိုမျှ နူးညံ့လှသည့် အစာများကို အလွန်အားကောင်း ထက်မြက်သည့် နတ်တို့၏ ပါစကတေဇော ခေါ် ဝမ်းမီးက အစာကြွင်းပင် မကျန်အောင် ချက်ပစ်လိုက်သည်။

ထို့ကြောင့် နတ်တို့၌ ဝမ်းဆီး ခေါ် ကျင်ကြီး၊ ကျင်ငယ်များ မရှိကြခြင်းပင် ဖြစ်သည်။

နတ်တို့၌ ပါစကတေဇောဓာတ် ခေါ် အစာချက်သည့်ဝမ်းမီးစက်သည် အလွန် အားကောင်းထက်မြက်၏။ နတ်တို့၏ ခန္ဓာကိုယ်ကလည်း လူသားတို့ ပကတိမျက်စိဖြင့် မမြင်နိုင်လောက်အောင် နူးညံ့သိမ်မွေ့လှ၏။ တစ်ခါတစ်ရံ အချို့နတ်များမှာ အပျော်အပါးလွန်သွား၍ အစာစားချိန်တွင် အစာမစားမိဘဲ ဖြစ်သွားတတ်၏။

ထိုအခါ ထိုနတ်များ၏ အလွန်အားကောင်းသည့် ပါစကတေဇောဓာတ်က သူတို့၏ နူးညံ့လှသည့်ခန္ဓာကိုယ်ကို လောင်ကျွမ်းလိုက်လေရာ ထိုနတ်များမှာ စုတေပျက်ကြွေ သေလွန်ကြရပေသည်။

ထိုနတ်မျိုးကို အပျော်ကြူး၍ ပျက်စီးရသော (ခိဍ္ဍာပဒေါသိက) နတ်များခေါ်ကြောင်း ရှေ့တွင် ဖော်ပြခဲ့ပေပြီ။

နတ်သြဇာသည် တစ်ကြိမ်စားလျှင် လူတို့ ရက်လအားဖြင့် တစ်လ နှစ်လထိ ခန္ဓာကိုယ်ကို ထောက်ပံ့နိုင်ကြ၏။ အစာဆာခြင်း၊ ရေငတ်ခြင်း၊ မမွေ့လျော်ခြင်း၊ ခန္ဓာကိုယ် ပင်ပန်းနွမ်းနယ်ခြင်း၊ အမျက်ဒေါသထွက်ခြင်း၊ ရန်ငြိုးဖွဲ့ခြင်း၊ ငြင်းခုံခြင်း၊ ချောပစ်ကုန်းတိုက်ခြင်း၊ ချမ်းအေးခြင်း၊ ပူလောင်ခြင်း၊ ပျင်းရိခြင်း၊ ပူပန်ခြင်း ဟူသော အနိဋ္ဌာရုံတို့ကို ပယ်ဖျောက်နိုင်သော စွမ်းရည်သတ္တိ ရှိသည်ဟု ဆို၏။

နတ်တို့၏ ကမ္မဇိဒ္ဓိ တန်ခိုးကြောင့် ဖြစ်ပေါ်လာသော နတ်သြဇာသည် အလွန်နူးညံ့ သိမ်မွေ့လှသောကြောင့် ဈာန်မရသည့် သုက္ခဝိပဿက ရဟန္တာ အရှင်သူမြတ်တို့၏ ကမ္မဇတေဇောဓာတ် ခေါ် ဝမ်းမီးကပင် ထိုနတ်သြဇာအစွမ်းတို့ကို ခြေဖျက်နိုင်အောင် မချက်နိုင်ချေ။

ဈာန်ရ ရဟန္တာများမှာမူ သမာပတ်၏ အစွမ်းဖြင့် ကြေကျက်အောင် ချက်နိုင်ကြ၏။

ဗုဒ္ဓရှင်တော်မြတ်ဘုရားတို့မှာကား ပကတိသော ကမ္မဇတေဇောဓာတ်ဖြင့်ပင် ထိုနတ်သြဇာများကို ကြေကျက်အောင် ချက်နိုင်ကြသည်ဟု သံယုတ်အဋ္ဌကထာ၊ ဇာတ်အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာတို့၌ မိန့်ဆိုထားလေ၏။





## နတ်ပြည်နှင့် အနိဋ္ဌာရုံ

နတ်သား၊ နတ်သမီးတို့သည် နတ်ဘုံသို့ ရောက်သွားကြသည်နှင့် တစ်ပြိုင်နက် –

'ငါသည် ဘယ်ဘဝမှ ကွယ်လွန် သေဆုံးလာခဲ့ပြီး ဒီနတ်ဘုံ၌ လာဖြစ်သလဲ၊ အဘယ်မည်သော ကုသိုလ်ကောင်းမှုကို ပြုလုပ်ခဲ့သောကြောင့် ဒီလို စည်းစိမ်ချမ်းသာမျိုးကို ရပါသလဲ'

ဟု ပြန်လည် ဆင်ခြင်လေ့ ရှိကြသည်။

ဤသို့ ဆင်ခြင်ကြသည်မှာ နတ်တို့၏ ဓမ္မတာပင် ဖြစ်သည်။

တန်ခိုးရှိသော နတ်သားများ၌ နတ်သမီး ငါးရာ၊ တစ်ထောင် စသည်ဖြင့် အခြံအရံများ ရှိကြသကဲ့သို့ တန်ခိုးကြီးသော နတ်သမီးများမှာ နတ်သမီးများ သို့မဟုတ် နတ်သားများ အခြံအရံ ရှိကြပေသည်။

နတ်တို့သည် မျက်တောင်ခတ်လေ့ မရှိကြပေ။

နတ်ပြည်၌ မလိုလားအပ်၊ မနှစ်သက်ဖွယ်ရာများဖြစ်သည့် အနိဋ္ဌာရုံများ မရှိဟု သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ စသည်တို့၌ မိန့်ဆိုထား၏။

ထို့ကြောင့် အနိဋ္ဌာရုံများ ဖြစ်ကြသည့် အသုဘဆယ်ပါး၊ အာဟာရေပဋိကူလသညာ၊ ကာယဂတာသတိ ဟူသော သမထကမ္မဋ္ဌာန်းတစ်ဆယ့်နှစ်ပါးတို့ မရှိဟု အဘိဓမ္မာဝတာရ အဋ္ဌကထာဖွင့်ဆိုထား၏။

ဆံပင်၊ မွေးညင်း၊ လက်သည်း၊ ခြေသည်း၊ သွား၊ အရေ ဆိုသည့် စက်ဆုပ်ဖွယ် သာမန် အနိဋ္ဌာရုံကလေးများရှိသော်လည်း နတ်တို့၏တန်ခိုးအစွမ်းဖြင့် စက်ဆုပ်ဖွယ် မဟုတ်ဘဲ နှစ်သက်ဖွယ် ဣဋ္ဌာရုံအဖြစ်သို့ ပြောင်းလဲဖြစ်ကြပေသည်ဟု ကျမ်းဂန်၌ ဆို၏။

## နတ်အမျိုးမျိုးနှင့် နတ်တို့ ငိုကြွေးခြင်း

နတ်ပြည်တွင် ပုထုဇဉ်နတ်၊ အရိယာနတ် စသည်ဖြင့် နတ်အတန်းအစား အမျိုးမျိုး ရှိကြ၏။ စတုမဟာရာဇ်နတ်ပြည်တွင် သုဂတိအဟိတ်ပုထုဇဉ်နတ်၊ ဒွိဟိတ်ပုထုဇဉ်နတ်၊ တိဟိတ်ပုထုဇဉ်နတ်များနှင့် အရိယာနတ်ရှစ်မျိုးအားဖြင့် နတ် ၁၁ မျိုး ရှိကြသည်။

သို့ရာတွင် နတ်ပြည် ခြောက်ထပ်လုံး၌ သောတာပန်နတ်၊ သကဒါဂါမ်နတ် နှစ်မျိုးသာ သက်တမ်းပြည့် ရှိနေကြသည်။ အနာဂါမ်နတ်တို့မှာ အနာဂါမ်ဖြစ်သည်နှင့် တစ်ပြိုင်နက် ကာမဂုဏ်ပေါ်များသည့် နတ်ပြည်၌ မနေနိုင်တော့ဘဲ ဈာန်ရပြီး စုတေကာ ရူပဗြဟ္မာဘုံသို့ သွားကြ၏။ ရဟန္တာနတ်တို့မှာမူ ရဟန္တာဖြစ်သည်နှင့် တစ်ပြိုင်နက် ပရိနိဗ္ဗာန်ပြုကြ၏။

နတ်ပြည်တွင် ပုထုဇဉ်နတ်၊ သောတာပန်နတ်နှင့် သကဒါဂါမ်နတ်တို့မှာ လောဘ၊ ဒေါသ မကင်းကြသဖြင့် အကြောင်းပေါ်လာသည့်အခါ တစ်ခါတစ်ရံ ငိုကြွေးတတ်ကြသေး၏။ စကားများ၍ ရန်ဖြစ်ကြသေး၏။

မှန်ပါသည်။ တစ်နေ့သောအခါ စတုမဟာရာဇ်နတ်သားတစ်ယောက်သည် နက္ခတ်သဘင်ကစားရန် အခြံအရံနတ်သမီးများနှင့်အတူ ရထားဖြင့် အပျော်ခရီးထွက်ခဲ့သည်။

မရှေးမနှောင်းမှာပင် အခြား နတ်သားတစ်ဦးကလည်း ခရီးထွက်လာခဲ့ရာ ထိုရှေ့က နတ်သားကို မြင်တွေ့သည်နှင့် တစ်ပြိုင်နက် –

“အို – မိတ်ဆွေတို့၊ ဒီနတ်သားဟာ မမြင်ဘူး၊ မတွေ့ဘူးတဲ့ စည်းစိမ်ချမ်းသာကို မြင်တွေ့ရတဲ့ ဆင်းရဲသားနဲ့တူလိုက်တာ၊ ရှေးက မတွေ့ဘူးတဲ့ ဒီနတ်စည်းစိမ်အတွက် သူ့အမူအရာတွေက ဆောင့်ကြွားကြွားနိုင်လိုက်တာ” ဟု ကဲ့ရဲ့လိုက်၏။

ရှေ့ကသွားသည့်နတ်သား ကြားသွား၍ –

“မင်း ကဲ့ရဲ့လို့ ကျုပ်က ဘာအရေးစိုက်ရမှာလဲ၊ ဒီနတ်စည်းစိမ်တွေဟာ ငါ့ဒါန၊ သီလ ကုသိုလ်တွေကြောင့် ရလာတဲ့ စည်းစိမ်တွေပဲ၊ မင်းအစွမ်းကြောင့် ရလာတာတွေ မဟုတ်ဘူး။ မင်းနဲ့ ဘာဆိုင်သလဲ”

ဟု ပြန်လည် ဒေါသထွက်ကာ ပြောဆိုလိုက်သည်။

ဤသို့ တစ်ဦးနှင့်တစ်ဦး အပြန်အလှန် ဒေါသဖြစ်ကြရင်း ဒေါသပြင်းထန်လာကြရာ နှစ်ဦးလုံး၏ အခြံအရံနတ်သမီးများ ငိုကြွေးနေစဉ်မှာပင် နတ်သားနှစ်ယောက်လုံး စုတေပျောက်ကွယ်သွားကြလေသည်။

ဤသို့ နတ်သားများသည် ဒေါသပြင်းထန်စွာ ထွက်သည့်အခါ၌လည်း မိမိတို့၏ အလွန်နူးညံ့လှသည့် ခန္ဓာကိုယ်မှာ ဒေါသမီး၏





လောင်ကျွမ်းမှုဒဏ်ကို မခံနိုင်သဖြင့် စုတေသွားကြခြင်း ဖြစ်ပေသည်။ ထိုနတ်မျိုးကို ဒေါသစိတ်ကြောင့် ပျက်စီးကြရသည့် (မနောပဒေါသိက) နတ်ခေါ်ကြောင်း ရှေ့တွင် ဖော်ပြခဲ့ပေပြီ။

ထို့ပြင် ဘုရားရှင် ပရိနိဗ္ဗာန်ဝင်ခါနီး၌ စကြဝဠာတိုက်တစ်သောင်းမှ (အသညသတ်ဗြဟ္မာ၊ အရူပဗြဟ္မာတို့မှတစ်ပါး) နတ်ဗြဟ္မာအပေါင်းတို့သည် ဘုရားရှင် ပရိနိဗ္ဗာန်ဝင်စံမည်ကို သိရှိကြသောအခါ ဘုရားရှင်အား နောက်ဆုံး ဖူးမြော်ရန် ရောက်ရှိလာကြသည်။

ထိုအချိန်က ကုသိနာရုံ အင်ကြင်းဥယျာဉ်၏ ပတ်ဝန်းကျင် တစ်ဆယ့်ယူဇနာအတွင်းတွင် သားမြီးဖျားတစ်ထောက်လောက်ပင် နေရာကွက်လပ်မရှိ။ ဘုန်းတန်ခိုးကြီးသော နတ်ဗြဟ္မာတို့ဖြင့် ပြည့်နှက်လျက် ရှိနေလေသည်။

ဘုရားရှင်နှင့် အနီးကပ်ဆုံးအရပ်၌ သားမြီးဖျား တစ်ထောက်စာလောက်သာ နေရာမှာပင် သိမ်မွေ့သော ခန္ဓာကိုယ်အတ္တဘောကို ဖန်ဆင်း၍ တစ်ကျိပ်စီသော နတ်ဗြဟ္မာတို့သည် ရပ်တည်နေကြသည်တဲ့။

ထို့အပြင်ဘက်၌ နှစ်ကျိပ်စီ နှစ်ကျိပ်စီ၊ ထို့အပြင်ဘက်၌ သုံးကျိပ်စီ သုံးကျိပ်စီ၊ ထို့အပြင်ဘက်၌ လေးကျိပ်စီ လေးကျိပ်စီ စသည်ဖြင့် ရပ်တည်နေကြသည်။

သို့သော် ထိုနတ်တို့သည် တစ်ဦးနှင့်တစ်ဦး လက်ချင်း၊ ခြေချင်း၊ အဝတ်တန်ဆာချင်း မထိမိကြဟု ဆိုပေသည်။

ဤသို့ ပကတိကောင်းကင်ပြင်၌ တည်နေကြသော နတ်၊ ပကတိမြေပြင်၌ တည်နေသောနတ် နှစ်မျိုးလုံးပင် –

“ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရားသည် အလွန်လျင်မြန်စွာ လူ့လောကမှ ပျောက်ကွယ်တော်မူမည်”

ဟု မြည်တမ်းကာ ဆံပင်များကို ဖြန့်၍ လည်းကောင်း၊ လက်မောင်းများကို မြှောက်၍ လည်းကောင်း ငိုကြွေးကြကုန်၏။ ကမ်းပါးပြတ်၌ ကျသကဲ့သို့လည်း လဲကျကြ၏။ လူးကာလိမ့်ကာလည်း ငိုကြွေးကြ၏။

ရာဂ၊ ဒေါသတို့ကို ပယ်ပြီးကြသဖြင့် ကျောက်တိုင် ကျောက်သားပမာ ခံနိုင်ရည် ရှိကြသည့် အနာဂါမ်၊ ရဟန္တာ နတ်ဗြဟ္မာကြီးတို့သာ –

ပြုပြင်ရမှု၊ သင်္ခါရတရားစု မှန်သမျှ မြဲသောသဘောကို မည်သည့်အခါမျှ မရနိုင်ပါတကား'

ဟု ဆင်ခြင်၍ သည်းခံနိုင်ကြ၏။

ဤသို့ နတ်တို့ ငိုကြွေးကြပုံကို ရှင်တော်ဗုဒ္ဓ ကိုယ်တော်တိုင် အရှင်အာနန္ဒာအား မိန့်ကြားတော်မူသည်ကို မဟာပရိနိဗ္ဗာနသုတ်၌ လေ့လာတွေ့ရှိသည်။

## လူ့ပြည်လာလျှင် ရုပ်ကြမ်းဖန်ဆင်းရပုံ

နတ်တို့၏ ခန္ဓာကိုယ်မှာ သုံးဂါဝုတ်အထိ ကြီးမားကြသော်လည်း အလွန် နူးညံ့သိမ်မွေ့လှ၏။ ဒိဗ္ဗစက္ခုအဘိညာဉ်မျက်စိဖြင့်သာ မြင်တွေ့နိုင်သည့်ရုပ်မျိုး ဖြစ်သည်။

ထို့ကြောင့် နတ်တို့သည် ပကတိ ခန္ဓာကိုယ်အတိုင်း မြေကြီးပေါ်တွင် မရပ်တည်နိုင်ကြချေ။

အကယ်၍ ပကတိ ခန္ဓာကိုယ်အတိုင်း ရပ်လိုက်လျှင် သဲမြေပေါ်တွင် သွန်းလောင်းချလိုက်သည့် ဆီများပမာ မြေကြီးထဲသို့ စိမ့်၍ စိမ့်၍ ဝင်သွားလေ့ ရှိကြ၏။

ထို့ကြောင့် တစ်ချိန်က ဟတ္ထကမည်သော ဗြဟ္မာတစ်ဦး ဘုရားရှင်ထံရောက်လာရာ မြေကြီးပေါ်တွင် ရပ်တည်၍ မရဘဲ မြေကြီးထဲ စိမ့်၍စိမ့်၍ ဝင်နေသောကြောင့် ရှင်တော်ဗုဒ္ဓက –

"ဟတ္ထက၊ သင်၏ ခန္ဓာကိုယ် အတ္တဘောကို ရုပ်ကြမ်းကြီး ဖြစ်အောင် ဖန်ဆင်းလိုက်"

ဟု နည်းပေးလိုက်မှပင် ဟတ္ထကဗြဟ္မာ မြေပေါ်မှာ ရပ်နိုင်ရှာတော့သည်။

သို့ဖြစ်၍ နတ်ဗြဟ္မာတို့ လူ့ပြည် လာကြသည့်အခါ မိမိတို့၏ အလွန် နူးညံ့လှသည့် ရုပ်ခန္ဓာကြီးကို ရုပ်ကြမ်းဖန်ဆင်းပြီးမှ လာကြရသည်။ ဘုရားရှင် ပရိနိဗ္ဗာန်စံဝင်ခါနီးတွင် ရောက်လာကြသော နတ်ဗြဟ္မာတို့တွင်လည်း ကောင်းကင်၌တည်သော နတ်တို့သည် မြေပြင်ဖြစ်အောင်ဖန်ဆင်း၍ ရပ်တည်ကြသကဲ့သို့ ပကတိမြေပြင်၌ ရပ်တည်ကြသော





နတ်တို့ကလည်း မိမိတို့ ခန္ဓာကိုယ်ကို ဆောင်နိုင်လောက်အောင် ပကတိမြေကို နူးညံ့စွာ ဖန်ဆင်းပြီးမှ ရပ်တည်ကြရသည်။

နတ်တို့သည် လူတို့ပြည်သို့ အကြောင်းကိစ္စ မရှိဘဲ လာလေ့လာထ မရှိကြပေ။ လူတို့၏ ခန္ဓာကိုယ်အနံ့ကို နတ်တို့ အလွန်စက်ဆုပ်ရွံရှာကြ၏။

လူ့လောကနှင့် ယူဇနာတစ်ရာ အကွာကနေ၍ပင် လူတို့၏ ကိုယ်နံ့ကို နံစော်သည်ဟု ဆို၏။

ထို့ကြောင့် နတ်တို့ ဘုရားရှင်ထံ လာရောက်ဖူးမြော်ကြသည့်အခါ ကြာကြာမနေလိုသဖြင့် ထိုင်လေ့ မရှိကြဘဲ မတ်တတ်ရပ်လျက် လျှောက်ထားလေ့ ဖူးမြော်လေ့ ရှိကြ၏ဟု ကျမ်းဂန်၌ ဆို၏။

## နတ်မျက်စိ၊ နတ်နားနှင့် အဘိညာဉ်မျက်စိ၊ အဘိညာဉ်နား

နတ်တို့သည် ဝေးသောအရပ်နှင့် သစ်ပင် တောတောင် နံရံတံတိုင်း စသည်တို့ဖြင့် ကာကွယ်တားဆီးထားသည့် အရပ်တို့၌ရှိကြသော သိမ်မွေ့ နူးညံ့လှသည့် အဆင်းအာရုံ၊ အသံအာရုံတို့ကို သူတို့၏ ပကတိမျက်စိ၊ ပကတိနားတို့ဖြင့် ထင်ထင်ရှားရှား မြင်နိုင်၊ ကြားနိုင်ကြ၏။

ထိုသို့ မြင်နိုင်၊ ကြားနိုင်ကြခြင်းမှာ ဈာန်အဘိညာဉ် ရထားသူများကဲ့သို့ ဒိဗ္ဗစက္ခုအဘိညာဉ်၊ ဒိဗ္ဗသောတအဘိညာဉ်တို့ကို ရရှိထားကြ၍ မဟုတ်ချေ။

သူတို့၏ ပကတိ မျက်စိ၊ ပကတိ နားတို့ဖြင့်ပင် မြင်နိုင်၊ ကြားနိုင်ကြခြင်းသာ ဖြစ်သည်။

မှန်ပါသည်။ နတ်တို့၏ ပကတိ မျက်စိကို ပါဠိလို ဒိဗ္ဗပသာဒစက္ခု၊ ပကတိ နားကို ဒိဗ္ဗပသာဒသောတဟု ခေါ်၏။

နတ်တို့၏ မျက်စိအကြည်ရုပ် (ဒိဗ္ဗပသာဒစက္ခု) နှင့် နားအကြည်ရုပ် (ဒိဗ္ဗပသာဒသောတ) တို့သည် ရှေးအတိတ်ဘဝတို့က ပြုကျင့်ခဲ့ဖူးသည့် ကုသိုလ်ကံ၏ အစွမ်းသတ္တိကြောင့် သည်းခြေ၊ သလိပ်၊ သွေးစသည့် အညစ်အကြေးတို့ နှောင့်ယှက်လိမ်းကျံမှု မရှိ၊ ပကတိ သန့်ရှင်းစင်ကြယ်လျက် ရှိ၏။

ဤသို့ အညစ်အကြေးမှ ကင်းဝေးသောကြောင့် အလွန် ဝေးကွာလှသည့်အရပ်နှင့် နံရံတံတိုင်း စသည်တို့၏ တစ်ဖက်အရပ်တို့၌ တည်ရှိသော အဆင်းနှင့် အသံတို့ကို မြင်နိုင်စွမ်း၊ ကြားနိုင်စွမ်း ရှိကြခြင်း ဖြစ်သည်။

အချုပ်အားဖြင့်ဆိုရလျှင် ရှေးဘဝက ကုသိုလ်ကံကြောင့် နတ်တို့ မြင်အား၊ ကြားအား အစွမ်းသတ္တိများ ကောင်းကြခြင်းဖြစ်၍ ကံမျက်စိ၊ ကံနားတို့ ဖြစ်ကြ၏။

ဈာန်အဘိညာဉ်ရသူတို့၏ ဒိဗ္ဗစက္ခုအဘိညာဉ်၊ ဒိဗ္ဗသောတအဘိညာဉ်တို့ကား ဝီရိယဘာဝနာ၏ အစွမ်းကြောင့် ဖြစ်ပေါ်လာသော (ဝါ) ရရှိလာသော ဉာဏ်မျက်စိ၊ ဉာဏ်နားတို့ ဖြစ်ကြသည်။

ထို ဉာဏ်မျက်စိ၊ ဉာဏ်နားတို့သည် နတ်တို့၏ ပကတိ မျက်စိ၊ ပကတိ နားတို့နှင့် မြင်ရာ၊ ကြားရာတို့၌ အစွမ်းသတ္တိချင်း တူသောကြောင့် ထိုဉာဏ်မျက်စိ၊ ဉာဏ်နားတို့ကို ဒိဗ္ဗစက္ခုအဘိညာဉ်၊ ဒိဗ္ဗသောတအဘိညာဉ် ဟုခေါ်ခြင်း ဖြစ်သည်။

(ဒိဗ္ဗ=နတ်၌ဖြစ်သော+စက္ခု=မျက်စိနှင့်တူသော+အဘိညာဉ်=ထူးကဲစွာ သိသောဉာဏ်)

နတ်ပြဟ္မာတို့၏မျက်စိသည် တံတိုင်း နံရံ စသည့် အကွယ်အကာ အတားအဆီးတို့ကို ဖောက်ထွင်း၍ မြင်နိုင်စွမ်းရှိသည်ဟု ဆိုသော်လည်း လူသားတို့၏ ခန္ဓာကိုယ်အနေဖြင့် ပုထုဇဉ်ပုဂ္ဂိုလ်တို့၏ ခန္ဓာကိုယ်ဖြင့် ကာကွယ်ထားခြင်းကိုသာ ဖောက်ထွင်းကာ မြင်နိုင်ကြ၍ ရဟန္တာတို့၏ ခန္ဓာကိုယ်ဖြင့် ကာကွယ်ထားခြင်းကိုမူ ဖောက်ထွင်းမြင်နိုင်စွမ်း မရှိကြချေ။

ဘုရားရှင် ပရိနိဗ္ဗာန်ဝင်စံခါနီး၌ ဆင်ပေါက်ငယ် ပမာဏ ခန္ဓာကိုယ်တော်ကြီးလှသည့် အရှင်ဉပဝါဏ ခေါ် ရဟန္တာ မထေရ်ကြီးသည် ဘုရားရှင်အနီး၌ ယပ်ခတ်၍ နေလေရာ ဘုရားရှင်အား ဖူးမြော်ရန် ရောက်လာကြသည့် နတ်များမှာ ဘုရားရှင်၏ မျက်နှာတော်ကို ဖူးမြော်ခွင့် မရကြသဖြင့် ကဲ့ရဲ့နေကြ၏။

ထိုအကြောင်းကို ဘုရားရှင် သိမြင်တော်မူသဖြင့် အရှင်ဉပဝါဏ မထေရ်ကြီးအား အနားမှ ဖဲခွာသွားရန် မိန့်တော်မူရဖူးလေသည်ဟု သုတ်မဟာဝါပါဠိ၊ အဋ္ဌကထာတို့၌ လာရှိပေသည်။





## နတ်တို့ဆင်ခြင်မှ သိနိုင်ကြပုံ

ဈာန်အဘိညာဉ်ကို ရရှိကြသည့် တန်ခိုးရှင်ပုဂ္ဂိုလ်ကြီးများပင်လျှင် အဘိညာဉ်တန်ခိုးကို ဖန်တီးပြီးမှ ထိုအဘိညာဉ်တန်ခိုးဖြင့် လူသာမန်တို့ မမြင်နိုင်သည့်အရာကို မြင်နိုင်ကြ၏။ မကြားနိုင်သည့်အရာကို ကြားနိုင်ကြ၏။ မသိနိုင်သည့်အရာကို သိနိုင်ကြ၏။

အဘိညာဉ်တန်ခိုးကို မဖန်တီးလျှင် အဘိညာဉ်မရသူ လူသာမန်တို့နှင့် အတူတူပင်ဖြစ်၍ မမြင်နိုင်၊ မကြားနိုင်၊ မသိနိုင်ကြပေ။

တန်ခိုးအရာ ဧတဒဂ်ရသည့် အရှင်မောဂ္ဂလာန် မထေရ်ကြီးပင် မာရ်နတ်ကြီး မိမိဝမ်းထဲသို့ဝင်ကာ အစာဟောင်းအိမ်ပေါ် ထိုင်နေသည်ကို ပကတိအနေဖြင့် ပထမတွင် မသိခဲ့ပေ။

'ဘာကြောင့် ငါ့ဗိုက် လေးလံနေပါသလဲ' ဟု အဘိညာဉ်ဖြင့် ဆင်ခြင်တော်မူမှ သေးငယ်သည့်ခန္ဓာကိုယ် ဖန်ဆင်းပြီး မာရ်နတ်ကြီး မိမိ၏ အစာဟောင်းအိမ်အထက်တွင် ငုတ်တုတ်ကလေး ထိုင်နေသည်ကို တွေ့သွား၏။ ဤသို့ အဘိညာဉ်တန်ခိုးရှင်များပင် ဆင်ခြင်မှသာ သိနိုင်ကြ၏။

ထို့အတူ နတ်တို့သည်လည်း ဆင်ခြင်မှသာ သိနိုင်ကြသည်။ ဤအကြောင်းကို သုတ်မဟာဝါ ပါဠိ၊ အဋ္ဌကထာလာ ဂေါပကနတ်သား ဝတ္ထုဖြင့် ထင်ရှားစွာ သိနိုင်၏။

ဘုရားရှင်လက်ထက်က ကပိလဝတ်ပြည်တွင် ရတနာသုံးပါး၌ ကြည်ညို၍ ငါးပါးသီလကို ခိုင်မြဲစွာစောင့်ထိန်းသည့် ဂေါပိကာခေါ်သော သာကီဝင်မင်းသမီးတစ်ဦး ရှိခဲ့၏။ သူမသည် မိန်းမဘဝကို ရွံရှာစက်ဆုပ်၍ ယောကျ်ားဖြစ်ကြောင်းကို ဖြည့်ကျင့်သည်။ ထို့ကြောင့် သူမ ကွယ်လွန်သောအခါ တာဝတိံသာနတ်ပြည်တွင် ဂေါပက ဟူသောအမည်ဖြင့် သိကြားမင်းကြီး၏ သားတော်နတ်သား သွားဖြစ်၏။

ဂေါပိကာ သာကီဝင်မင်းသမီးဘဝ၌ သူမအိမ်တွင် ဆွမ်းခံကိုယ်တော်သုံးပါး ရှိခဲ့သည်။

ထိုကိုယ်တော်သုံးပါးလုံး ဈာန်ရပုဂ္ဂိုလ်များ ဖြစ်ကြ၏။ မင်းသမီးသည် ထိုရဟန်းသုံးပါးတို့၏ အဆုံးအမအတိုင်း လိုက်နာခဲ့သောကြောင့် ဤကဲ့သို့ ဂေါပကနတ်သား လာဖြစ်ခြင်း ဖြစ်သည်။

ထိုရဟန်း သုံးပါးတို့မှာမူ အထက်နတ်ဘုံ၌ ဖြစ်စေ၊ ဈာန်ရ ပုဂ္ဂိုလ်မြတ်များဖြစ်၍ ဗြဟ္မာဘုံ၌ ဖြစ်စေ ဖြစ်နိုင်ကြသော်လည်း ကချေသည် (ဂန္ဓဗ္ဗ) နတ်မျိုးဖြစ်ခဲ့ရပေါင်း များလှ၍ ထိုကချေသည်နတ်ဘဝ၌ တွယ်တာ တပ်မက်သော ဘဝနိကန္တိ တဏှာလောဘ၏ အစွမ်းကြောင့် ကချေသည် (ဂန္ဓဗ္ဗ) နတ်အဖြစ် စတုမဟာရာဇ်ဘုံ၌ ဖြစ်ကြရသည်။

တစ်ချိန်တွင် စတုမဟာရာဇ်ဘုံမှ ကချေသည် (ဂန္ဓဗ္ဗ)နတ်တို့ တာဝတိံသာနတ်ပြည် သုဓမ္မာသဘင်သို့ ရောက်လာကြပြီး သိကြားမင်း ကြီးအား အတီးအမှုတ် အကအခုန်တို့ဖြင့် ခစားဖျော်ဖြေကြသည်။

ထိုကချေသည်နတ်တို့တွင် ပေါဂိကာ သာကီဝင်မင်းသမီးအိမ်၌ ဆွမ်းခံနေကြသည့် ရဟန်း (သမဏ) နတ်သားသုံးပါးလည်း ပါဝင်ကြ သည်။ လူ့ပြည်က ရုပ်သွင်နှင့် နတ်ရုပ်သွင်တို့ မတူကွဲပြားခြားနားမှုကြောင့် ဂေါပကနတ်သားသည် ထိုဂန္ဓဗ္ဗနတ်သားသုံးပါးတို့ကို တွေ့မြင်သော်ငြား လည်း မမှတ်မိ၊ မသိရှိချေ။

သို့သော် ထိုရဟန်းနတ်သားသုံးပါးတို့မှာ အခြားနတ်သားများ ထက် ပို၍ တင့်တယ်လှပနေကြသည်ကိုတော့ သတိပြုမိလေသည်။

ထို့ကြောင့် 'ဤကချေသည် နတ်သားတို့သည် အလွန်တင့်တယ် လှပကြတယ်၊ ဘယ်လို ကုသိုလ်ကံမျိုးကို ပြုလုပ်ခဲ့ကြပါသလဲ' ဟု ဆင်ခြင်သည့်အခါ ရှေးဘဝက ရဟန်းများ ဖြစ်ခဲ့ကြသည်ကို မြင်၏။

ထို့နောက် 'သီလ ဖြည့်ကျင့်ခဲ့သူများ ဖြစ်ရဲ့လား' ဟု ဆင်ခြင် သည့်အခါ သီလဖြည့်ကျင့်ခဲ့သူများ ဖြစ်ခဲ့၍ ဈာန်ရပုဂ္ဂိုလ်များအထိ ဖြစ်ခဲ့ သည်ဟု သိမြင်သည်။

ထိုဈာန်ရ ရဟန်းတော်များဟာ 'အဘယ်အရပ်မှာ သီတင်းသုံး ကြပါသလဲ' ဟု ဆက်လက် ဆင်ခြင်သည့်အခါ မိမိအိမ်၌ ဆွမ်းခံကြသည့် အိမ်ထိုင်ဆွမ်းခံကိုယ်တော်များ ဖြစ်နေသည်ကို သိမြင်လေသည်။

ထိုအခါ –

'သီလစင်ကြယ်တဲ့ပုဂ္ဂိုလ်တို့မည်သည် မိမိတို့ အလိုရှိတဲ့ အထက် နတ်ပြည်တွေမှာ ဖြစ်နိုင်ကြပါလျက် ဒီကိုယ်တော်တွေမှာတော့ အထက် နတ်ပြည်မှာလည်း မဖြစ်ကြ။





ဈာန်ရပုဂ္ဂိုလ်တွေဖြစ်လို့ ဗြဟ္မာ့ပြည်မှာ ဖြစ်နိုင်ပေမယ့် ဗြဟ္မာ့ပြည် မှာလည်း မဖြစ်ကြ၊ ဒီရဟန်းတွေရဲ့ အဆုံးအမ ဩဝါဒအတိုင်း လိုက်နာ ခဲ့တဲ့ ငါ့မှာတော့ တာဝတိံသာနတ်ပြည်မှာ သိကြားမင်းရဲ့သားတော် လာဖြစ်တယ်။ သူတို့မှာတော့ စတုမဟာရာဇ် နတ်ဘုံမှာ ယုတ်ညံ့တဲ့ဂန္ဓဗ္ဗ (ကချေသည်)နတ်မျိုး ဖြစ်ကြရတယ်။

ဒီနတ်သားတွေဟာ ထိုးဆွ ရိုက်နက်သလို ပြင်းပြင်းထန်ထန် ရှုတ်ချ ပြောကြားထိုက်တဲ့ ပုဂ္ဂိုလ်တွေဖြစ်တယ်' ဟု စဉ်းစားပြီး –

"အရှင်တို့၊ ကျွန်ုပ်မှာ မိန်းမသား ဖြစ်လျက်နဲ့ သိကြားမင်းရဲ့ သားတော် နတ်သား လာဖြစ်တယ်၊ အသင်တို့မှာတော့ သာသနာ့ဝန်ထမ်း ရဟန်းတွေ ဖြစ်လျက်နဲ့ ယုတ်ညံ့တဲ့ ဂန္ဓဗ္ဗနတ်မျိုးမှာ လာဖြစ်ကြတယ်။ ဘုရားရှင် တရားဟောတဲ့အခါ ဘယ်ဘက်ကိုများ စိတ်ရောက်နေကြပါ သလဲ။ ဟိုဟိုဒီဒီ ကြည့်နေကြသလား၊ အိပ်ငိုက်နေကြပါသလား၊ ကျွန်ုပ် အဖို့ မမြင်သင့် မမြင်ထိုက်တာကို လာမြင်နေရပါလား"

ဟု နာနာပြင်းပြင်း သတိပေးစကား ပြောကြားလိုက်သတဲ့။

ထိုဂေါပကနတ်သား၏ စကားကို ကြားကြသည့်အခါ ဂန္ဓဗ္ဗ နတ်သားတို့သည် –

'ကကြ၊ သိကြ၊ တီးမှုတ်ကြတဲ့ ကချေသည်တို့ဆိုတာ ဆုလာဘ် ကိုသာ ရထိုက်ကြပါတယ်။ အခုတော့ ဒီဂေါပကနတ်သားဟာ ငါတို့ကို တွေ့ချိန်ကစပြီး ဖိုခနောက်အတွင်း ပစ်သွင်းလိုက်တဲ့ သားပမာ တဖျစ်ဖျစ် အပြစ်တင်စကားကိုသာ ပြောကြားနေတယ်။ ဘယ်လိုသဘောပါလိမ့်'

ဟု ဆင်ခြင်ကြသတဲ့။

ထိုအခါ ရှေးဘဝက ရဟန်းများ ဖြစ်ခဲ့ကြပုံ၊ သီလစင်ကြယ်ခဲ့ပုံ၊ ဈာန်ရပုဂ္ဂိုလ်များ ဖြစ်ခဲ့ကြပုံ၊ ယခု ဂေါပကနတ်သားလောင်း ဂေါပိကာ သာကီဝင်မင်းသမီးအိမ်၌ ဆွမ်းခံကိုယ်တော်များ ဖြစ်ခဲ့ကြပုံတို့ကို အစုံ အလင် သိမြင်ကြ၍ –

'သီလစင်ကြယ်သူများဟာ မိမိတို့ နှစ်သက်ရာ နတ်ပြည်၌ ဖြစ်နိုင်ကြတယ်။ ဈာန်ရပုဂ္ဂိုလ်တွေဖြစ်လို့ ဗြဟ္မာ့ပြည်၌ပင် ဖြစ်နိုင်ကြ တယ်။ ငါတို့ကတော့ ဒီလို မဖြစ်ကြ၊ ငါတို့ရဲ့ အဆုံးအမတိုင်း လိုက်နာတဲ့

ဒီမိန်းမငယ်ကတော့ အထက်နတ်ပြည်မှာ ဖြစ်ရတယ်။ ဒါကြောင့် ငါတို့ကို ဒီဂေါပကနတ်သား နှိပ်ကွပ်စကား ပြောကြားတာပဲ'

ဟု စဉ်းစားမိကြသည်။

ထိုခဏ၌ပင် နတ်သားသုံးယောက်အနက် နတ်သားနှစ်ယောက်တို့သည် ပထမဈာန်ကို ရရှိကြ၍ ထိုဈာန်ကို အခြေပါဒက ပြုကြကာ ရုပ်နာမ်ဓမ္မ သင်္ခါရတို့ကို အနိစ္စ၊ ဒုက္ခ၊ အနတ္တဟု ဆင်ခြင်သုံးသပ်ကြသဖြင့် အနာဂါမ် အရိယာများ ဖြစ်သွားကြ၏။

ထိုခဏ၌ပင် ကချေသည် နတ်ခန္ဓာသည် အနာဂါမ်ဖိုလ်ဟူသော လောကုတ္တရာဂုဏ်ကို ဆောင်ထားခြင်းငှာ မစွမ်းနိုင်သဖြင့် နတ်သက်ကြွေစုတေ၍ ဗြဟ္မပုရောဟိတ ဗြဟ္မာ့ဘုံ၌ ဗြဟ္မာများ သွားဖြစ်ကြ၏။

ကျန်ကချေသည်နတ်သားကမူ နတ်ဘဝ၌ တွယ်တာတပ်မက်မှုကို မပယ်ဖြတ်နိုင်သည့်အတွက် ကချေသည် နတ်ဘဝ၌ပင် ကျန်ရစ်သည်ဟု သုတ်မဟာဝါအဋ္ဌကထာ၊ သက္ကပဉှသုတ်၌ ဖွင့်ဆိုထား၏။

ဤဝတ္ထုလာ မှတ်သားစရာတို့မှာ –

နတ်တို့သည် ပြန်လည် ဆင်ခြင်မှ တစ်ဦးကိုတစ်ဦး သိကြောင်း၊

မိန်းမဘဝကို စက်ဆုပ်ရွံရှာ၍ ငါးပါးသီလနှင့် ပြည့်စုံပါက ယောကျ်ား ဖြစ်နိုင်ကြောင်း၊

ဈာန်ရပုဂ္ဂိုလ်များ ဖြစ်စေကာမူ မကွယ်လွန်မီ ဈာန်လျှောကျသွားပါက ဗြဟ္မာ့ဘုံ၌ မဖြစ်နိုင်ကြောင်း၊

သီလစင်ကြယ်သူများဖြစ်၍ မိမိလိုရာ အထက်နတ်ပြည်၌ ဖြစ်နိုင်စေကာမူ ရှေးက တင်ပြခဲ့သော ဇနဝသဘ နတ်စစ်သူကြီးကဲ့သို့ အကြိမ်များစွာ ဖြစ်ခဲ့ဖူးသော ဂန္ဓဗ္ဗနတ်မျိုး၌ စွဲလမ်းတပ်မက်သည့် နိကန္တိကြောင့် ယုတ်နိမ့်သောနတ်မျိုး၌ ဖြစ်ရကြောင်း၊

ရှေးက ပါရမီရင့်ကျက်လာသူဖြစ်ပါက နတ်ဘဝတွင် သတိရလျှင်ရချင်း မိမိ ရရှိထားသည့်ဈာန်ကို ခဏချက်ချင်း ပြန်လည်ရရှိနိုင်ကြောင်း၊

ဝိပဿနာတရားကို ပြန်လည် အားထုတ်နိုင်ပြီး မဂ်ဖိုလ်တရားထူးများကို ရနိုင်ကြောင်း၊





အနာဂါမ်ပုဂ္ဂိုလ် ဖြစ်သည်နှင့် တစ်ပြိုင်နက် နတ်ပြည်တွင် မနေနိုင်တော့ဘဲ စုတေ၍ ရသည့်ဈာန်အလိုက် ထိုက်သည့် ဗြဟ္မာ့ဘုံ၌ ဗြဟ္မာဖြစ်ရကြောင်းတို့ သိသာထင်ရှားပေသည်။

ဤသည်တို့မှာ ဤဝတ္ထု၌ မှတ်သားစရာအချက်များ ဖြစ်သည်။

❒

## နတ်အစည်းအဝေးကြီးကျင်းပ၍ ကောင်းမှုစာရင်းကောက်ယူခြင်း

စတုမဟာရာဇ်နတ်ဘုံနှင့် တာဝတိံသာနတ်ဘုံရှိ နတ်တို့သည် အကြောင်းကိစ္စ လေးမျိုးကြောင့် သုဓမ္မာ ဓမ္မာရုံကြီး၌ နတ်သဘင် အစည်းအဝေးကြီးကို ကျင်းပပြုလုပ်လေ့ ရှိကြ၏။

ထိုကိစ္စကြီးများမှာ –

(၁) ဝါဆို ဝါကပ်ပြုကြသည့် ရဟန်းတို့အား ရဟန်းတရားကို ချမ်းသာစွာ အားထုတ်နိုင်ရန် ဝါဆိုသည့်နေ့မှ စတင်၍ စောင့်ရှောက်ပေးရေးကိစ္စ၊

(၂) ပဝါရဏာပြုပြီး၍ ဘုရားဖူးသွားကြသော ရဟန်းတို့အား လမ်းခရီးအကြား၌ ဘေးအန္တရာယ် မဖြစ်ပွားစေရန် စောင့်ရှောက်ပေးရေးကိစ္စ၊

(၃) မိမိတို့ ကိုယ်တိုင် တရားနာသွားရန်ကိစ္စ (သို့မဟုတ်) ဘုရားရှင်ထံ တရားနာသွားကြသော ရဟန်းများ လမ်းခရီးအကြား၌ ဘေးမဖြစ်ပွားအောင် စောင့်ရှောက်ရေးကိစ္စ၊

(၄) ပင်လယ်ကသစ်ပင်အောက်၌ မြူးထူးပျော်ပါး ကစားရန်ကိစ္စတို့ ဖြစ်သည်ဟု သုတ်မဟာဝါ အဋ္ဌကထာ၊ ဋီကာတို့၌ ဖွင့်ဆိုထား၏။

ထိုလေးမျိုးအနက် မိမိတို့ကိုယ်တိုင် တရားနာရန်ကိစ္စအတွက် တစ်လလျှင် ရှစ်ကြိမ်တိုင်တိုင် နတ်သဘင်အစည်းအဝေးကျင်းပ၏ (ဝါ) တရားပွဲကျင်းပ၏။





လဆန်းပိုင်းတွင် ၅ ရက်မြောက်၌ တစ်ကြိမ်၊ ၈ ရက်မြောက်၌ တစ်ကြိမ်၊ တစ်ဆယ့်လေးရက်မြောက်၌ တစ်ကြိမ်၊ ၁၅ ရက်မြောက် လပြည့်နေ့၌ တစ်ကြိမ်အားဖြင့် လစဉ် ၈ ရက်၊ ၁၄ ရက်၊ ၁၅ ရက်နေ့တို့သို့ ရောက်တိုင်း ရောက်တိုင်း တာဝန်ကျနတ်များက ရွှေပေနှင့် ဟင်္သာပြဒါး တို့ကိုယူကာ လူ့ပြည်တွင် နေရာအနှံ့အပြား လှည့်လည်၍ ကောင်းမှုစာရင်း ကောက်ယူလေ့ ရှိကြသည်။

ထို အမျိုးသမီး၊ အမျိုးသားသည် သရဏဂုံသုံးပါးတည်၏။ ငါးပါးသီလမြဲ၏။ ဥပုသ်သီတင်းစောင့်သုံး၏။ မိဘနှစ်ပါးကို လုပ်ကျွေးပြုစု၏။ ဆီမီးတစ်ထောင် ပူဇော်၏။ ကုသိုလ်ကမ္မပထတရားဆယ်ပါးကို ဆောက်တည်၏။

စသည်ဖြင့် ရွှေပေတွင် ဟင်္သာပြဒါးဖြင့် ရေးကာ ပဉ္စသိခ နတ်သားလက်သို့ ပေးအပ်ကြသည်။ ပဉ္စသိခ နတ်သားထံမှ မာတလိ နတ်သားက ယူဆောင်ပြီး သိကြားမင်းထံ ပေးဆက်ရသည်။

ကောင်းမှုစာရင်းကောက်ယူရန် ကာဝန်ထမ်းဆောင်ရသော နတ်တို့ကား ၈ ရက်နေ့တွင် စာတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့၏ အမတ်ကြီးများ တာဝန်ယူ၍ ၁၄ ရက်နေ့တွင် နတ်မင်းကြီးတို့၏ သားတော်များနှင့် ၁၅ ရက်နေ့တွင် စတုမဟာရာဇ်နတ်မင်းကြီးလေးပါးကိုယ်တိုင် ကောက်ယူပေသည်။

ရွှေပေရွက်ငယ်လျှင် 'ကောင်းမှုပြုသူတို့ နည်းနေကြပါကလား' ဟု နတ်တို့ ဝမ်းနည်းကြသကဲ့သို့ ရွှေပေရွက်ကြီးသည့်အခါ 'နတ်ပြည်ကို နတ်သားသစ်တွေ လာတော့မယ်။ တန်ခိုးကြီးတဲ့ နတ်သားသစ်တွေကို ထိပ်ကတင်ပြီး နက္ခတ်ပွဲသဘင် ဆင်ယင် ကျင်းပရတော့မယ်'

ဟု ဝမ်းမြောက်ဝမ်းသာဖြစ်ကြသတဲ့။

ထိုကောင်းမှုစာရင်းကို သိကြားမင်းကိုယ်တိုင် ဖတ်ကြားရသည်။ သိကြားမင်း ဖတ်ကြားသောအသံသည် ပကတိအားဖြင့် ပတ်ဝန်းကျင် တစ်ဆယ့်နှစ်ယူဇနာ ကြားရ၏။ အသံကျယ်ဖြင့် ဖတ်ကြားလျှင် ယူဇနာ တစ်သောင်းကျယ်သော နတ်မြို့တော်ကြီးတစ်မြို့လုံး ကြားကြရသည်။ ထိုသို့ ဖတ်ကြားပြီးမှ တရားနာယူလေ့ရှိကြသည်ဟု ကျမ်းဂန်၌ ဆိုသည်။

## နတ်တို့ စုတေခြင်းအကြောင်းလေးမျိုး

နတ်ပြည်တစ်ထပ်တည်းရှိ နတ်များပင် နတ်အချင်းချင်း မတူညီကြပေ။ မိမိတို့ ရှေးအတိတ်ကံ အားလျော်စွာ အချို့က တန်ခိုးကြီး၍ အချို့က တန်ခိုးငယ်ကြသည်။

ဤအချက်သည် ရှေ့တွင် တင်ပြခဲ့သော ဣန္ဒက နတ်သားနှင့် အင်္ကုရ နတ်သားဝတ္ထုဖြင့် ထင်ရှားသိသာ၏။ တန်ခိုးကြီးသောနတ်တို့သည် တန်ခိုးငယ်သောနတ်များထက် နတ်၌ဖြစ်သော အသက်ရှည်ခြင်း၊ အဆင်းလှခြင်း၊ ချမ်းသာကြီးခြင်း၊ အခြံအရံများခြင်း၊ အစိုးရခြင်းများနှင့် နတ်၌ဖြစ်သော အဆင်းအာရုံ၊ အသံအာရုံ၊ အနံ့အာရုံ၊ အရသာအာရုံ၊ အတွေ့အထိအာရုံ ဟူသော ဆယ်ပါးသော အရာဌာနတို့၌ သာလွန်ကြသည်ဟု ဣတိဝုတ်အဋ္ဌကထာ၌ မိန့်ဆိုထားသည်။

ထို နတ်ဘုံခြောက်ထပ်ရှိ နတ်တို့ အားလုံး စုတေပျက်ကြွေသေလွန်ကြခြင်းသည် –

(၁) သက်တမ်းကုန်၍ သေခြင်း

(၂) ကံကုန်၍ သေခြင်း

(၃) အာဟာရကုန်၍ သေခြင်း

(၄) အမျက်ထွက်၍ သေခြင်း

ဟူ၍ လေးမျိုးရှိသည်။

ထိုတွင် နတ်တို့သည် ဒါန၊ သီလ စသော ကောင်းမှုကုသိုလ်များ အလွန်များခဲ့သောကြောင့် ဖြစ်ရာနတ်ဘုံ၌ သက်တမ်းပြည့် အသက်ရှည်ကြ၏။ သက်တမ်းပြည့်၍ စုတေသောအခါ၌လည်း အထက်နတ်ဘုံ၌ ဖြစ်ကြရသည်။ ထိုနတ်တို့၏ စုတေခြင်းကား သက်တမ်းကုန်၍ စုတေခြင်း ဖြစ်သည်။

အချို့ နတ်တို့မှာ နတ်ဖြစ်ဖို့ ကုသိုလ်ကံလောက်သာရှိ၍ အသက်ရှည်ဖို့ ကုသိုလ်ကံ အလွန်နည်း၏။ ထိုနတ်တို့သည် မိမိတို့ဖြစ်ရာ နတ်ဘုံတို့၌ သက်တမ်းပြည့် မရောက်မီ ကံကုန်သွားကြသဖြင့် ကြားကာလ၌ပင် စုတေကြရ၏။ ထိုနတ်တို့၏ စုတေခြင်းသည် ကံကုန်၍ စုတေခြင်း ဖြစ်သည်။





အချို့ နတ်တို့သည် နတ်စည်းစိမ်များကို အားရပါးရ ခံစားနေကြသည့်အတွက် အစာအာဟာရစားချိန်ကို သတိမေ့သွားပြီး မစားမိဘဲ ဖြစ်သွားသည်။ ထိုအခါ အလွန် အားကောင်းလှသည့် နတ်တို့၏ ပါစကတေဇော ခေါ် ဝမ်းမီးက နူးညံ့လှသည့် နတ်တို့၏ခန္ဓာကိုယ်ကို လောင်ကျွမ်းရာ နတ်တို့ ပင်ပန်းနွမ်းနယ်ပြီး စုတေကြရရှာ၏။ ထိုနတ်တို့၏ စုတေခြင်းကို အာဟာရကုန်၍ သေခြင်းဟုခေါ်၏။

(ထိုနတ်မျိုးကို ခိဍ္ဍာပဒေါသိက=အပျော်ကြူး၍ ပျက်စီးရတဲ့နတ် ခေါ်သည်ဟု ဖော်ပြခဲ့ပြီ)

အချို့ နတ်တို့ကား မိမိထက် နတ်စည်းစိမ်ချမ်းသာ သာလွန်ကြသည့်နတ်တို့ကို တွေ့ရသည့်အခါ ငြူစူခြင်း ဣဿာတရားနှိပ်စက်သဖြင့် အမျက်ထွက်တတ်ကြလေရာ ထိုနတ်တို့၏ ဒေါသမီးက သိမ်မွေ့နူးညံ့လှသည့် နတ်ခန္ဓာကိုယ်ကို လောင်ကျွမ်းသဖြင့် စုတေကြရသည်။

ထိုနတ်တို့၏ စုတေခြင်းသည် အမျက်ဒေါသထွက်၍ သေခြင်း ဖြစ်သည်။ ထိုနတ်မျိုးကို မနောပဒေါသိက (ဒေါသစိတ်ကြောင့် ပျက်စီးရသော) နတ်ခေါ်ကြောင်း ရှေ့တွင် ဝတ္ထုသာကေဖြင့် တင်ပြခဲ့ပေပြီ။

## စုတေခါနီး ပုဗ္ဗနိမိတ်ငါးမျိုးထင်ပုံ

နတ်များ စုတေပျက်ကြွေ သေလွန်ခါနီး အချိန်သို့ရောက်လျှင် ရှေ့ပြေးနိမိတ်အနေဖြင့် ပုဗ္ဗနိမိတ်ငါးမျိုး ထင်လာလေ့ ရှိကြသည်။

ထိုငါးမျိုးမှာ –

(၁) နတ်ပန်းများ ညှိုးနွမ်းခြင်း၊

(၂) နတ်ဝတ်တန်ဆာများ ညစ်နွမ်းခြင်း၊

(၃) လက်ကတီးကြား (ချိုင်းကြား)တို့မှာ ချွေးယိုကျခြင်း၊

(၄) ရုပ်ရည်အဆင်း ဖောက်ပြန်ခြင်း၊

(၅) နတ်ဘုံဗိမာန်၌ မမွေ့မပျော်ပိုက်ခြင်းတို့ ဖြစ်သည်။

ထိုတွင် နတ်ပန်းများ ညှိုးနွမ်းခြင်း ဆိုသည်မှာ နတ်ဖြစ်သောနေ့၌ နတ်တို့၌ အဆင်တန်ဆာတစ်ခုအဖြစ်ဖြင့် ဦးခေါင်းတွင် ပါလာသော နတ်ပန်းတို့ ညှိုးနွမ်းခြင်းပင် ဖြစ်သည်။

မှန်၏။ ထိုနတ်ပန်းတို့သည် နတ်ဘဝကို ရသည်နှင့်တစ်ပြိုင်နက် နတ်တို့၏ကိုယ်၌ အသင့်ဖြစ်ပေါ် ပါရှိလာကြသဖြင့် နတ်တို့သက်တမ်းတစ်လျှောက်လုံး၊ နတ်တစ်ဘဝလုံးတွင် မည်သည့်အချိန်မှာမျှ ညှိုးနွမ်းခြင်း မရှိခဲ့ချေ။ အစဉ်အမြဲ လန်းဆန်း လတ်ဆတ်ခဲ့သည်။

သို့ရာတွင် နတ်ဘဝမှ စုတေတော့မည်ဆိုလျှင် လူတို့ရက် အရေအတွက်အားဖြင့် ခုနစ်ရက်အလိုတွင် ကြိုတင်၍ ရှေ့ပြေးနိမိတ်အဖြစ် ထိုနတ်ပန်းများ ညှိုးနွမ်းလာတော့သည်။

နတ်ဝတ်တန်ဆာများ ညစ်နွမ်းခြင်းမှာ နတ်ပန်းညှိုးနွမ်းသကဲ့သို့ပင် နတ်သက်တမ်းတစ်လျှောက်လုံး၊ နတ်တစ်ဘဝလုံးတွင် အမြဲတမ်းသစ်လွင်တောက်ပနေခဲ့သော နတ်ဝတ်တန်ဆာများမှာ စုတေခါနီး လူတို့ရက်အားဖြင့် ခုနစ်ရက်အလိုတွင် ထူးထူးခြားခြား ညှိုးနွမ်းလာကြခြင်း ဖြစ်သည်။

နတ်ပြည်တွင် လူ့ပြည်မှာကဲ့သို့ မလိုလားအပ်သည့် ပူအိုက်လွန်းခြင်း၊ ချမ်းအေးလွန်းခြင်း အလျှင်းမရှိ။ ပကတိ သဘာဝအတိုင်း ရာသီဥတု အလွန်ကောင်း၏။ လူ့ပြည်ကဲ့သို့ ပူတစ်ခါ အေးတစ်လှည့် စသည်ဖြင့် ရာသီဥတု ဖောက်ပြန်ခြင်းမျိုး မရှိ။

ထို့ကြောင့် နတ်တို့ ကိုယ်အင်္ဂါအစိတ်အပိုင်းမှ ချွေးထွက်ရိုး ထုံးစံမရှိပေ။ သို့သော် စုတေခါနီး ခုနစ်ရက်အလို၌မူ နတ်တို့၏ ကိုယ်အင်္ဂါအစိတ်အပိုင်းမှ အထူးသဖြင့် လက်ကတီးကြား ခေါ် ချိုင်းကြားမှ ချွေးသီးချွေးပေါက်များ ယိုစီးကျဆင်းလာတတ်ကြသည်။

ရုပ်အဆင်းဖောက်ပြန်ခြင်း ဆိုသည်မှာ နတ်သက်လျှောကြွေ စုတေခါနီး အချိန်တွင် နတ်တို့၏ ခန္ဓာကိုယ်မှ သွေ့ခြောက်ညစ်နွမ်းလျက် ပင်ပန်းညှိုးလျှသောအားဖြင့် ရုပ်ရည်ညစ်နွမ်းဖောက်ပြန်လာခြင်း ဖြစ်၏။

ချဲ့ဦးအံ့။

နတ်တို့မည်သည် နတ်ဖြစ်သည်နှင့်တစ်ပြိုင်နက် နတ်သမီးတို့မှာ အသက် ၁၆ နှစ်ရွယ်၊ နတ်သားတို့မှာ အသက် ၂၀ အရွယ် အမြဲတည်ရှိကြ၍ နတ်သက်တမ်းတစ်လျှောက်လုံး သွားကျိုးဆံဖြူ၊ နားအူ မျက်မွဲ၊ အရေတွန့်ခြင်းမရှိ ပကတိအလှမပျက်ဘဲ တစ်သက်လုံး နုပျိုလျက်ရှိကြ၏။





ဤသို့ နတ်သား၊ နတ်သမီးတို့မှာ ကြီးစွာသော ကုသိုလ်ကောင်းမှုကြောင့် ရှုချင်စဖွယ် ပျိုမျစ်နုနယ်၍ တလက်လက်တဝင်းဝင်း ကိုယ်အဆင်းအရောင် တောက်ပြောင် လှပနေကြသော်ငြားလည်း စုတေပျက်ကြွေသေလွန်ရန် ခုနစ်ရက်အလို၌မူ ခြောက်သွေ့ညစ်နွမ်း ပင်ပန်းညှိုးလျှသောအားဖြင့် ရုပ်ရည်အဆင်း ဖောက်ပြန်ခြင်း ဖြစ်လာရသည်။

မိမိနေရာ ဘုံဗိမာန်၌ မမွေ့မလျော် မပျော်ပိုက်ခြင်း ဆိုသည်မှာ အရိယာနတ်တို့မှတစ်ပါး များစွာသော ပုထုဇဉ်နတ်တို့သည် မိမိတို့ကံကြောင့် အလိုအလျောက် ပေါ်ပေါက်လာသည့် နတ်စည်းစိမ် ကာမဂုဏ်ရေလျှဉ်ကြောတွင် နစ်မျောချင်တိုင်း နစ်မျောနေကြသည်။

ထို့ကြောင့် နတ်သက်တမ်းတစ်လျှောက်လုံး မိမိတို့ ဘုံဗိမာန်ကြီးတွင် အလွန်မွေ့လျော် ပျော်ပိုက်နေကြသည်။ ပျင်းရိသည်ကိုပင် နားမလည်ကြပေ။ သို့သော် နတ်တို့ စုတေခါနီး၌မူ ထိုဘုံဗိမာန်ကြီး၌ ဆက်၍ နေလိုစိတ်၊ ပျော်မွေ့လိုစိတ် နည်းပါးလာ၏။

ဤသည်တို့ကား နတ်တို့ စုတေခါနီးတွင် ဖြစ်ပေါ်လာလေ့ရှိသော ပုဗ္ဗနိမိတ်ငါးမျိုး ဖြစ်သည်။

**နတ်တိုင်း ပုဗ္ဗနိမိတ်မထင်ခြင်း**

သို့သော် နတ်တိုင်းကို ပုဗ္ဗနိမိတ်ငါးမျိုး ထင်လာရိုး မရှိပါချေ။ လူ့ပြည်လောက၌ ဘုန်းကံကြီးမားကြသော မင်း၊ မှူးမတ် စသည်တို့သာလျှင် ကွယ်လွန် သေဆုံးခါနီး၌ ဥက္ကာကျခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လ,နေကြတ်ခြင်း စသောနိမိတ်များ ဖြစ်ပေါ်လေ့ ရှိသကဲ့သို့ နတ်ပြည်တို့၌လည်း ဘုန်းတန်ခိုး ကြီးမားသော နတ်သား၊ နတ်သမီးတို့သာ ဤဆိုခဲ့ပြီးသော ပုဗ္ဗနိမိတ်ငါးမျိုး ဖြစ်ပေါ်လေ့ ရှိကြသည်။ ဘုန်းတန်ခိုးငယ်သောနတ်တို့၌ကား ဤသို့ နိမိတ်ငါးမျိုး ဖြစ်ပေါ်လေ့ မရှိကြဟု ဆို၏။

လူ့ပြည်၌ ဖြစ်ပေါ်လာသော အတိတ်နိမိတ်တို့၏ အကျိုးအပြစ်များကို နိမိတ်ဖတ်ဆရာ ပညာရှင်များသာ သိနိုင်ကြသကဲ့သို့ နတ်တို့၌ ဖြစ်ပေါ်လာသော ပုဗ္ဗနိမိတ်ငါးမျိုး၏ အကျိုးအပြစ်များကို ပညာရှိနတ်တို့သာ သိကြ၏။

ဘုန်းကံနည်းပါးသော နတ်တို့သည် မိမိတို့ စုတေလျှင် ဘယ်ဘုံမှာဖြစ်မည်ဟု မသိကြသောကြောင့် ပုဗ္ဗနိမိတ်များ ထင်လာသည့်အခါ ပြင်းထန်စွာ ကြောက်ရွံ့တုန်လှုပ်ကြ၏။

ကုသိုလ်ကံအား ကြီးမားကြသည့် နတ်တို့မှာကား 'ငါတို့သည် များစွာသော အလှူကိုလည်း ပေးလှူခဲ့ကြပြီ။ သီလကိုလည်း ဆောက်တည်ခဲ့ကြပြီ။ ဘာဝနာကိုလည်း ပွားများဆည်းပူးခဲ့ပြီ။ ဤနတ်ဘဝမှ စုတေလျှင် အထက်နတ်ပြည်လောကသို့ ရောက်ကြမည်' ဟု ဆင်ခြင်ကာ ကြောက်ရွံ့တုန်လှုပ်ခြင်း အလျှင်းမရှိကြချေ။

## နတ်တို့စုတေခါနီး မှာကြားလေ့ရှိပုံ

နတ်တို့ စုတေခါနီးတွင် အချို့ ပညာရှိနတ်သားက မှာကြားလေ့ရှိသည်ကိုလည်း အပါဒါန်ပါဠိတော်၌ ဤသို့ တွေ့ရသေး၏။

"အို-မိတ်ဆွေ၊ သင် စုတေသည့်အခါ လူ့ဘုံဆိုသည့် သုဂတိဘုံသို့ သွားပါလေ။ လူဖြစ်တဲ့အခါ သူတော်ကောင်းတရားတွင် အမြတ်ဆုံးဖြစ်တဲ့ သဒ္ဓါတရားကို ရအောင် ကြိုးစားပါလေ။ သင့်သန္တာန်၌ ထိုသဒ္ဓါတရားကို တည်တံ့ခိုင်မြဲ အမြစ်စွဲအောင် အခြေစိုက်၍ သူတော်ကောင်းတရား၌ မပျက်မကွက် အသက်ထက်ဆုံး တည်အောင် ကြိုးစားပါ။ ကာယကံကုသိုလ်၊ ဝစီကံကုသိုလ်၊ မနောကံကုသိုလ်တို့ကိုပြု၍ နတ်ပြည်သို့ အကြိမ်ကြိမ် အဖန်ဖန် ပြန်လာခဲ့ပါ"

ဟု မှာကြားလေ့ရှိသည်ဟု ဟောကြားတော်မူထားပေသည်။

## စုတေလျှင် ခန္ဓာကိုယ် မကျန်ရစ်ခဲ့ခြင်း

နတ်တို့ နတ်သက်ကြွေ၍ စုတေကြသည့်အခါ နတ်တို့၏ခန္ဓာကိုယ် အတ္တဘောကြီးကို လူသားများကဲ့သို့ သယ်ယူပို့ဆောင်သဂြိုဟ်ရန် မလိုပါချေ။

အဘယ်ကြောင့်ဆိုသော် နတ်တို့ စုတေသည့်အခါတွင် လူသားတို့ကဲ့သို့ ခန္ဓာကိုယ် အလောင်းကောင်ကြီး မကျန်ရစ်တော့ဘဲ မီးတောက်ပမာ အကြွင်းမရှိ ငြိမ်းပျောက်သွားကြသောကြောင့် ဖြစ်ပါသည်။





အတန်ငယ် ချဲ့ဦးအံ့။

အမိဝမ်းခေါင်း ကိန်းအောင်းသန္ဓေ တည်နေကြသော လူ စသည့် သတ္တဝါတို့မှာ စုတေ သေလွန်ကြသောအခါ ရုပ်လေးမျိုးတွင် ရှေးဦးစွာ ကမ္မဇရုပ်သည် စုတိစိတ်နှင့် ပြိုင်တူချုပ်၏။

ကမ္မဇရုပ်ချုပ်ပြီး စိတ်သက် စိတ္တက္ခဏကြီး ၁၇ ချက်ကြာအချိန်တွင် စိတ်ကြောင့်ဖြစ်သော စိတ္တဇရုပ်များ ချုပ်၏။

အာဟာရကြောင့်ဖြစ်သော ရုပ်များမှာလည်း ပြင်ပမှ အစာအာဟာရ အထောက်အပံ့ မရတော့သဖြင့် အချိန်အနည်းငယ် အတွင်းမှာပင် ချုပ်ငြိမ်းပျောက်ကြ၏။

ဥတုကြောင့်ဖြစ်သော ဥတုဇရုပ်များမှာမူ တေဇောဓာတ်တည်းဟူသော ဥတုကြောင့် ကာလကြာရှည်စွာ ဆက်လက် ဖြစ်ပေါ်နေလေသည်။

ထိုဥတုဇရုပ်များ၊ ရုပ်ခန္ဓာများ ဆက်လက် ဖြစ်ပေါ်နေသေးသောကြောင့် ရုပ်ခန္ဓာကြီး ကျန်ရစ်ခြင်း ဖြစ်သည်။

ထို့ကြောင့် လူသေအလောင်းကို ဥတုဇရုပ်ကလာပ်ဟု ခေါ်ကြခြင်း ဖြစ်၏။

နတ်တို့မှာကား ဤကဲ့သို့ မဟုတ်ပါချေ။

တစ်ပြိုင်နက်တည်း ၁၆ နှစ်အရွယ်၊ ၂၀ နှစ်အရွယ် ရုပ်ခန္ဓာကြီး ဘွားခနဲ ပေါ်လာကြသော ဥပပါတ်ပဋိသန္ဓေတည်နေကြသည့် သတ္တဝါမျိုးဖြစ်သောကြောင့် ကံကြောင့်ဖြစ်သော ကမ္မဇရုပ်များ ချုပ်ငြိမ်းသည်နှင့် တစ်ပြိုင်နက် စိတ်ကြောင့်ဖြစ်သော စိတ္တဇရုပ်၊ အာဟာရကြောင့်ဖြစ်သော အာဟာရရုပ်၊ ဥတုကြောင့်ဖြစ်သော ဥတုဇရုပ် သုံးမျိုးလုံး ကမ္မဇရုပ်နှင့် တစ်ပါတည်း ချုပ်ပျောက်ကြလေတော့၏။

ထို့ကြောင့် နတ်များ စုတေသောအခါ လူသတ္တဝါ စသည်တို့ကဲ့သို့ ဥတုဇရုပ် ခန္ဓာကိုယ်ကြီး မကျန်ရစ်တော့ဘဲ စုတေကြသည့်နေရာမှာပင် ဆီမီးတောက် ငြိမ်းပျောက်သကဲ့သို့ အကြွင်းမဲ့ ချုပ်ငြိမ်းပျောက်ကွယ်သွားကြခြင်း ဖြစ်သည်ဟု ကျမ်းဂန်များ၌ ဆို၏။

ဤအကြောင်းအရာနှင့်ပတ်သက်၍ –

'နတ်ပြဟ္မာ စုတေက လူ့ပြကတေ့ သမုဒ္ဒါန်လို
ရုပ်ကျန်ခဲ့လေသလား။
ရုပ်ကျန်လျှင် ဘယ်နည်း ဘယ်ပုံ ဆင်လိမ့်၊
မြေရေတွင် ချကာမြှုပ်၊
မီးဖုတ်သလား'

ဟု မန်လည် ဆရာတော်ကြီးက မေးတော်မူသည်ကို –

'နတ်ပြဟ္မာ စုတေက၊ လူ့ပြကတေ့ သမုဒ္ဒါန်လို၊
ရုပ်မကျန်လေဘဲ။
မြေမီးတွင်မြှုပ် ဖုတ်ကင် ဘယ်မှာ ရပါ့မယ်၊
မီးလျှံငြိမ်းချုပ်ဟန် ပုံတူမျှတယ်၊ ကင်းချုပ်ကြမြဲ'

ဟု မင်းကွန်းတောရ ဆရာတော်ဘုရားကြီးက ဖြေကြားတော်မူသည်။

## စုတေလျှင် လူ့ဘုံ၊ နတ်ဘုံတို့၌ အဖြစ်နည်းပုံ

နတ်တို့ဘုံကား ကာမဂုဏ်အာရုံ အလွန်စုံလင်ပေါများလှသည်။ လူ့လောကထက် အဆပေါင်းများစွာ သာလွန်သော အထက်တန်းစား ကာမဂုဏ်တရားအာရုံငါးပါးတို့ ဖြစ်၏။ ကြီးကျယ်ခမ်းနားလှသည့် ဥယျာဉ်ရေကန်၊ နတ်ဗိမာန်တို့ကား အလွန် နှစ်လိုဖွယ်ရာ၊ ပျော်မွေ့ဖွယ်ရာကောင်းသည့် ဝတ္ထုအာရုံ ကာမဂုဏ်များတည်း။ နတ်သား၊ နတ်သမီးတို့မှာ ထာဝစဉ်ပျိုမျစ်နုနယ် တင့်တယ်လှပ ရှုမဝနိုင်သည့် ၁၆ နှစ်အရွယ် နတ်မယ်ပျိုများနှင့် ၂၀ နှစ်အရွယ် နတ်သားပျိုတို့ချည်း ဖြစ်ကြ၏။

ဤသို့ ခံစားစံစားရာ အထက်တန်းစား ဝတ္ထုအာရုံ ကာမဂုဏ်တို့ကလည်းစုံ၊ ခံစားဖို့ အချိန်ကလည်း အပြည့်အဝ ရှိကြရကား နတ်သား၊ နတ်သမီး အားလုံးလိုလို ကာမဂုဏ်အာရုံရေလျှဉ်တွင် နစ်မျောချင်တိုင်း နစ်မျော၍ နေကြလေသည်။

ထိုသို့ နစ်မျောနေကြသဖြင့် အစာစားချိန်ကို သတိမရကြသောကြောင့် စုတေကြရသည့် နတ်သား၊ နတ်သမီးတို့မှာ အများအပြားပင် ရှိလေသည်။





'ရွှေဘုံညီးညီး၊ အသီးသီးလည်း၊ ငယ်ကြီးများစွာ၊ ပျော်ဖွယ်ရာချည်း၊ အာလမ္ဗရ၊ မုဒိင်္ဂနှင့်၊ လက်မမုရိုး၊ စည်မျိုးခြောက်သောင်း၊ တညောင်းညောင်းဖြင့်၊ အပေါင်းရွှေညီ၊ ဘုံကိုယ်စီဝယ်၊ ကျူးသီခန်က၊ ရှင်ကြမပြီး၊ ပျော်မငြီးတည့်၊ နတ်တီးနတ်ငြိမ့်၊ တငြိမ့်ငြိမ့်နှင့်၊ သိမ့်သိမ့်သဲသဲ၊ နာမရဲအောင်၊ နတ်ပွဲသဘင်၊ အမြဲရွှင်၏။ ယတင်ဦးလုံး၊ စိန်တုံးစိန်ခက်၊ တလက်လက်ဖြင့်၊ လျှပ်စစ်အသွင်၊ ဘုံကြီးရှင်တို့၊ မပင်မပူ၊ စိန်နန်းပြူကာ၊ ပျူပျူငှာငှာ၊ လမင်းသာသို့၊ စန္ဒာနန၊ ဝင်းဝင်းပသား၊ မစရူချင်၊ ရွှေပါးပြင်ဝယ်၊ ဝက်ခြံမှဲ့မည်း၊ ချေသမ်းမည်းလျက်၊ မစွဲမကပ်၊ မစပ်ပြစ်ဆာ၊ ကင်းစင်ကွာ၏၊ မျက်နှာကြည်စိမ်း၊ မြမြရှိန်းတည့်၊ ငြိမ်းငြိမ်းအေးလျက်၊ ကုသိုလ်စက်ကြောင့်၊ မပျက်တစ်ရံ၊ စည်းစိမ်ခံ၍၊ မောင်နှံချစ်ကျူ၊ အသစ်ကြုံသို့၊ ဖော်စုံရွှင်မြူး၊ ချစ်ကြည်နူးလျက်၊ ယှဉ်ပူးမေတ္တာ၊ သက်ပမာဖြင့်၊ ချမ်းသာမကင်း၊ ချစ်ငွေ့သွင်း၍၊ ချစ်ခြင်းစိတ်တူ၊ ချစ်ကြည်ဖြူသည်၊ သည်းအူ အနစ် အနစ် တည်း'

ဟု မန်လည် ဆရာတော်ဘုရားကြီး မိန့်ဆိုထားသည့်အတိုင်း ကာမဂုဏ်စခန်း၌ အစွမ်းကုန် ပျော်မွေ့လျက် ရှိကြသည်။

ဘုရားရှင်ထံတော်မှောက်သို့ လာရောက်တရားနာပြီး နတ်ပြည်ပြန်သွားကာ နတ်စည်းစိမ်ခံစားနေသည့် သိကြားမင်းကြီးထံ တစ်ခဏချင်း အရှင်မဟာမောဂ္ဂလာန် မထေရ်မြတ် နောက်ကလိုက်၍ ဘုရားဟောလိုက်သည့်တရားကို မေးသည့်အခါ သိကြားမင်းကြီးမှာ မေ့သွားပြီး ဟောလိုက်သည့်တရား အမည်မျှကိုပင် ပြန်လည် မပြောပြနိုင်ပုံကို ရှေ့တွင် ဖော်ပြခဲ့ပြီး ဖြစ်သည်။

ဤမျှအထိ ကာမဂုဏ် ယစ်မူးနေကြသောကြောင့် နတ်ပြည်တွင် ကုသိုလ်ပြုရန် အခွင့်အလမ်းကို မမျှော်မှန်းနိုင်အောင် ရှိ၏။

ကမ္မဋ္ဌာန်းထိုင်ဖို့ကို မဆိုထားဘိ ဥပုသ်လုံခြုံဖို့ကို စောင့်ဖို့ရာပင် အလွန်ခဲယဉ်း၏။ နတ်သမီးများ ပွတ်သီးပွတ်သပ်ပြုချက်ကြောင့် သီလပျက်သည်သာ များ၏။

ဝိမာနဝတ္ထုအဋ္ဌကထာတော်ကြီးတွင် သိကြားမင်း လူ့ပြည်ဆင်း၍ ဥပုသ် စောင့်ရပုံနှင့် စမ္ပေယျနဂါးမင်းကြီး နဂါးပြည်တွင် မကြာမကြာ ဥပုသ် ကျိုးရပုံတို့ကား ဤ၌ အထောက်အထားများ ဖြစ်သည်။

ဤကဲ့သို့ နတ်တို့ပြည်တွင် ကာမဂုဏ်ပျော်ပါး လိုက်စားမှုတို့ များပြား၍ ကုသိုလ်ပြုခွင့် အလွန် နည်းပါးလှသောကြောင့် နတ်ပြည်မှ စုတေကြသည့်နတ်တို့မှာ နတ်ပြည်၊ လူ့ပြည် ဆိုသည့် သုဂတိဘုံများ၌ ဖြစ်ကြသူတို့ အလွန် နည်းပါး၍ ငရဲဘုံ၊ ပြိတ္တာဘုံနှင့် တိရစ္ဆာန်ဘုံမျိုးတို့၌ ဖြစ်ကြသူများသာ အလွန်များလှသည်ဟု ဟောကြားတော်မူထားသည်ကို အင်္ဂုတ္တိုရ်ပါဠိတော်၌ လေ့လာတွေ့ရှိရပေသည်။

## ကုသိုလ်ဖြစ်ရာအခွင့်အလမ်းများ

နတ်တို့ စုတေလျှင် လူ့ဘုံ၊ နတ်ဘုံတို့၌ အဖြစ်နည်းကြပုံကို ကြောင်းကျိုးဆက်၍ တင်ပြခဲ့ပြီးပေပြီ။

ဤအကြောင်းကို မဟာဝဂ္ဂသံယုတ်ပါဠိတော်၊ ဒေဝစုတိနိရယာဒိ သုတ်၊ ဒေဝမနုဿနိရယသုတ်တို့၌ –

"ရဟန်းတို့၊ နတ်တို့ စုတေကြလျှင် နတ်ဖြစ်ကုန်၊ လူဖြစ်ကုန်သူတို့ အလွန် နည်းကြ၏။ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာဘုံတို့၌ ဖြစ်သူတို့သာ များကြကုန်၏" ဟု ဗုဒ္ဓရှင်တော်ဘုရား ဟောကြားတော်မူခဲ့သည်။

အင်္ဂုတ္တိုရ်ပါဠိတော် ဧကကနိပါတ်၊ ဧကမ္မပါဠိတော်၌လည်း ဤအတိုင်းပင် ဟောကြားထားပေသည်။

ထိုဟောကြားတော်မူသည့်အတိုင်း လူ၊ နတ်တို့ ပြန်ဖြစ်ကြရ သည့် နတ်အနည်းစုတို့မှာ နတ်ပြည် မရောက်မီ (ဝါ) နတ်သား၊ နတ်သမီး မဖြစ်မီ လူဖြစ်စဉ်အခါက လျှော့ဒါန်းပေးကမ်းမှု ဒါနကုသိုလ်စုသာ မကဘဲ သီလတို့ကို လုံခြုံစွာ စောင့်ထိန်းမှု (သီလသိက္ခာ)၊ အနုဿတိတရား၊ ဗြဟ္မဝိဟာရတရား စသည်တို့ကို အနည်းဆုံး ဥပစာရသမာဓိ ရှိသည်အထိ ပွားများခြင်း (သမာဓိသိက္ခာ)၊ ဝိပဿနာဘာဝနာတရားကို အနည်းဆုံး ရုပ်ဥသောတာပန် အခြေအထိ ပွားများခြင်း (ပညာသိက္ခာ) တို့ ရှိခဲ့ကြသည့် ပါရမီဓာတ်ခံ အားသန်ခဲ့သူများ ဖြစ်ပေသည်။





ထိုသို့ လူ့ပြည်တွင် သူတော်ကောင်းဓာတ်ခံ အားသန်ခဲ့သူများသည် နတ်ပြည်သို့ ရောက်သွားသည့်အခါ နတ်ပြည်ရှိ ကာမဂုဏ်ငါးပါးတို့သည် ထိုပုဂ္ဂိုလ်များကို မဖမ်းစားနိုင်ကြပေ။

ကုသိုလ်တရား ဖြစ်ပွားရေးကိုသာ ရှေးရှုကြပြီး တစ်လ တစ်လ လျှင် ရှစ်ကြိမ်၊ ရှစ်ကြိမ် သုဓမ္မာနတ်သဘင်မှာ ဓမ္မကထိက ဗြဟ္မာမင်း၊ ဓမ္မကထိက နတ်မင်းနှင့် သိကြားမင်းတို့ ထာဝစဉ် ဟောပြောကြသည့် တရားတော်ကိုလည်း နာကြားနိုင်ကြသည်။

နတ်ပြည်ရှိ အရိယာနတ်သားတို့နှင့် ဆုံတွေ့ကြပြီး ထိုအရိယာ နတ်သားတို့ကို အမှီပြု၍ ကုသိုလ်တရားအမျိုးမျိုးတို့ ဖြစ်ပွားနိုင်ကြသည်။ ထိုသူတော်ကောင်း နတ်သား၊ နတ်သမီးတို့ စုတေလျှင် နတ်ပြည်၊ လူ့ပြည် တို့၌ နတ်၊ လူတို့ ပြန်ဖြစ်ကြခြင်း ဖြစ်သည်။

ထို့ကြောင့် လူ့ပြည်က ပါရမီဓာတ်ခံ ရင့်သန်သွားကြသူများအဖို့ နတ်ပြည်၌ ဖော်ပြခဲ့သည့်အတိုင်း ကုသိုလ်ဖြစ်ရာ အခွင့်အလမ်းများ များစွာ ရှိပေသည်။

## ကျမ်းဂန်တတ်ပုဂ္ဂိုလ်များအတွက် အားတက်ဖွယ်အချက်

ထို့ပြင် လူ့ပြည်တွင် မြတ်စွာဘုရား ဟောကြားတော်မူသည့် ပိဋကတ်ကျမ်းဂန်များကို သင်ယူခြင်း၊ နှုတ်တက်အာဂုံဆောင်ထားခြင်း၊ သရဇ္ဈာယ်ခြင်း၊ ပို့ချခြင်း၊ သင်ကြားပေးခြင်း စသည်တို့ကို အားထုတ် ပြုလုပ်သူ ပရိယတ္တိ ကျမ်းဂန်တတ် ပုဂ္ဂိုလ်များအဖို့လည်း နတ်ပြည်၌ ကုသိုလ်တရားဖြစ်ပွားရန်၊ အထူးသဖြင့် မဂ်ဖိုလ်ဟူသော တရားထူးကိုရရန် အခွင့်အလမ်း များစွာ ရှိပေသည်။

ဤအကြောင်းနှင့် ပတ်သက်၍ စတုက္ကအင်္ဂုတ္တိုရ်ပါဠိတော်၊ သောတာနုဂတသုတ်၌ မြတ်စွာဘုရား ဤသို့ ဟောကြားထားပေသည်။

"ရဟန်းတို့၊ ဤ ငါဘုရားသာသနာတော်၌ ရဟန်းသည် ငါဘုရား ဟောကြားထားသည့် တရားတော်တို့ကို သင်ယူ၏။ တရားတော်တို့သည် ရဟန်း၏နား၌စွဲနေ၏။ နှုတ်ဖြင့် ရွတ်အံသရဇ္ဈာယ်လေ့လာထား၏။ စိတ်ဖြင့် မှတ်ထား၏။ ပညာဖြင့် ကောင်းစွာ သဘောပေါက် ထိုးထွင်းသိထား၏။

ထိုပရိယတ္တိဝန်ဆောင် ရဟန်းသည် ပုထုဇဉ်အဖြစ်ဖြင့် ကွယ်လွန်၍ နတ်ဘုံ တစ်ဘုံဘုံ၌ ဖြစ်သောအခါ သူ လူ့ပြည်တုန်းက နားထဲ၌ စွဲနေသော၊ နှုတ်ဖြင့် သရဇ္ဈာယ် လေ့ထာထားသော၊ စိတ်ဖြင့် မှတ်ထားသော၊ ပညာဖြင့် ထိုးထွင်း သိထားခဲ့သော တရားတော်များ အားလုံးသည် ကြည်လင်သည့် မှန်သားပြင်တွင် အရိပ်ထင်လာသကဲ့သို့ အထင်အရှား စိတ်တွင် ပေါ်လာကြ၏။ ထိုတရားတို့ကို သတိရ အမှတ်ရလာ၏။

ရဟန်းတို့၊ သတိရခြင်းသည် နှေးသေး၏။ ထိုပုဂ္ဂိုလ်သည် အလျင်အမြန် မဂ်ဖိုလ်တရားထူးကို ရနိုင်၏။

ဤသည်မှာ သင်ယူလေ့လာ မှတ်သား သရဇ္ဈာယ်ထားသော တရားတော်တို့၏ မချွတ်ဧကန် ဖြစ်မည်ဟု မျှော်လင့်ရသော ပထမ အကျိုးဆက် ဖြစ်သည်။

ရဟန်းတို့၊ ထိုပရိယတ္တိဝန်ဆောင် ကျမ်းဂန်တတ် နတ်သားအား ထိုတရားတို့သည် အကယ်၍ စိတ်ထဲတွင် မပေါ်လာလျှင်လည်း တန်ခိုးရှင် ဓမ္မကထိက ရဟန်းတစ်ပါးပါးက နတ်ပြည်တက်ပြီး နတ်ပရိသတ်မှာ တရားဟောကြားသည့်အခါ -

'ဤရဟန်း ဟောသောတရားများသည် ငါ လူ့ပြည်တုန်းက ရခဲ့၊ ကျင့်ခဲ့ဖူးသည့် တရားတော်တွေပဲ'

ဟု ပြန်လည် သတိရလာ၏။

ရဟန်းတို့၊ သတိရခြင်းသည် နှေးသေး၏။ ထိုပုဂ္ဂိုလ်သည် အလျင်အမြန် မဂ်ဖိုလ် ဟူသော တရားထူးကို ရနိုင်၏။

ဤသည်မှာ သင်ယူလေ့လာ မှတ်သား သရဇ္ဈာယ်ထားသော တရားတော်တို့၏ မချွတ်ဧကန် ဖြစ်မည်ဟု မျှော်လင့်ရသော ဒုတိယ အကျိုးဆက် ဖြစ်သည်။

ရဟန်းတို့၊ ထိုပရိယတ္တိဝန်ဆောင် ကျမ်းဂန်တတ် နတ်သားအား ထိုတရားတို့သည် မိမိစိတ်ထဲ၌လည်း ပေါ်မလာကုန်၊ တန်ခိုးရှင် ဓမ္မကထိက ရဟန်းတစ်ပါးပါးကလည်း နတ်ပရိသတ်၌ တရားမဟော။

သို့သော် တရားဟောတတ်သည့် ဓမ္မကထိက နတ်သားတစ်ဦးဦးက နတ်ပရိသတ်၌ တရားဟော၏။





ထိုအခါ ထိုလူ့ပြည်က ကျမ်းဂန်တတ် နတ်သားသည် -

'ယခု ဤနတ်သားဟောသော တရားများသည် ငါ လူ့ပြည်တုန်းက ရခဲ့၊ ကျင့်ခဲ့ဖူးသည့် တရားတော်တွေပဲ'

ဟု ထို တရားတော်များကို ပြန်လည် သတိရ၏။

ရဟန်းတို့၊ သတိရခြင်းသည် နှေးသေး၏။ ထိုပုဂ္ဂိုလ်သည် အလျင်အမြန် မဂ်ဖိုလ်တရားထူးကို ရနိုင်၏။

ဤသည်မှာ သင်ယူလေ့လာ သရဇ္ဈာယ် မှတ်သားလာခဲ့သော တရားတော်တို့၏ မချွတ်ဧကန် ဖြစ်မည်ဟု မျှော်လင့်ရသော တတိယ အကျိုးဆက် ဖြစ်သည်။

ရဟန်းတို့၊ ပရိယတ္တိဝန်ဆောင် ကျမ်းဂန်တတ် နတ်သားအား ထိုတရားတို့သည် စိတ်ထဲ၌လည်း ဖြစ်ပေါ်မလာ၊ တန်ခိုးရှင် ဓမ္မကထိက ရဟန်းတစ်ပါးပါးကလည်း တရားမဟော၊ တရားဟောတတ်သည့် ဓမ္မကထိက နတ်သားတစ်ဦးဦးကလည်း နတ်ပရိသတ်၌ တရားမဟော။

သို့သော် ရှေးဦးစွာ ဖြစ်လာသော နတ်သားတစ်ဦးက နောက်မှ ဖြစ်လာသည့် ထိုနတ်သားကို -

'အို-မိတ်ဆွေနတ်သား၊ ရှေးဘဝက ငါတို့ သိခဲ့၊ ကျင့်ခဲ့ဖူးတဲ့ တရားတော်တွေကို သင် ပြန်အောက်မေ့ပါ'

ဟု သတိရလာအောင် ပြောကြား သတိပေး၏။

ထိုအခါ -

'အို-မိတ်ဆွေ၊ ကျွန်ုပ် အောက်မေ့ပါတယ်' ဟု ဆို၏။

ရဟန်းတို့၊ သတိရခြင်းသည် နှေးသေး၏။ ထိုပုဂ္ဂိုလ်သည် အလျင်အမြန် မဂ်ဖိုလ်တရားထူးကို ရနိုင်၏။

ဤသည်မှာ သင်ယူလေ့လာ သရဇ္ဈာယ် မှတ်သားလာခဲ့သော တရားတော်တို့၏ မချွတ်ဧကန် ဖြစ်မည်ဟု မျှော်လင့်ရသော စတုတ္ထ အကျိုးဆက် ဖြစ်သည်"

ဤသို့ လူ့ပြည်တွင် ပရိယတ္တိ စာပေကျမ်းဂန်များကို ကျွမ်းကျွမ်းကျင်ကျင် သင်ယူလေ့ကျက်ထားလျှင် ယခုဘဝ၌ မဂ်ဖိုလ်မရဘဲ ပုထုဇဉ် အဖြစ်ဖြင့်သာ ဘဝဇာတ်သိမ်းခဲ့သော်လည်း ဒုတိယနတ်ဘဝ၌ -

(၁) နတ်ဖြစ်ဖြစ်ချင်း သတိရကာ တရားထူးကို ရနိုင်ခြင်း၊
(၂) တန်ခိုးရှင် ဓမ္မကထိကရဟန်း နတ်ပြည်၌ဟောသော တရားကို ကြားနာရ၍ တရားထူးရနိုင်ခြင်း၊
(၃) ဓမ္မကထိက နတ်သားတစ်ဦးဦး၏ တရားကို နာကြားရ၍ တရားထူးရနိုင်ခြင်း၊
(၄) နတ်သားအချင်းချင်း သတိပေးမှုကြောင့် သတိရကာ တရားထူးကို ရနိုင်ခြင်း ဟူသော အကျိုးတရားလေးပါးအနက် တစ်ပါးပါးကို မချွတ်ဧကန် အမှန် ရနိုင်ပေသည်။

## လယ်တီဆရာတော်ဘုရားကြီး၏ ဩဝါဒကထာ

ယခု ဤဗုဒ္ဓကျမ်းလာ နတ်ဒေဝါများအကြောင်းကို ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ ဩဝါဒကထာဖြင့် နိဂုံးချုပ်ပါတော့မည်။

လယ်တီ ဆရာတော်ဘုရားကြီး၏ အာဟာရဒီပနီကျမ်းနိဂုံးတွင်–

ယခုအခါဝယ် နတ်ရွာ သုဂတိဘဝများသို့ လားကြရာ၌ အခွင့်သင့်မြတ်သည့်အကြောင်းကို ကောင်းစွာ ဆိုဦးအံ့။

မြတ်စွာဘုရား လက်ထက်တော်၌ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာ အရိယာ အဖြစ်သို့ရောက်၍ အကျွတ်ရကြကုန်သော အသင်္ချာ အသချေ မရေတွက်နိုင်အောင် များလှစွာသော သာဝတ္ထိပြည်သူ၊ ရာဇဂြိုဟ်ပြည်သူ စသော တိုင်းကြီးသော ဋမဇ္ဈိမတိုက်သား ဘုရားသားတော်၊ သမီးတော် အပေါင်းတို့တွင် ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန် စံဝင်သူတို့မှာ အနည်းငယ်သာ ရှိကြ၏။

သောတာပန်၊ သကဒါဂါမ်ဖြစ်၍ နတ်ပြည်သို့ သွားသောသူတို့မှာမူကား ယခုအခါ နတ်ပြည်ခြောက်ထပ်လုံး၌ အပြည့်ရှိကြ၏။ ထို့အတူ ဘုရားရှင် ပရိနိဗ္ဗာန် စံဝင်ပြီးနောက် မဇ္ဈိမသာသနာ အနှစ်သုံးရာခန့် အတွင်းမှာ အကျွတ်ရကြကုန်သော မရေမတွက်သာ များလှစွာသော ရာဇဂြိုဟ်၊ ဝေသာလီ၊ ပါဋလိပုတ်ပြည်သူ စသော မဇ္ဈိမတိုက်သား ဘုရားသားတော်၊ သမီးတော် အပေါင်း





တို့သည် လည်းကောင်း၊ သီဟိုဠ်(သီရိလင်္ကာ) ၌ သာသနာအနှစ် ခုနစ်ရာခန့် အတွင်းမှာ အကျွတ်ရကြကုန်သော မရေမတွက်သာ များလှစွာသော သီရိလင်္ကာ (သီဟိုဠ်) ကျွန်းသူ လူရှင်အများ ဘုရားသားတော်၊ သမီးတော်အပေါင်းတို့သည် လည်းကောင်း ယခုအခါ နတ်ပြည်ခြောက်ထပ်လုံး၌ အပြည့် ရှိကြကုန်၏။

သာသနာတော် ငါးထောင်အတွင်း၌ သာသနာတော်ကို ကြည်ညို လေးမြတ်၍ နတ်ရွာသို့ရောက်လာမည့် ရဟန်းရှင်လူ သူတော်ကောင်း အပေါင်းတို့ကို မျှော်လင့်စောင့်စား၍ နေနင့်ကြကုန်၏။

သာသနာတော်တွင်းတွင် စုတေ၍ နတ်ပြည်သို့ ရောက်လာကြကုန်သောသူ အပေါင်းတို့သည် ရောက်ရာနတ်ပြည်၌ ရှိနေနင့်ကြကုန်သော သာဝတ္ထိပြည်သူ၊ ရာဇာဂြိုဟ်ပြည်သူ စသော မဇ္ဈိမတိုင်းသူ ရှင်လူအများ ဘုရားသားတော်၊ သမီးတော် သောတာပန်၊ သကဒါဂါမ် နတ်သူတော်ကောင်းတို့နှင့် ဖာတ်ပေါင်းကြရကုန်လတ္တံ့။

ထိုအခါ မြတ်စွာဘုရား၏ ဘုန်းတန်ခိုးတော်၊ ကျက်သရေတော်တို့ကို အသက်ထက်ဆုံး ကိုယ်တွေ့မျက်မြင် ကြည်ညိုလေးမြတ် ဆည်းကပ် ကိုးကွယ်လာကြကုန်သော အရိယာသူမြတ် နတ်သူတော်ကောင်းတို့၏ တအုန်းအုန်းတညံညံ တစ်ရုံမဆိတ် ပြောဆိုကြသော ဘုရားဂုဏ်တော် ကျေးဇူးတော်၊ တရားဂုဏ်ကျေးဇူးတော်၊ အရှင်သာရိပုတ္တရာ စသော အရိယာသံဃာတော်မြတ်တို့၏ ဂုဏ်ကျေးဇူးတော်များကို နာကြားကြရသဖြင့် သက်တော်ထင်ရှား မြတ်စွာဘုရားကို ကိုယ်တိုင် တွေ့မြင်ကြရဘိသကဲ့သို့၊ တရားတော်ကို ကိုယ်တိုင် တွေ့မြင်ကြရဘိသကဲ့သို့ ဖြစ်ကြကုန်လတ္တံ့။

ထိုအခါ လူ့ရွာလူ့ဘဝက သီလသိက္ခာ ပညာ ဗဟုသုတနှင့် ပြည့်စုံကြကုန်သော ရှင်လူအပေါင်း သူတော်ကောင်းတို့သည် တစ်လျှောင် ရှစ်ကြိမ် သုမေဓာဇရပ် နတ်သဘင်အစည်းအဝေးမှာ

ဓမ္မကထိက ဗြဟ္မာမင်း၊ သိကြားမင်း၊ နတ်မင်းတို့သည် ထာဝစဉ် ဟောပြောကြသော တရား ဒေသနာကို နာကြားကြရကုန်သဖြင့် မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်ထုတ်ချောက် လင်းလင်းပေါက် လျက် ဘုံစဉ်စံ အရိယာ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် အဖြစ်သို့ ရောက်ကြကုန်လတ္တံ့။ ဘုံစဉ်စံ အရိယာ ဝိသာခါ၊ အနာထပိဏ်တို့အသင်းသို့ ပါဝင်ကြရကုန်လတ္တံ့။

နတ်ပြည်ခြောက်ထပ် နတ်တို့ရွာ၌မူကား နှစ်ပေါင်းတွက်ရေ ကုဋေမက ဘုရားသာသနာ အရိယာခေတ် တည်ထွန်းလျက် မဂ်တံခါး၊ ဖိုလ်တံခါး၊ နိဗ္ဗာန်တံခါး ပွင့်လျက်ပင် ရှိပေ၏။

ယခု ဘုရားသာသနာဝယ် လူအဖြစ်နှင့် ကျွတ်တမ်းမဝင်နိုင်သော သူတို့သည် နတ်ပြည်သို့ ရောက်ကြသည်ရှိသော် နတ်အဖြစ်နှင့် ကျွတ်တမ်းဝင်နိုင်ကုန်၏။

နတ်အဖြစ်နှင့် ကျွတ်တမ်းမဝင်နိုင်သော သူတို့သည် ဗြဟ္မာ ပြည်သို့ ရောက်ကြကုန်သည်ရှိသော် ဗြဟ္မာအဖြစ်နှင့် ကျွတ်တမ်း ဝင်နိုင်ကုန်၏။

ဗြဟ္မာပြည်၌မူကား နှစ်ပေါင်းတွက်ရေ အသင်္ချေမက ဘုရား သာသနာ အရိယာခေတ် တည်ထွန်းလျက် မဂ်တံခါး၊ ဖိုလ် တံခါး ပွင့်လျက် ရှိပေ၏ ဟူ၍ သောတာနုဂတသုတ် ဒေသနာ တော်မြတ်ပါဠိဝယ် အဓိပ္ပာယ်လာရှေသည်။

ထို့ကြောင့် တရားနာ ပရိသတ်အပေါင်း သူတော်ကောင်းတို့ သည် အပါယ်သို့ တစ်ကြိမ်ကျက တစ်ဘဝထက် တစ်ဘဝ ဒါနနှင့် ကွာဝေး၊ သီလနှင့် ကွာဝေး၊ ဘာဝနာနှင့် ကွာဝေးပြီးလျှင် အကုသိုလ် မကောင်းမှုဒုစရိုက် အညစ်အကြေး တစ်ဘဝထက် တစ်ဘဝ ဝန်လေး၍ နက်သည်ထက်နက်သော ငရဲဘဝပေါင်း အသင်္ချေ အဆင့်ဆင့် အသုတ်သုတ် မြုပ်သည်ထက် မြုပ်လေ၍ လူ့ပြည်နှင့် ဝေးသည်ထက်ဝေးသဖြင့် မေတ္တေယျ သုံးလူ့မင်း ဖြစ်ပွင့်သည့်အခင်းကို သတင်းမျှ မကြားရသော အပါယ်ဘေး နက်နဲသည့်အရေးကို မြော်တွေးကာ ထောက်ဆ အကြောက်ကြီး





ကြောက်ကြပါကုန်။

နောက်ဘဝအခါ၌ နတ်ရွာသို့ ရွှေ့ပြောင်း အရိယာ နတ်ကောင်း တို့နှင့် ဓာတ်ပေါင်း၍ တစ်ဖန်၊ ပြည်နိဗ္ဗာန်အမှူး နတ်ရွာက ကူးကြရအောင် ထူးမြတ်သည့်အခါဝယ် အာဇီဝဋ္ဌမက ကျင့် သိက္ခာ သီလနှင့် သုံးဝသော သရဏဂုံ ဘာဝနာသုံးစုံကို စိတ် အာရုံ ဖွဲ့တွယ်လျက် သုံးဆယ်နှင့် ခုနစ်ပါး ဗောဓိပက္ခိယတရား များကို နှုတ်ဖျားမှာ တတွတ်တွတ် တစ်သက်လုံး အံရွတ်၍ ဝဋ်ဒုက္ခ သံသရာက တစ်ခါတည်း ထပြီးလျှင် အမတဆိတ်ငြိမ် ဝိသုဒ္ဓိစံအိမ်သို့ တစ်ရှိန်တည်း ထုတ်ချောက် နတ်ရွာက ရောက် ကြရအောင် လုံ့လောက်စွာ တရားများကို ပွားများအားထုတ် ကြကုန်ရာသည်။ ·

ဤသည်မှာ ကျေးရူးရှင် လယ်တီ ဆရာတော်ဘုရားကြီး၏ နတ်ပြည်နှင့်ပတ်သက်၍ လမ်းညွှန်ထားသော ဩဝါဒကထာ ဖြစ်ပါသည်။

▢

# နိဂုံး

နိဂုံးချုပ်အားဖြင့် တင်ပြလိုသည်မှာ စာရေးသူသည် နတ်ပြည်ခြောက်ထပ်နှင့် ထို နတ်ပြည်ခြောက်ထပ်ရှိ နတ်များနှင့် ပတ်သက်သော အကြောင်းအရာများကို ဗုဒ္ဓကျမ်းဂန်များ၌ တွေ့ရှိသမျှ လက်လှမ်းမီသလောက် စုစည်း တင်ပြခဲ့ပြီးလေပြီ။

စာရှုသူများသည် နတ်တို့၏ ဆန်းကြယ်သောဖြစ်ရပ်များနှင့် နတ်တို့ဘုံ၌ ကာမဂုဏ်တရားများ များပြားကြီးကျယ်ပုံ၊ များပြား ကြီးကျယ်သည်နှင့်အမျှ ကာမဂုဏ်အာရုံ ရေလျှဉ်ကြော၌ နတ်တို့ မျောပါကာ နတ်စည်းစိမ်ကို စံစားနေကြပုံ၊ ထို့ကြောင့် နတ်တို့ စုတေလျှင် အပါယ်လေးဘုံသို့ အရောက်များကြပုံ၊ လူ့ပြည်မှ စာပေကျမ်းဂန် တတ်မြောက်မှု ပရိယတ္တိနှင့် သီလ၊ သမာဓိ၊ ပညာအကျင့်တို့ကို ကျင့်ကြံကြိုးကုတ် အားထုတ်မှု ပဋိပတ္တိအခံရှိမှသာ နတ်ပြည်၌ အလားအလာကောင်းပုံတို့ကို စုံလင်စွာ သိရှိပြီး ဖြစ်သည်။

ယင်းသို့ သိရှိထားသည့်အတိုင်း ဗုဒ္ဓဘာသာဝင် သူတော်စင်တို့သည် အမြဲလိုလို သာသနာရှိနေသော နတ်ပြည်သို့ ရောက်သည့်အခါ မဂ်ဖိုလ်တရားထူးကို ရနိုင်ရန် ပရိယတ္တိ၊ ပဋိပတ္တိတို့ကို ပြည့်စုံအောင် ကြိုးတင်၍ ဆည်းပူးအားထုတ်သင့်ကြပေသည်။

ဓမ္မာစရိယ ဦးအေးနိုင် (ဘီအေ)

❒





## ဓမ္မာစရိယ ဦးအေးနိုင် (ဘီအေ)

* ဆရာကြီး ဦးအေးနိုင်သည် ဧရာဝတီတိုင်း ပန်းတနော်မြို့နယ် ခနွဲကဘိုရွာ ကုန်သည်ကြီး ဦးဘဖေ၊ ဒေါ်သော်တို့မှ ၁၂၈၄ ခုနှစ်၊ ပြာသိုလဆန်း ၇ ရက် (၂၄၊ ၁၂၊ ၁၉၂၂) တနင်္ဂနွေနေ့တွင် ဖွားမြင်သော စတုတ္ထသားရတနာ ဖြစ်သည်။
* ၃ နှစ်သားအရွယ်တွင် မိမိ၏ အတိတ်ဘဝအကြောင်းကို ပြန်ပြောင်းပြောနိုင်သော လူဝင်စားတစ်ဦး ဖြစ်သည်။ သတ္တမတန်းအထိ ပညာသင်ယူပြီး ရှင်သာမဏေ ဝတ်ခဲ့သည်။ ထို့နောက် ရဟန်းပြုခဲ့သည်။
* သာသနာ့ဘောင်တွင် ရှင်သာမဏေအဖြစ် ၅ နှစ်၊ ရဟန်းအဖြစ် နှစ်ပေါင်း ၂၀ နေခဲ့သည်။ ထိုနေစဉ်အတွင်း 'သာသနဓဇသိရီပဝရ ဓမ္မာစရိယ(၁၃၁၁)၊ သာသနပါလဓမ္မာစရိယ (၁၃၀၉)၊ စေတိယင်္ဂဏ ပရိယတ္တိ ဓမ္မာစရိယ ဂဏဝါစက (ရွှေတံဆိပ်ရ အဋ္ဌကထာပြန် အကျော် ဝင့်သကာ၊ ၁၃၁၂ ခု) ဟူသော ဓမ္မာစရိယစာချဘွဲ့များကို ရရှိခဲ့၍ ရန်ကုန်တက္ကသိုလ်မှ ဥပစာတန်းကို အောင်မြင်ခဲ့သည်။
* ရိုးရိုးစာချအဖြစ် ၁၅ နှစ်။ ပါဠိတက္ကသိုလ် ကထိကစာချအဖြစ် ဓမ္မာစရိယတန်း စာသင်သားများကို ၇နှစ် စာပေကျမ်းဂန်များ ပို့ချခဲ့သည်။ ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး၌လည်း ဆဋ္ဌသံဂီတိပါဠိဝိသောဓက၊ ဆဋ္ဌသံဂီတိကာရကအဖြစ် ရွက်ဆောင်၍ သာသနာပြုခဲ့သည်။

* အသက် ၄၀ တွင် သာသနာ့ဘောင်၌ မနေနိုင်လောက်အောင် လေရောဂါစွဲကပ်မှုကြောင့် လူဝတ်လဲခဲ့ရသည်။

* ၁၉၆၅ ခုနှစ်တွင် ရန်ကုန် ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်မှ ဝိဇ္ဇာဘွဲ့ကို ရရှိခဲ့သည်။ အသက် ၄၂ နှစ်တွင် တောင်ငူမြို့သူ ဒေါ်အေးသိန်း (အထည်ကုန်သည်)နှင့် ထိမ်းမြားလက်ထပ်ခဲ့ရာ သားသမီး ၄ယောက် ထွန်းကားခဲ့သည်။ အစိုးရပညာရေးဌာနတွင် မူလတန်းပြဆရာ၊ အလယ်တန်းပြဆရာ၊ အထက်တန်းပြဆရာများအဖြစ် ၆ နှစ် အမှုထမ်းခဲ့သည်။

* ၁၉၇၀ ခုနှစ်တွင် ပညာရေးဌာနမှ သာသနာရေးဌာနသို့ ပြောင်းရွှေ့၍ သာသနာရေးဌာနတွင် စာတည်း အယ်ဒီတာ၊ ကျမ်းပြုဌာနမှူး၊ လက်ထောက်ညွှန်ကြားရေးမှူးအဖြစ် ၁၉၈၆ ခုနှစ်အထိ အမှုထမ်းခဲ့သည်။ အငြိမ်းစားယူပြီးနောက် ပိဋကတ်တော်(အင်္ဂလိပ်)ဘာသာပြန် စာပေဖြန့်ချိရေးအဖွဲ့ကြီးတွင် ဓမ္မရေးရာ စာတည်းပညာရှင်အဖြစ် ၃ နှစ် တာဝန်ထမ်းဆောင်ခဲ့သည်။

* ထို့နောက် ၁၉၉၃ ခုနှစ်မှ ၁၉၉၆ ခုနှစ်အထိ သာသနာရေးဝန်ကြီး ဌာနတွင် အကြံပေးပုဂ္ဂိုလ်အဖြစ် အမှုထမ်းခဲ့သည်။

* ၁၉၅၆ ခုနှစ်တွင် စာပေဗိမာန်မှ အနာကင်းခြင်း၊ စောင့်ခြင်းသီလ စသော ကြီးပွားကြောင်း ၆ ပါးကို တစ်ပါးလျှင် ဆောင်းပါးတစ်စောင် ကျစီ ရေးသားယှဉ်ပြိုင်နိုင်ကြောင်း ကြေညာရာ၌ အနာကင်းခြင်း အကြောင်းအရာတစ်ခုနှင့်သာ ပတ်သက်၍ စာလုံးရေကန့်သတ်ချက် အတိုင်း ဆောင်းပါးရှည်ကြီးတစ်စောင် ရေးသား ယှဉ်ပြိုင်ခဲ့ရာ တစ်နိုင်ငံလုံးတွင် ဒုတိယဆု ရရှိခဲ့သည်။ ပထမဆုရသူ လုံးဝ မရှိ။ ထိုဆောင်းပါးမှစ၍ စာပေနယ်သို့ ဝင်ရောက်ခဲ့ရာ ယခုအချိန်အထိ စာနယ်ဇင်းများတွင် ဆောင်းပါးများ ရေးသားလျက်ရှိသည်။

* ကျမ်းစာအုပ်များ၊ မြန်မာ့ယဉ်ကျေးမှု စာအုပ်များကိုလည်း ရေးသား ထုတ်ဝေခဲ့ရာ ၉ အုပ်ရှိသွားပြီ ဖြစ်သည်။





* သာသနာ့ရောင်ခြည် အယ်ဒီတာချုပ်၊ မြတ်ဆုမွန်မဂ္ဂဇင်း အယ်ဒီတာချုပ် အဖြစ် စာပေတာဝန်များကိုလည်း ထမ်းဆောင်ခဲ့သည်။

* မြတ်ဆုမွန်မဂ္ဂဇင်းထွက်ချိန်မှစ၍ ဘာသာရေး အမေးအဖြေကဏ္ဍကို တာဝန်ယူကာ တစ်နိုင်ငံလုံးမှ မေးသမျှတို့ကို ထေရဝါဒပိဋက ကျမ်းဂန်နှင့်အညီ နှစ်ပေါင်းအတန်ကြာဖြေဆိုကာ ဓမ္မဒါနပြုခဲ့သည်။

* သာသနာပြုစိတ်ဓာတ် အပြည့်အဝဖြင့် ဝိုင်အမ်ဘီအေ အသင်းကြီး၌ မင်္ဂလာသင်တန်းကို နှစ်ပေါင်း ၃၀၊ အဘိဓမ္မာသင်တန်းကို ၁၅ နှစ် ပို့ချသင်ကြားပေးခဲ့သည်။

* ပါဠိပိဋကစာပေပညာရှင်အဖြစ် စေတိယင်္ဂဏအသင်းကြီး၌ ၂၇ နှစ်၊ ပဲခူး ဝိနယာဓိက ပရိယတ္တိအသင်းကြီးတွင် ၂၂ နှစ်၊ မင်္ဂလာဗျူဟာ သာမဏေကျော် စာမေးပွဲကြီး၌ ၅ နှစ် ဆောင်ရွက် သာသနာပြုခဲ့ သည်။ ဤသို့ သာသနာပြုခဲ့သောကြောင့် ၁၉၉၄ ခုနှစ်တွင် ဆရာကြီးအား မဟာသဒ္ဓမ္မဇောတိကဓဇ ဟူသော သာသနာပြု ဘွဲ့တံဆိပ်ကို နိုင်ငံတော်အစိုးရက ချီးမြှင့်အပ်နှင်းခဲ့သည်။

* ဝိုင်အမ်ဘီအေအသင်း၊ မင်္ဂလာဗျူဟာအသင်း၊ ညောင်တုန်းမြို့နယ် အသင်းနှင့် မင်္ဂလာဗျူဟာ သာမဏေကျော် စာတော်ပြန်ပွဲအဖွဲ့တို့၏ နာယက်ကြီးဖြစ်သော ဆရာကြီးဦးအေးနိုင်သည် သာသနာရေးဝန်ကြီး ဌာနလက်အောက်ရှိ ပိဋကတ်တော်(အင်္ဂလိပ်)ဘာသာပြန် စာတည်း အဖွဲ့တွင် ဓမ္မရေးရာစာတည်း ပညာရှင်အဖြစ် ၁၉၉၆ ခုနှစ်မှစ၍ တာဝန်ထမ်းဆောင်ကာ သာသနာပြုခဲ့ပါသည်။

* ဘာသာ သာသနာအကျိုး သယ်ပိုးထမ်းဆောင်ရင်း ၂၀၀၉ ခုနှစ်၊ ဧပြီလ ၂၃ ရက်နေ့တွင် ကွယ်လွန်သည်။

"ဗုဒ္ဓဘာသာမှာ နတ်၊ ပြိတ္တာဆိုတာ
တကယ်ရှိပါသလား။
နတ်ပြိတ္တာတွေကို မြင်ဖူးသူ
တစ်ဦးတစ်ယောက်မျှ မရှိလို့
နတ်ပြိတ္တာ ရှိတယ်ဆိုတာကို
ဘယ်လိုယုံရမှာလဲ" စသည့်
မေးခွန်းများ အတွက်
ပြည့်ပြည့်စုံစုံ
ရှင်းလင်းဖော်ပြထားသော
စာအုပ်...။

